# နိဗ္ဗာန်အယူအဆကို
# ထေရဝါဒရှုထောင့်မှ လေ့လာသုံးသပ်ခြင်း

ဆရာတော် ဦးဓမ္မပိယ Ph.D.

# NIBBĀNA IN THERAVĀDA PERSPECTIVE

by

Sayadaw U Dhammapia, Ph.D.

အရှင်ကေလာသ (နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်) မြန်မာပြန်သည်

## အတွင်းဖုံးထေရုပ္ပတ္တိ

ဒေါက်တာ ဓမ္မပိယဆရာတော်သည် မြန်မာနိုင်ငံ၌ ဖွားမြင်သည်။ အသက်ကိုးနှစ်တွင် သာမဏေပြုပြီး နှစ်ဆယ်အရွယ်၌ ထေရဝါဒရဟန်းတော် ဖြစ်လာသည်။ ၁၉၈၀ ပြည့်နှစ်တွင် ပါဠိကျမ်းဂန်များ (တတ်မြောက်ခြင်း)ဖြင့် သာသနဓဇဓမ္မာစရိယဘွဲ့ရရှိခဲ့သည်။ ထိုနှစ်တွင်ပင် ရန်ကုန်မြို့၊ မဟာစည်သာသနာ့ရိပ်သာ၌ ဝိပဿနာကမ္မဋ္ဌာန်းတရား အားထုတ်ခဲ့သည်။

၁၉၈၂ တွင် မဟာစည်သာသနာ့ရိပ်၌ အမြဲသီတင်းသုံးရဟန်းတော် ဖြစ်လာသည်။ ဤရိပ်သာ၌ သီတင်းသုံးစဉ် ရဟန်း သာမဏေ သီလရှင် ယောဂီများအား ဝိပဿနာကမ္မဋ္ဌာန်းကို သင်ကြားပေးပြီး မြန်မာနိုင်ငံ မြို့နယ်အများအပြား၌ တရားစခန်းများကို ဦးစီးဖွင့်လှစ်ပေးခဲ့သည်။

၁၉၈၆ တွင် မလေးရှားနိုင်ငံ၊ ပီနန်မြို့၊ မလေးရှားဗုဒ္ဓဘာသာတရားရိပ်သာ (MBMC) ၌ သီတင်းသုံးနေထိုင်ရန် ဆရာတော်ဦးပဏ္ဍိတာဘိဝံသ (ပဏ္ဍိတာရာမဆရာတော်) ၏ တာဝန်ပေးအပ်ခြင်းခံရသည်။ ပီနန်တွင်သီတင်းသုံးစဉ် ဒေသခံနှင့်ပြည်ပယောဂီများအား တရားပြပြီး ဆရာတော် ဦးပဏ္ဍိတာ-ဘိဝံသ၏ဓမ္မခရီးတွင် စင်္ကာပူ၊ ထိုင်း၊ နီပေါ၊ ယူကေ၊ ဂျာမနီ၊ ဩစတြေလျ၊ ကနေဒါနှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံများသို့ လိုက်ပါခဲ့သည်။

၁၉၉၂ တွင် အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်၊ ဆန်ဟိုဆေး (San Jose) မြို့၊ တထာဂတတရားရိပ်သာ ကျောင်းထိုင်ဆရာတော်အဖြစ် ပင့်ဖိတ်ခြင်းခံရပြီး ဝိပဿနာကမ္မဋ္ဌာန်းရှုမှတ်နည်းကို ညွှန်ကြားပြသသည်။ နွေရာသီကျောင်းပိတ်ရက်များ၌ လူငယ်များအား ဗုဒ္ဓဘာသာ ယဉ်ကျေးမှုအခြေခံများကို သင်ကြားပေးသည်။

ဤတရားရိပ်သာ၌ သီတင်းသုံးစဉ် ၁၉၉၇ တွင် ဘီအေ (ဘာသာတရားများ နှိုင်းယှဉ်လေ့လာမှု) ဘွဲ့နှင့် ၁၉၉၈ တွင် ဆန်ဟိုဆေးစတိတ်ယူနီဗာစီတီမှ အမ်အေ (ဒဿနိကဗေဒ) ဘွဲ့တို့ကို ရရှိခဲ့သည်။

၁၉၉၉ တွင် ဆရာတော်သည် ကာလီဖိုးနီးယားပြည်နယ်၊ ဖရီးမောင့် (Fremont) မြို့၌ မေတ္တာနန္ဒဝိဟာရဓမ္မရိပ်သာအမည်ရှိ ကမ္မဋ္ဌာန်းဌာနအသစ်တစ်ခု တည်ထောင်ခဲ့သည်။ ယောဂီအသစ်များနှင့် တရားအားထုတ်ပြီးယောဂီများအား ဝိပဿနာကမ္မဋ္ဌာန်းကို ဆက်လက်သင်ကြားပေးပြီး လူငယ်များအား ဗုဒ္ဓဘာသာအခြေခံသင်တန်းများ ဖွင့်လှစ်ပို့ချပေးသည်။ ဆရာတော်၏ ရန်ကုန်မြို့ ငါးကျမ်းပြန်သာသနာ့ရိပ်သာ၌လည်း ယင်းလူငယ်သင်တန်းနည်းအတိုင်းပင် ပို့ချပေးသည်။ သာသနာပြုလုပ်ငန်းများကို အားသွန်ကြိုးပမ်းနေရင်းကပင် ဆရာတော်သည် ၂၀၀၃ ခုနှစ်တွင် ဆန်ဖရန်စစ္စကိုမြို့၊ ကာလီဖိုးနီးယားသိပ္ပံကျောင်း (California Institute) မှ ဒေါက်တာဘွဲ့ကို ပြီးမြောက်အောင်မြင်ခဲ့သည်။

ဆရာတော်၏ ကိုယ်ကျိုးစွန့်ဆောင်ရွက်မှုကြောင့် အမေရိကန်ပြည်ထောင်စု၊ မြန်မာနှင့် အခြားသောနိုင်ငံများမှ တရားအားထုတ်သူများစွာတို့ တရားဓမ္မအနှစ်သာရကို ခံစားနိုင်ကြသည်။

## နောက်ကျောဖုံး

'. . ကျမ်းပြုသူသည် စာဖတ်သူအား မိမိနှင့်အတူ အလွယ်တကူ ခေါ်ဆောင်သွားနိုင်ရန် ရှင်းလင်းပြီး ဘဝင်ကျလောက်အောင် ရေးသားထားသည် . . ' (ဆရာတော် ဦးသီလာနန္ဒ၏ အမှာစာမှ)

ဤလေ့လာချက်သည် ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်များ၏ နိဗ္ဗာန်အဓိပ္ပာယ်ကောက်ယူပုံများကို ဝေဖန်ဆန်းစစ်ရန် ကြိုးပမ်းမှုဖြစ်သည်။ ဗုဒ္ဓဝါဒီပညာရှင်တို့၏ ကျမ်းစာများမှာ စာတွေ့နှင့် လက်တွေ့လည်းဖြစ်နိုင်ဖွယ်ရှိသော လေ့လာသိရှိမှုမှတစ်ဆင့် ပါဠိတော်ကျမ်းဂန်များကို အခြေခံသည်ဟု ယူဆနိုင်သည်။ ဗုဒ္ဓဝါဒီမဟုတ်သူများ၏ ကျမ်းစာများမှာမူ ၎င်းတို့၏အယူဝါဒရေးရာ ရှုမြင်မှုနှင့် ဒဿနဆိုင်ရာ ချဉ်းကပ်နည်းဖြင့် နိဗ္ဗာန်အကြောင်းကိုလေ့လာ၍ နားလည်သိရှိမှုအပေါ်တွင် များစွာ အခြေခံနိုင် ဖွယ်ရှိသည်။

သို့ဖြစ်၍ ဖော်ပြပါပုဂ္ဂိုလ်များ၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုများ၌ အကောင်းမြင်နှင့် အဆိုးမြင်ဖော်ပြချက်များ ပါဝင်ပတ်သက်နေသည်။ သို့တစေ ဤလေ့လာချက်သည် ယင်း ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်တို့၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုများကို မှားသည်ဟုဖြစ်စေ မှန်သည်ဟုဖြစ်စေ ဖော်ပြရန် မကြိုးပမ်းချေ။ တစ်ဖန်လည်း ပါဠိကျမ်းဂန်များမှာ များပြားလှသည့်ပြင် ဗုဒ္ဓဝါဒစာပေရင်းမြစ်များ ပေါများကြွယ်ဝလှသဖြင့် ဤလေ့လာချက်၌ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ ကျမ်းစာအားလုံး ပြည့်ပြည့်စုံစုံ ပါဝင်နိုင်ခြင်းမရှိပါ။

**စာအမြုတေ**

ဤဘွဲ့ယူကျမ်းစာသည် ပါဠိတော်ကျမ်းဂန်များမှ နိဗ္ဗာန်ယူဆချက်ကို ခွဲခြမ်းစိတ်ဖြာ၍ ဝေဖန်ဆန်းစစ်သော လေ့လာမှုဖြစ်သည်။ ပါဠိတော်လာနည်းလမ်းများနှင့် နည်းမှန်ကျ ထေရဝါဒဗုဒ္ဓဘာသာ ကမ္မဋ္ဌာန်းရှုမှတ်မှုမှတစ်ဆင့် ရရှိလာသည့် ကမ္မဋ္ဌာန်းအတွေ့အကြုံ တိုးတက်မှုဖြစ်စဉ်တို့ကို စူးစမ်းထားသည်။ ဤကျမ်း၏ အဓိကရည်ရွယ်ချက်မှာ ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်များ ဖော်ပြဆန်းစစ်ခဲ့သော နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်များကို ရှင်းပြရန်နှင့် လွတ်မြောက်မှု (ဝိမုတ္တိ) လမ်းစဉ်အပေါ် ၎င်းတို့၏ရှုမြင်ပုံများကို သုံးသပ်ရန်ဖြစ်သည်။ ပါဠိတော်ကျမ်းဂန်များ၌ မကြာခဏ တွေ့ရသည့် စနစ်တကျ နိဗ္ဗာန်အဓိပ္ပာယ် ကောက်ယူမှုများ ရှိလင့်ကစား နိဗ္ဗာန်၏ တိကျ (လက်တွေ့ဖော်ပြနိုင်)သော အဓိပ္ပာယ်ကို ဗုဒ္ဓဝါဒ၌ ဖော်ပြထားခြင်း မရှိချေ။

ဤကျမ်းစာအတွက် ကိုးကားဖော်ပြမည့် ရင်းမြစ်ကျမ်းများမှာ ထေရဝါဒ ပိဋကတ်သုံးပုံ၊ ယင်း၏အဖွင့် အဋ္ဌကထာနှင့် ဋီကာကျမ်းများနှင့် အဓိကသက်ဆိုင်သည်။ နိဗ္ဗာန်အဓိပ္ပာယ်ကို ရှင်းပြရန် ဤလေ့လာမှု၌ ပါဠိတော်ကျမ်းဂန်ဆိုင်ရာ အဓိပ္ပာယ်ကောက်ယူမှုများ၊ ကမ္မဋ္ဌာန်းရှုမှတ်မှု နည်းလမ်းများ၊ ဗုဒ္ဓဝါဒဆိုင်ရာ ကမ္မဋ္ဌာန်းအာရုံမှတစ်ဆင့် တွေ့ကြုံသိရှိမှုများ၊ ဒဿနနည်းလမ်းများနှင့် စိတ်ပညာဆိုင်ရာ ခွဲခြမ်းစိတ်ဖြာမှုများ လိုအပ်သည်။ နိဗ္ဗာန်ကိုရှာဖွေခြင်း၌ တွေးခေါ်အဆိုပြုမှုဆိုင်ရာနိဗ္ဗာန်နှင့် လက်တွေ့နိဗ္ဗာန်ဟု ပင်မရှုထောင့်နှစ်ရပ် ပါရှိမည်ဖြစ်သည်။ အဆိုပြုနိဗ္ဗာန်သည် ရှင်းလင်းဖော်ပြမှုအခြေခံမှ ဆင်းသက်ပြီး လက်တွေ့နိဗ္ဗာန်ကို တွေ့ကြုံထိုးထွင်းသိမြင်မှုဖြင့် ဆုံးဖြတ်သည်။ ဤကျမ်း၌ ကမ္မဋ္ဌာန်းရှုမှတ်ပုံနည်းလမ်းနှင့် ဝိပဿနာပညာ စနစ်တကျတိုးတက်မှုတို့ကို ဖော်ပြထားသည်။ ကျမ်းပြုသူသည် လက်တွေ့ ကမ္မဋ္ဌာန်းရှုမှတ်သည့်နည်းလမ်းများကို အသုံးပြုခြင်းမှာ ဝိပဿနာပညာနှင့် လောကုတ္တရာမဂ်အားဖြင့် ပိုမိုထက်မြက်သည့် ထိုးထွင်းသိမြင်မှုအဆင့်ကို ရရှိနိုင်ကြောင်း ပြဆိုသည်။ တစ်ဖန်လည်း ကျမ်းပြုသူသည် အဆိုပြုမှု (သီအိုရီ) များကိုသာ လေ့လာခြင်းမှာ နိဗ္ဗာန်ကို လုံးဝထိုးထွင်းသိမြင်ရန် မလုံလောက်ကြောင်း တိုက်တွန်းထားသည်။ သတိပဋ္ဌာန်ကမ္မဋ္ဌာန်း လက်တွေ့အားထုတ်မှုမှာ နိဗ္ဗာန်ကို ထိုးထွင်းသိမြင်ရန် မပါမပြီး လိုအပ်သည်။

**ဆရာတော် ဦးသီလာနန္ဒ၏ မိတ်ဆက်စကား**

ဦးဓမ္မပိယသည် ဗုဒ္ဓဝါဒတွင် ခက်ခဲသောအရာဖြစ်သည့် နိဗ္ဗာန်အကြောင်း (သုတေသနပြုချက်)ကို စွမ်းစွမ်းတမံ ဆောင်ရွက်လိုက်ပြီဖြစ်သည်။ ကျမ်းပြုသူသည် စာဖတ်သူအား မိမိနှင့်အတူ အလွယ်တကူ ခေါ်ဆောင်သွားနိုင်ရန် ရှင်းလင်းပြီး ဘဝင်ကျလောက်အောင် ရေးသားထားသည်။ နိဒါန်းစကားဆိုပြီးနောက် အရှေ့အနောက်မှ ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူများ၏ နိဗ္ဗာန်အယူအဆကို ရှုထောင့်မျိုးစုံမှ ဖော်ပြသည်။ ထို့ပြင် အင်္ဂလိပ်ဘာသာဖြင့်မရနိုင်သည့် ရွှေကျင်ဆရာတော်၊ လယ်တီဆရာတော်၊ တောင်ပုလုဆရာတော်၊ မဟာစည်ဆရာတော်၊ ဆရာတော် ဦးသေဋ္ဌိလနှင့် ဖားအောက်ဆရာတော်ကဲ့သို့သော မြန်မာဆရာတော်များကိုလည်း ကိုးကားဖော်ပြသည်။ အမှန်ပင် နိဗ္ဗာန်ဟူသည်ကို ဗုဒ္ဓဘုရားရှင်များ၊ ပစ္စေကဗုဒ္ဓါများနှင့် ဗောဓိဉာဏ်ကိုရရှိပြီးဖြစ်သည့် ဗုဒ္ဓ၏တပည့်သာဝကများသာ နားလည်နိုင်သည်။ သဘာဝဥပမာတစ်ခုဆိုရမူ နိဗ္ဗာန်ဟူသည် ငရုပ်သီးနှင့် ပမာတူ၏။ ငရုပ်သီးကို မစားလျှင် သို့ဟုတ် စားသည့်အချိန်မတိုင်မီအထိ ယင်း၏အရသာကို မသိနိုင်ပေ။ ထိုအတူပင် နိဗ္ဗာန်ဟူသည်ကို လက်တွေ့ခံစားဖူးမှသာလျှင် ပြည့်စုံစွာ နားလည်နိုင်သည်။ သို့ဖြစ်၍ နောက်ဆုံးအခန်း၌ ကျမ်းပြုသူက စာဖတ်သူအား ဝိပဿနာကမ္မဋ္ဌာန်း အားထုတ်မှုမှတစ်ဆင့် နိဗ္ဗာန်သို့ ခေါ်ဆောင်သွားခြင်းဖြစ်သည်။ ကျမ်းပြုသူသည် နိဗ္ဗာန်ကိုသိမြင်နိုင်သည့် နည်းလမ်းကိုဖော်ပြရန် ထေရဝါဒကျမ်းဂန်များကို တိုက်ရိုက် ကိုးကားဖော်ပြသည်။ ကိုယ်တိုင်တွေ့ကြုံမှုဖြင့် ထိုးထွင်း၍သိမြင်မှသာလျှင် နိဗ္ဗာန်ကိုနားလည်လိမ့်မည်ဖြစ်သည်။

ဦးဓမ္မပိယအား ဤကဲ့သို့ လိုရင်းတိုရှင်းနည်းဖြင့် နိဗ္ဗာန်အကြောင်း ဖော်ပြခြင်းအတွက် ဂုဏ်ပြုအားပေးသင့်သည်။ နိဗ္ဗာန်အကြောင်းကို နားလည်လိုသူများအနေဖြင့် ဤကျမ်းစာကို ဖတ်ရှု၍ အကျိုးများစွာ ဖြစ်နိုင်သည်ဟု ဘုန်းကြီး မျှော်လင့်ပါသည်။

ဦးသီလာနန္ဒ
ပါမောက္ခချုပ်
အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြု တက္ကသိုလ်
ဓမ္မပါလကုန်းမြေ၊ မရမ်းကုန်းစာတိုက်၊ ရန်ကုန်မြို့။
၂၀၀၄ ခုနှစ်၊ ဇန်နဝါရီ ၁၄ ရက်။

**ဘာသာပြန်သူ၏ သဘောထား**

ဤကျမ်းစာကို မြန်မာပြန်ပြီးသောအခါ ကျေနပ်နှစ်သက်ခြင်း အားရဝမ်းသာခြင်းတို့ကို ခံစားရသည်။ အကြောင်းမူ ကျမ်းပြုဆရာတော်သည် လေးနက်ခက်ခဲသည့် အကြောင်းအရာတစ်ရပ်ကို စာဖတ်သူကျေနပ်လောက်သည့် အခြေအနေသို့ ရောက်အောင် ရှုထောင့်စုံချဉ်းကပ်၍ ဖွင့်ဆိုရှင်းပြနိုင်သောကြောင့်ဖြစ်သည်။ နိဗ္ဗာန်အယူအဆကို ပြဆိုရာ၌ နာဂရဇ္ဇုန၊ အသင်္ဂနှင့် ဝသုဗန္ဓုကဲ့သို့သော ထင်ရှားလှသည့် ရှေးခေတ် မဟာယာနဗုဒ္ဓဝါဒီ ပညာကျော်များနှင့် လာဗောလီပူရှင် (La Vallee Poussin)၊ စတီဗင်ကောလင်းစ် (Steven Collins) နှင့် မာက်စ် မူလာ (Max Muller) စသော အရှေ့အနောက်မှ ခေတ်သစ် ဗုဒ္ဓဝါဒီနှင့်ဗုဒ္ဓဝါဒီမဟုတ်သူများ၏ အယူအဆများပါဝင်သည်။ နိဗ္ဗာန်ဝေါဟာရကို ခွဲခြမ်းစိတ်ဖြာရာ၌ ထေရဝါဒ ပါဠိတော်များနှင့် အဋ္ဌကထာကျမ်းများမှ ကောက်နုတ်ချက်များကို ခေတ်မီ ထူးခြားသည့်ဟန်ဖြင့် တွေးမြင်ထားသည်။

ဤကျမ်း၌ ထေရဝါဒဗုဒ္ဓဘာသာ အခြေခံယုံကြည်ချက်အားလုံးဖြင့် ချဉ်းကပ်၍ နိဗ္ဗာန်အဓိပ္ပာယ်ကို နားလည်အောင် ဖွင့်ဆိုသည်။ တစ်နည်းအားဖြင့် ဤကျမ်းသည် နိဗ္ဗာန်အကြောင်းသုတေသနပြုချက် ဖြစ်သော်လည်း ဗုဒ္ဓဝါဒအခြေခံယုံကြည်ချက်အားလုံးကို ဤကျမ်း၌တွေ့ရသည်။ ဗုဒ္ဓဝါဒီတို့သည် တမလွန်ဘဝနှင့် မွေးသေသံသရာကို ယုံကြည်ကြသည်။ ယင်းနှင့်စပ်၍ ကံလေးမျိုး၊ လားရာဂတိငါးမျိုးနှင့် သေခါနီးနိမိတ်ထင်မှုတို့ကို ခေတ်သစ်သုတေသီတို့၏အဆိုနှင့် ယှဉ်ပြသည်။ ဗုဒ္ဓဝါဒအရ ဤဘဝနောက်တွင် သတ္တဝါတစ်ယောက်အနေဖြင့် နေထိုင်ရန် နေရာဌာနသုံးဆယ့်တစ်မျိုးရှိသည်။ ဤတွင် ထိုထိုဘုံဌာနတို့၌ ဖြစ်နိုင်သောပုဂ္ဂိုလ်အမျိုးမျိုး (ဘုံပုဂ္ဂိုလ်ရ)၊ ငရဲကြီးရှစ်ထပ်ဆင်းရဲပုံအပါအဝင် သုံးဆယ့်တစ်ဘုံအကြောင်းနှင့် ကမ္ဘာလောကစတင်ပုံနှင့်ဆိုင်သော ဗုဒ္ဓဝါဒကျမ်းဂန်အဆိုကို ခေတ်သစ်သိပ္ပံဆရာတို့၏အယူအဆ အထူးသဖြင့် မဟာပေါက်ကွဲမှု (Big Bang) သီအိုရီနှင့် ညှိပြပုံမှာ စိတ်ဝင်စားဖွယ် ကောင်းသည်။ နိဗ္ဗာန်ဟူသည် ထိုဘုံဌာန သုံးဆယ့်တစ်မျိုးမှ လွတ်မြောက်သောတရားထူး ဖြစ်ကြောင်းကို ဖော်ပြလိုခြင်းဖြစ်သည်။

မိမိတို့၏အပြုအမူကိုအခြေခံ၍ ထိုထိုဘုံဌာန ကောင်းဆိုးမဟူတို့၌ ထပ်ခါထပ်ခါ ဖြစ်ရခြင်းမှာ ဆင်းရဲသည်။ ဆင်းရဲလျက် ယင်းသို့ဖြစ်နေရခြင်းကား အဝိဇ္ဇာ(မသိခြင်း) တဏှာ(တပ်မက်ခြင်း) အကြောင်းနှစ်ရပ်ကြောင့်တည်း။ ယင်းသို့ ပဋိစ္စသမုပ္ပါဒ်နည်းဖြင့် အကြောင်းကြောင့်ဖြစ်ရသော အကျိုးတရားစက်ဝန်းလည်ပုံကို ရှင်းပြသည်။ အကြောင်းတရား ချုပ်သော် ယင်းစက်ဝန်း ရပ်စဲလိမ့်မည်။ ယင်းကြောင်းကျိုးဖြစ်စဉ် ရပ်စဲခြင်းကား ဒုက္ခငြိမ်းရာ နိဗ္ဗာန်ပင်တည်း။ ယင်း နိဗ္ဗာန်ဟူသည်ကို နာမ်တရားမျှသာရှိသည့် အရူပဘုံမှ အနာဂါမ်၊ ရဟန္တာပုဂ္ဂိုလ်တို့ နိရောဓသမာပတ် ဝင်စားခိုက်နှင့်တူကြောင်း ကျမ်းဂန်မှ ထုတ်၍ ဖော်ပြသည်။ နိရောဓသမာပတ်အခိုက်တွင် နာမ်တရားနှင့် ထွက်လေဝင်လေ (ရှိုက်လျှင်)တို့ ချုပ်သည်။

နိဗ္ဗာန်ဟူသော မဖောက်မပြန်မှန်ကန်သည့် တရားထူးသည် လောကီနယ်ကိုလွန်၍ လောကုတ္တရာပိုင်နက်အတွင်း၌သာ တည်ရှိသည်။ ထို့ကြောင့် လေကီနယ်၌သာရှိသေးသူများသည် ကြံစည်မှန်းဆခြင်း စဉ်းစားတွေးတောခြင်းတို့ဖြင့် နိဗ္ဗာန်ကို သဘောမပေါက်နိုင်ဘဲ လောကုတ္တရာနယ်အတွင်းသို့ ဝင်ရောက်နိုင်သူများသာ နိဗ္ဗာန်ကို သိမြင်နိုင်ပေလိမ့်မည်။ လောကုတ္တရာနယ်သို့ ရောက်ရန်ကား ဝိသနာကမ္မဋ္ဌာန်းကို လက်တွေ့အားထုတ်ရမည်။ ယင်းသို့အားထုတ်ရာ၌ ကျမ်းပြုပုဂ္ဂိုလ်ကိုယ်တိုင်က ကမ္မဋ္ဌာန်းနည်းပြဖြစ်သည့်အတိုင်း မဂ္ဂင်းရှစ်ပါးပွားများပုံ ဝိသုဒ္ဓိခုနစ်ပါးဖြင့် စိတ်ကို စင်ကြယ်အောင် လုပ်ပုံတို့ကို ပိုင်နိုင်စွာ ရှင်းပြထားသည်။

ကျမ်းပြုပုဂ္ဂိုလ်သည် လက်တွေ့သမထကမ္မဋ္ဌာန်းရှုမှတ်မှုဖြင့် ဈာန်တရားကိုရရှိပုံ၊ ယင်းဈာန်တရားတို့ကို ဝသီဘော် (ကျွမ်းကျင်မှု) ငါးမျိုးဖြင့် ဝင်စားနိုင်ပုံတို့ကို ရှင်းပြသည်။ ဈာန်မှတစ်ဆင့် ဝိပဿနာသို့ကူးပြောင်း၍ဖြစ်စေ ခဏိကသမာဓိဖြင့် ဝိပဿနာပွားများ၍ဖြစ်စေ ဝိပဿနာဉာဏ်နှင့် ဉာဏ်စဉ်များရရှိပုံ၊ နောက်ဆုံးမဂ်ဉာဏ်ဖိုလ်ဉာဏ်တို့ဖြင့် သံယောဇဉ်များကို ပယ်ပြီးနောက် နိဗ္ဗာန်ကို သိမြင်ပုံတို့ကို စေ့စပ်သေချာစွာ ဖွင့်ဆိုနိုင်စွမ်းရှိသည်။

ဘာသာရပ်ကို ကျွမ်းကျင်ပြီး စေ့စပ်သေချာသည့် ပါမောက္ခများ ပညာရှင်များ အကြိုက်ရေးရသဖြင့် ကျမ်းကိုးသေချာမှု၊ ကိုးကားချက်နှင့် အဓိပ္ပာယ်ဖွင့်ဆိုပုံလိုက်ဖက်မှုတို့မှာ ဤကျမ်း၏ဂုဏ်ရည်ကို ပို၍တိုးမြင့်စေသည်။ ဤကျမ်းဖြင့် ဗုဒ္ဓဝါဒီတို့၏ပန်းတိုင်ဖြစ်သော 'နိဗ္ဗာန် တရားတော်မြတ်'၏ အဓိပ္ပာယ်ကို တစ်စေ့တစ်စောင်း နားလည်သွားနိုင်ရာပါသည်။

အရှင်ကေလာသ
ဝါခေါင်လပြည့်၊ မေတ္တာအခါတော်နေ့၊ ၁၃၆၆ (ဩဂုတ် ၃၀၊ ၂၀၀၄)ခုနှစ်။

**ကျေးဇူးစကား**

ဤကျမ်းစာပြီးမြောက်ရေးအတွက် ပန်းတိုင်သို့အရောက် ကူညီခဲ့ကြသူများအား ကျေးဇူးစကား ပြောကြားလိုပါသည်။ ယင်းတို့၏ အညီအညီမပါဘဲ ဤကျမ်းစာ အချိန်မီ ပြီးမြောက်ရန် မဖြစ်နိုင်ပေ။ ဤဘွဲ့ယူကျမ်းစာ တိုးတက်ပြီးစီးမှုကို ကြည့်ခြင်းဖြင့် ပန်းတိုင်သို့ရောက်သည်အထိ အဖိုးတန်လှသည့် အကြံဉာဏ်ပေးမှုများနှင့် တစ်နည်းနည်းဖြင့် ကြင်နာစွာ ကူညီအားပေးခဲ့ကြသော ပုဂ္ဂိုလ်များအား လှိုက်လှဲစွာ ဂုဏ်ပြုပါသည်။

ပထမဦးစွာ ကျမ်းပြုပုဂ္ဂိုလ်အား ဗုဒ္ဓဝါဒလေ့လာမှုတွင် မပင်မပန်း ကောင်းမွန်စွာ သင်ကြားပေးကြပြီး၊ ဘာသာတရား အသိဉာဏ်နှင့် ဘဝအတွေးအမြင် တိုးတက်မှုတို့အတွက်အရေးပါသည့် လက်တွေ့ကမ္မဋ္ဌာန်းတရား အားထုတ်မှုကို သင့်တင့်လျောက်ပတ်စွာ လမ်းညွှန်မှုပေးလျက် ဘာသာရေးဘဝအပေါ် သြဇာညောင်းခဲ့ကြသော မြန်မာဆရာတော်များအား ကျေးဇူးစကား ဆိုပါသည်။ လျောက်ပတ်စွာ လမ်းညွှန်ပေးမှု၊ ဘာသာတရားဆိုင်ရာ သြဝါဒနှင့် ကြင်နာမှုပေးခဲ့ကြသော ဆရာအရှင်များမှာ ဆရာတော်ဦးအာစာရာဘိဝံသ (မြန်မာ)၊ ဆရာတော် ဦးပဏ္ဍိတာဘိဝံသ (မြန်မာ)၊ ဆရာတော် အရှင်သီလာနန္ဒာဘိဝံသ (USA)နှင့် မြန်မာနိုင်ငံမှ ဆရာတော်များဖြစ်ပါသည်။ ရဟန်းဘဝနှင့် ပရိယတ္တိစာပေ လေ့လာသင်ကြားမှုတွင် ဖော်ပြပါဆရာတော်များ၏ သင်ကြားပြသမှုမရှိဘဲ ဤနိဗ္ဗာန်အကြောင်း ခေါင်းစဉ်ဖြင့် ကျမ်းစာပြုစုရန် ယုံကြည်ချက်ရှိခဲ့မည် မဟုတ်ချေ။

ထို့ပြင် ကာလီဖိုးနီးယားသိပ္ပံမှ ပါမောက္ခ ရီနာ ဆီရ်ကာရ် (Prof. Rina Sircar) အမျိုးသမီး၏ ကြင်နာအားပေးမှုနှင့် ၎င်း၏ ထေရဝါဒဗုဒ္ဓဘာသာစာပေဆိုင်ရာ စာပေနှင့်လက်တွေ့ ကျွမ်းကျင်တတ်မြောက်မှုကို ကျေးဇူးတင်ရမည်ဖြစ်သည်။ တစ်ဖန် ယင်းသိပ္ပံကျောင်းမှပင် ပါမောက္ခ စတီဗင် ဂွဒ်မင် (Prof. Steven Goodman) ၏ ကျွမ်းကျင်လိမ္မာမှုနှင့် ဉာဏ်တော ထောက်ထားခြင်းတို့ဖြင့် နှစ်သက်ဖွယ် အကြံဉာဏ်ပေးမှု၊ ဆန်ဟိုဆေး စတိတ်ယူနီဗာစီတီမှ ပါမောက္ခ ခရစ္စတိန် ဂျိုးချိမ်း (Prof. Christian Jochim) ၏ မှတ်သားဖွယ် ဖြည့်စွက်အားပေးမှုနှင့် ကြောင်းကျိုးဆီလျော်သည့် တိုက်တွန်းမှုတို့ကိုလည်း အထူးအမှတ်ရပါသည်။ ဖော်ပြပါပုဂ္ဂိုလ်တို့၏ အကူအညီမပါဘဲ ဤကျမ်းစာ ပန်းတိုင်သို့ ရောက်မည်မဟုတ်ပေ။

ထို့ပြင်လည်း ကာလီဖိုးနီးယားသိပ္ပံမှပင် ဤအကယ်ဒမစ်ကျမ်းစာပြီးမြောက်ရေးအတွက် ဖြစ်နိုင်သောနည်းလမ်းဖြင့် ကြင်နာသော အကြံဉာဏ်၊ အားပေးကူညီမှု ပေးခဲ့ကြသော ပါမောက္ခများ၊ အကြံပေးသူများနှင့် ၎င်းတို့၏အဖွဲ့ဝင်များဖြစ်ကြသည့် ပါမောက္ခ ဂျင်မ် ရိုင်ယန် (Prof. Jim Ryan)၊ ပါမောက္ခ ယီဝူ (Prof. Yi Wu)၊ အဲန်နီ ထိချ် (Anne Teich, Ph.D)၊ ကာလီဖိုးနီးယားသိပ္ပံစာကြည့်တိုက် ညွှန်ကြားရေးမှူးပါမောက္ခ ဗာမန် ရှီရာဇီ (Prof. Bahman Shirazi)၊ ယင်းသိပ္ပံမှ ရည်ညွှန်းကျမ်းနှင့် ကတ်တလောက်ရေးရာ ပူးပေါင်းဆောင်ရွက်သူများနှင့် စာကြည့်တိုက်မှူးများ၊ ဦးမျိုးကျော်မြင့် (San Jose) နှင့် ဆစ်စ် ဆာရာ မတ်ခ်စ် (Sis. Sarah Marks, San Jose) တို့အားလည်း မှတ်တမ်းတင်ပါသည်။ ထိုပုဂ္ဂိုလ်များ၏ ကိုယ်တိုင်ကူညီမှုနှင့် ပုဂ္ဂိုလ်ရေးနှင့် စိတ်ပိုင်းဆိုင်ရာ အားပေးမှုတို့မှာ ကျမ်းပြုသူကိုရော ကျမ်းပြုသူ၏လေ့လာမှုအတွက်ပါ အမှန်တကယ် ခွန်အားဖြစ်စေပြီး အကျိုးရှိသဖြင့် ကျေးဇူးတင်ထိုက်သူများဖြစ်ပါသည်။

နောက်ဆုံးအနေဖြင့် ဤဘွဲ့ယူကျမ်းစာလေ့လာမှုအတွက် ငွေကြေးနှင့် စိတ်ဓာတ်ရေးရာအားဖြင့် ထောက်ပံ့ခဲ့ကြသော ဗုဒ္ဓဘာသာသူတော်စင်များနှင့် ဤကျမ်းစာနှင့် ပတ်သက်သရွေ့ ကျေးဇူးတင်ထိုက်သူများအား လှိုက်လှဲဝမ်းသာစွာ ကျေးဇူးတင်ပါသည်။ ၎င်းတို့၏ ထောက်ပံ့လှူဒါန်းမှု၊ ကြင်နာအားပေးမှုတို့မရှိဘဲ ဤသုတေသနစာတမ်း ဖြစ်မလာနိုင်ပေ။ ၎င်းတို့သည် ဤလေ့လာမှုလုပ်ငန်းကို ပြီးမြောက်အောင်ဆောင်ရွက်ရာတွင် လွယ်ကူချောမွေ့ရေးအတွက် ကူညီခဲ့ကြသည်။ ဤလေ့လာမှုအတွက် နောက်ဆုံး သို့သော် အနည်းဆုံးမဟုတ်သည့် ကြင်နာမှု၊ အားပေးထောက်ပံ့မှုနှင့် မြတ်နိုးမှု ပေးခဲ့ကြသူများသည်လည်း ဤကျမ်းစာပြုစုသူ၏ အနက်နဲဆုံး စိတ်ဓာတ်ရေးရာ ခွန်အားများဖြစ်ကြောင်း ဖော်ပြလိုပါသည်။

## ကျမ်းကိုး အတိုကောက်မှတ်ချက်

| | |
|---|---|
| A | Atthakathā |
| Ab | Abhidhamma-Pitaka |
| Ab-S | Abhidhammattha-sangaha |
| Ab-S-N | Abhidhammattha-sangaha nissaya |
| Ab-T | Abhiddhammattha (sangaha) vibhāvinī-tīka |
| Ab-B-T | Abhidhammattha (sangaha) bhāsa-tīka |
| Ac-Ab | A Comprehensive Manual of Abhidhamma by Bhikhu Bodhi |
| An-N | Anguttara-Nikāya (Vols. I, II, II) |
| Ap | Apadāna |
| Be | Burmese script deitation of PALI Texts (Burma) |
| BD | Buddhist Dictionary, by Nyānatiloka |
| BPS | Buddhist Publication Society (Sri Lanka) |
| Ch-CD | Chattha Sangāyanā CD-ROM: Version 3 |
| Cu | Culaniddesa |
| Dha | Dhammapada |
| Dha-A | Dhammasanganī-atthakathā |
| Di-N | Dīghha-Nikāya (Vols. I, II , III) |
| Di-N-NT | A New Translation of the Digha Nikāya, WP |
| G-M-Ni | Gambhīrāgamghira-Mhanibbuta-Dīpanī |
| It | Itivuttaka |
| Ka | Kathāvatthu |
| Kh-N | Khuddaka-Nikāya |
| Kh-T | Khuddaka-tīka |
| Ma-N | Majjhima-Nikāya (Vols. I, II, III) |
| Aa-N-NT | A New Translation of the Majjhima Nikāya, WP |
| Ma-P-D | Mhavagga PALI, Dīgha-Nikāya |
| Ma-P-V | Mahvgga PALI, Vinaya Pitaka |
| Ne | Netti-Pali |
| Ni-B-F | Nirvana and Other Buddhist Felicities |
| Ni-Di | Nibbāna-Dipani |
| Pa | Pariva-Pāli |
| Pa-ED | Pali English Dictionary; PTS, London, 1986. |
| Pa-Ni | Paradox and Nirvana |
| Pat | Patismbhidāmagga |
| PED | Pāli English Dictionary (PTS) |
| PTS | Pali Text Society (Oxford, England) |
| Pu | Pugaalapannatti-Pāli |
| Q-Mi | Qestion of King Milinda (Translation fo Milinda-panna, Be) |
| Sa-N | Samyutta-Nikāya (Vols. I, II, III) |
| Sa-N-NT | A New Traslation of the Samyutta Nikāya Vols. I& II, WP |
| T | Tīkā |
| Ud | Udāna-Pali |
| Vi-M | Visuddhimagga (Vols. I& II, Be) |
| Vi-M | Tran. The Path of Purification, BPS |
| Vi-P | Vinaya-Pitaka (Vols. I, II, III) |
| Vm | Translation of Vimuttimagga, BPS |
| WP | Wisdom Publication (Boston) |

မှတ်ချက်။ ။ ပါဠိတော်များနှင့်အဋ္ဌကထာကျမ်းကိုးများမှာ မြန်မာအက္ခရာဖြင့်ပုံနှိပ်ထားသည့် ကျမ်းစာမူကို ရည်ရွယ်သည်။

## မာတိကာ

## အခန်း ၁

## နိဒါန်း

အဘိဓမ္မာဟုခေါ်သည့် ဗုဒ္ဓဝါဒဆိုင်ရာ အတွေးအခေါ်တွင် နိဗ္ဗာန်ဟူသည် အသင်္ခတဓမ္မအစစ်အမှန်ဖြစ်သည်။ အသင်္ခတဓမ္မအစစ်အမှန်ဖြစ်၍လည်း ယင်းအစစ်အမှန်တရားကို ဝေဖန်သုံးသပ်ရခြင်းဖြစ်သည်။ ယင်းအစစ်အမှန်တရားနှင့် ပတ်သက်၍ အဓိပ္ပာယ်အမျိုးမျိုးနှင့် ရှုပ်ထွေးသည့် ဖွင့်ဆိုချက်အထွေထွေကြောင့် နောက်ဆုံးတွင် နိဗ္ဗာန်အယူအဆသည် ဗုဒ္ဓဝါဒ၌ ထင်ရှားသည့်အကြောင်းအရာဖြစ်လာသည်။ ဤလေ့လာချက်သည် ဗုဒ္ဓဝါဒ၌ဖော်ပြသည့် နိဗ္ဗာန်အယူအဆနှင့် ယင်းအား ရှေးဦးခေတ် အဓိပ္ပာယ်ဖွင့်ဆိုမှုကို စူးစမ်းခြင်းဖြစ်သည်။ အဆိုပါ ရှေးဦးခေတ် အဓိပ္ပာယ်ဖွင့်ဆိုမှုများ၌ ဝေဖန်ဆွေးနွေးဖွယ်အချက်များ ပါရှိနေသည်။ သီအိုရီအဆိုအမိန့်နှင့် လက်တွေ့ကျင့်စဉ်ကို အခြေခံ၍ ဤစာတမ်းသည် နိဗ္ဗာန်၏ရှေးဦးခေတ် အဓိပ္ပာယ်ဖွင့်ဆိုချက်အား ယင်းဖွင့်ဆိုချက်နှင့် ဆက်နွယ်သည့် နည်းလမ်းများကို အသုံးပြုလျက် ဦးတည်လေ့လာခြင်းဖြစ်သည်။ ပါဠိ 'နိဗ္ဗာန'၊ သက္ကတ 'နေရ်ဗာန'၏ အဓိပ္ပာယ်ကို သမိုင်း၊ ပါဠိစာပေနှင့်ယုတ္တိနည်းကျ အချက်အလက်များမှရရှိသည့် အယူအဆအကျဉ်းချုပ်ကို ပါဠိနှင့်မြန်မာစာပေ ရည်ညွှန်းကျမ်းများနှင့်သညီ လေ့လာရန် ရည်ရွယ်သည်။ ဤလေ့လာချက်၏ အဓိကအစိတ်အပိုင်းသည် ပါဠိတော်၊ အဋ္ဌကထာနှင့် ဋီကာကျမ်းများ အထူးသဖြင့် မြန်မာနိုင်ငံ ထေရဝါဒဗုဒ္ဓဘာသာကို ရည်ညွှန်းကိုးကား၍ နိဗ္ဗာန်၏ အဓိပ္ပာယ်ဖွင့်ဆိုမှုကို စုံစမ်းလေ့လာမည်ဖြစ်သည်။ သို့တစေ အချို့သော အနောက်တိုင်းဗုဒ္ဓစာပေမှ အဓိပ္ပာယ်ဖွင့်ဆိုမှုများကိုလည်း ထည့်သွင်းအားဖြည့်ထားသည်။ ဤ သုတေသနပြုမှု၏ ရည်ရွယ်ချက်မှာ လက်တွေ့ သို့မဟုတ် အတွေ့အကြုံရှုထောင့်မှ နိဗ္ဗာန်၏ ကျမ်းဂန်ထွက်အဓိပ္ပာယ်ကို စုံစမ်းရှာဖွေရန်ဖြစ်သည်။ တွေးခေါ်မြော်မြင်မှုဆိုင်ရာ အခြေခံများကိုလည်း ဆွေးနွေးထားသည်။ ထို့ပြင် ရှေးဟောင်း ဗုဒ္ဓဘာသာကျမ်းစာများ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်နှင့် ဗုဒ္ဓဘာသာဝင်နှင့် ဗုဒ္ဓဘာသာဝင်မဟုတ်သူ ပညာရှင်များ၏ယူဆချက်များကို အဆင့်မြင့် သိပ္ပံနည်းကျ ခွဲခြမ်းစိတ်ဖြာ၍ လေ့လာမည်ဖြစ်သည်။

အမှန်သော် သမိုင်းစဉ်အရ အဆင့်မီ အဓိပ္ပာယ်ဖွင့်ဆိုချက်များသည် နိဗ္ဗာန်ဟူသည် မည်သို့သောအရာဖြစ်သည် ဟူသောအချက်ကို ရှင်းလင်းစွာနားလည်ရန် မလုံလောက်ဘဲရှိသည်။ ပထမအကြောင်းမှာ ၎င်းတို့အသုံးပြုသည့် ဘာသာစကား၏ ကန့်သတ်ချက်ကြောင့်ဖြစ်ပြီး ဒုတိယအကြောင်းမှာ ကျမ်းပြုသူများကိုယ်တိုင် နိဗ္ဗာန်၏အဓိပ္ပာယ်ကို ဖွင့်ဆိုနိုင်ရန် လုံလောက်သည့် ကျင့်ကြံအားထုတ်မှု မရှိသောကြောင့်ဖြစ်နိုင်သည်။ မည်သည့် ဗုဒ္ဓဝါဒအစဉ်အလာတွင်မှ တိကျသည့် နိဗ္ဗာန်အဓိပ္ပာယ် နိဂုံးကောက်ချက်ကို ဖော်ပြမထားပေ။ ယေဘုယျအားဖြင့် နိဗ္ဗာန်အယူအဆနှင့်ပတ်သက်၍ ထင်ရှားသည့် ဗုဒ္ဓဝါဒအစဉ်အလာများအတွင်း၊ အစဉ်အလာတစ်ခုတည်းမှာပင် တူညီသောဖြေရှင်းချက် တစ်စုံတစ်ရာကို မတွေ့ရသဖြင့် အခြားဘာသာတရားများက နိဗ္ဗာန်ကို မည်သို့ယူဆသည်ဟုဆိုရန်ပင် မဖြစ်နိုင်တော့ချေ။ သို့ရာတွင် နိဗ္ဗာန်၏အဓိပ္ပာယ်ပေါ်လွင်စေရန် ယခင်အဆင့်မြင့် အဓိပ္ပာယ်ဖွင့်ဆိုချက်များကိုရော ပါဠိတော်ကျမ်းဂန်များ၏ ဖွင့်ဆိုချက်များကိုပါ ဤလေ့လာချက်၌ စူးစမ်းမည်ဖြစ်သည်။ နိဗ္ဗာန်ဟူသည် မည်သည့်အရာဖြစ်ကြောင်း အမှန်အတိုင်း ဆုံးဖြတ်ရန် လုံလောက်စွာ မရှင်းလင်းနိုင်ကြသောကြောင့် ဗုဒ္ဓဘာသာမဟုတ်သူ ပညာရှင်အချို့က နိဗ္ဗာန်ကို 'နတ္ထိကဝါဒ = ဘဝဆုံးပြတ် ချုပ်ငြိမ်းဝါဒ' အဖြစ် အဓိပ္ပာယ်ဖွင့်ဆိုရန် ကြိုးပမ်းခဲ့ကြသည်။ ဗုဒ္ဓဘာသာဝင် မဟုတ်သူ ပါဠိပညာရှင် မာက်စ် မူလာ (Max Muller, 1823-1900)က နိဗ္ဗာန်ဟူသည် 'ဘဝဆုံးပြတ်ချုပ်ငြိမ်းဝါဒ' ဖြစ်သည်ဟု အဓိပ္ပာယ်ကောက်ယူခဲ့သည်။ ၎င်းအဆိုအရ နိဗ္ဗာန်ဟူသည် လုံးဝ ဘဝချုပ်ငြိမ်းပြတ်စဲသွားခြင်းထက်ပို၍ ဘာမျှအထူးအဓိပ္ပါယ်မရှိဟု ဆိုသည်[၁]။ သို့ရာတွင် အဆိုပါ ဘဝချုပ်ပြတ်သွားမှုဝါဒမှာ ဗုဒ္ဓဝါဒ၏မူရင်းရည်ရွယ်ချက် မဟုတ်ချေ။ ၎င်း၏ အယူအဆမှာ ဗုဒ္ဓဝါဒနှင့် များစွာ ဆန့်ကျင်နေကြောင်း တွေ့ရသည်။

မာက်စ် မူလာနှင့်မတူဘဲ ဗုဒ္ဓဘာသာပညာရှင် လာ ဗောလီ ပူရှင် (La Vallee Poussing, 1866-1962) က "နိဗ္ဗာန်ဟူသည် 'ဘဝဆုံးပြတ်ချုပ်ငြိမ်းဝါဒ' ဖြစ်သည်ဟူသောအဆိုမှာ ရှေးဦးဗုဒ္ဓဝါဒမဟုတ်ကြောင်း ကျွန်ုပ်တို့ ဝန်ခံရမည်။ ယင်း

[၁] Guy Richard Welbon, *The Buddhist Nirvana and Its Western Interpreters* (Chicago: the University of Chicago Press, 1968), 133.

သည် ဗုဒ္ဓ၏မူလရည်ရွယ်ချက်မဟုတ်ဘဲ နောက်ထွင်အဓိပ္ပာယ် ဖြစ်သည်။ သကျမုနိဗုဒ္ဓ (သို့မဟုတ် ဘုရားကျောင်း) သည် ယင်းသို့သော လွတ်မြောက်မှုဖြင့် စတင်ခဲ့သည်မဟုတ်ပေ။ အဆိုပါ အယူအဆမှာ ၎င်း (သို့မဟုတ် ၎င်းတို့) အနေဖြင့် အတ္တလိပ်ပြာကောင်တည်ရှိမှုကို ငြင်းဆိုနိုင်အောင် အဆောတလျင် ယူဆခဲ့ခြင်းဖြစ်သည်"ဟု ရေးခဲ့သည်[၂]။ ပူရှင်သည် မာက်စ်မူလာ၏ ကျမ်းစာ၌ဖော်ပြသည့် နိဗ္ဗာန်ဟူသည် 'ဘဝဆုံးပြတ်ချုပ်ငြိမ်းဝါဒ' အဆိုမှားယွင်းကြောင်း တွေ့ရှိပြီး ယင်းနှင့်မတူဘဲ ကျင့်ကြံအားထုတ်နေသူ ဗုဒ္ဓဘာသာတစ်ယောက်၏ ရှုထောင့်မှနေ၍ နိဗ္ဗာန်ဟူသည်ကို 'ငြိမ်းချမ်းသည့် နေရာဌာန'အဖြစ် ယူဆခဲ့သည်။ သို့တိုင်အောင်လည်း ပူရှင်အလိုအရ နိဗ္ဗာန်အဓိပ္ပာယ်ကိုဖော်ပြရန် လုံလောက်သည့် စကားလုံး မရှိချေ။ ၎င်းက နိဗ္ဗာန်အယူအဆကို အောက်ပါအတိုင်း အထူးပြုဖော်ပြခဲ့သည် -

> နိဗ္ဗာန်ပုဒ်၏ အတိကျဆုံးနှင့် အခိုင်လုံဆုံး အဓိပ္ပာယ်ဖွင့်ဆိုချက်မှာ ဘဝဆုံးပြတ်ချုပ်ငြိမ်းသွားခြင်း မဟုတ်ချေ။ အကြွင်းမဲ့လွတ်မြောက်မှု၊ မည်သည့်အရာနှင့်မျှ ဖော်ညွှန်းခွင့်မရှိသည့် လွတ်မြောက်မှုဖြစ်သည်[၃]။

ပူရှင်၏ ခွဲခြမ်းစိတ်ဖြာမှုအရ မူရင်း အိန္ဒိယဗုဒ္ဓဝါဒအလို နိဗ္ဗာန်အဓိပ္ပာယ်ရှင်းလင်းချက်သည် တွေးမြင်ယူဆမှု သို့မဟုတ် သီအိုရီအရ ကြံဆမှုတို့အပေါ် မတည်မှီဘဲ ယင်းဖြေရှင်းချက်၏ လိုအပ်ချက်အဖြစ် လက်တွေ့ချဉ်းကပ်မှု အပေါ် ၌သာတည်မှီကြောင်း ဖော်ပြခဲ့သည်။ ပူရှင်က ယုံကြည်စွာဆိုခဲ့သည်မှာ 'နိဗ္ဗာန်အကြောင်းလေ့လာချက်သည် ယင်း၏ အဖြေ၌ မတည်မှီချေ။ ယင်းပြဿနာကို မြင့်တက်စေခဲ့သည့် အရှုပ်အထွေးတွင် ပါဝင်ခြင်းမရှိဘဲ နိဗ္ဗာန်၏ ဖြစ်နိုင်ဖွယ် ကြောင်းကျိုးညီညွတ်သော သမိုင်းအတွေးကို လွယ်ကူစွာ တည်ဆောက်နိုင်သည်[၄]'ဟု ရေးခဲ့သည်။ ပူရှင်ကဲ့သို့ပင် သီအိုဒို စချာဗာစကီ (Theodore Stcherbastsky, 1866-1942) သည် ဗုဒ္ဓဘာသာပညာရှင်တစ်ယောက်ဖြစ်သော်လည်း ၎င်း၏ အမည်ကို အနောက်တိုင်း ပရိသတ်အနေဖြင့် အကျွမ်းမဝင်ဘဲရှိနိုင်သည်။ သို့ရာတွင် အနောက်တိုင်းသားများအနေဖြင့် ၎င်း၏ ခွဲခြမ်းစိတ်ဖြာ စဉ်းစားဆင်ခြင်ထားသည့် အတွေးအမြင်များကို ကျေးဇူးတင်ရမည်ဖြစ်သည်။ ၎င်း၏ ဝေဖန်သုံးသပ်ချက်များကို ၎င်းရေး သားသည့် 'ဗုဒ္ဓဝါဒနိဗ္ဗာန်အမြင် (*The Conception of Buddhist Nirvana*)' ကျမ်းစာ၌ ဖတ်ရှုနိုင်သည်။ ၎င်းအထူးပြု ဖော်ပြထားသည်မှာ 'လွတ်မြောက်မှုလမ်းစဉ်အနေဖြင့် ဗုဒ္ဓဝါဒ၏အဓိကရည်ရွယ်ချက်ကို ဆက်တိုက်ဖြစ်ပျက်နေသည့် ဓမ္မအခိုက်အတံ့များ၏ ဖြစ်စဉ်အား ထိန်းချုပ်ထားမှုအဖြစ် ရှုမြင်သည်။ အနောက်တိုင်း အဓိပ္ပာယ်ဖွင့်ဆိုသူ အများစုအဖို့ သံသယဖြင့် ဖွင့်ဆိုခဲ့ကြပုံရသည့် ဘဝဖြစ်တည်မှုသည် ဒုက္ခသစ္စာဖြစ်၏ဟူသော ထင်ရှားသည့် ဗုဒ္ဓဝါဒ သစ္စာတရားသည် စချာဗာစကီ၏ဖော်ပြချက်တွင် အကောင်းဆုံးသောဝေါဟာရဖလှယ်မှု တစ်ရပ်ဖြစ်လာသည်။ အကြောင်းမူ ၎င်းက ဒုက္ခပုဒ်ကို ဝမ်းနည်းစိတ်ပျက်ခြင်းဟု ဘာသာမပြန်ဘဲ မတည်မငြိမ်ဖြစ်မှုဟု ဘာသာပြန်ခဲ့သောကြောင့်တည်း[၅]' ဟူ၍ဖြစ်သည်။ နိဗ္ဗာနဟူသောဝေါဟာရနှင့်ပတ်သက်၍ ပူရှင်က အောက်ပါအတိုင်း ဆိုခဲ့သည်-

> အိန္ဒိယ(ပညာရှင်)များသည် အချက်အလက်နှင့် အတွေးအမြင်၊ အတွေးအမြင်နှင့် စကားလုံးများအကြား ရှင်းလင်းသည့် ခြားနားချက်တစ်ရပ်ကို မပြုလုပ်ခဲ့ကြပေ။ ၎င်းတို့သည် ရှုပ်ထွေးမှု၏အခြေခံကို လုံးဝ ရှင်းလင်းစွာ အသိအမှတ် မပြုခဲ့ကြပေ။ ဗုဒ္ဓဝါဒဆွေးနွေးမှုသည် အကိုင်းလေးခုပါသည့် အဖြေမဲ့ပြဆိုခြင်းမျိုးဖြစ်သည် - နိဗ္ဗာန်သည် တည်ရှိ၏ သို့မဟုတ် မတည်ရှိ သို့မဟုတ် တည်ရှိမတည်ရှိနှစ်မျိုးလုံး သို့မဟုတ် တည်ရှိသည်လည်းမဟုတ် မတည်ရှိသည်လည်း မဟုတ်[၆]။

ဤကိစ္စနှင့်ပတ်သက်၍ နိဗ္ဗာန်ဟူသောဝေါဟာရကို ရပ်လွန်ရှုထောင့်မှ ငြင်းဆိုနိုင်သည်။ 'နိဗ္ဗာန်သည် မရှိပါ'ဟူသောဝါကျ၌ ငြင်းဆိုချက်လော၊ အမှန်သော် ငြင်းဆိုချက်ကားမဟုတ်။ အကြောင်းမူ ဗုဒ္ဓဝါဒ၏မူလရည်ရွယ်ချက်သည် ငြင်းဆိုချက်မဟုတ်သောကြောင့်တည်း။ ဗိဘူနိ အက်စ် ယာဒဗ်(Bibhuni S.Yadav)[၇] က အောက်ပါအတိုင်း ငြင်းဆိုခဲ့သည်-

---

[၂] Ibid, 276.

[၃] Ibid, 277.

[၄] Ibid, 280.

[၅] Ibid, 289-290.

[၆] K.N. Jayatileke, *Early Buddhist Theory of Knowledge* (1963; reprint, Delhi; Motilal Banarsiedss Publisher, 1998), 333.

[၇] ဗိဘူတိ အက်စ် ယာဒဗ် (Ph. D., Banaras Hinwdu University) သည် တမ်ပယ်လ်တက္ကသိုလ် (TempleUniversity) ဘာသာရေးဌာန လက်ထောက် ပါမောက္ခ ဖြစ်သည်။ ၎င်း၏ဆောင်းပါးများကို *Indian Philosophical Jounal* တွင် ပုံနှိပ်ဖော်ပြခဲ့သည်။

ရုပ်လွန်ပညာသည် နည်းလမ်းကျသည့် စိတ်ကူးယဉ်မှု၊ တည်ရှိသည်ဟုဆိုခြင်းဖြင့် တည်ရှိလိုမှုကို ရှုပ်ထွေးစေသည့် ကိရိယာတန်ဆာပလာ တစ်ခုဖြစ်သည်---ရုပ်လွန် တွေးခေါ်မှုသည် တည်ရှိသည် မတည်ရှိဟူသော ယုတ္တိဆင်ခြင်မှု၊ တစ်စုံတစ်ခုသည် တည်ရှိ၏ သို့တည်းမဟုတ် မတည်ရှိဟူသည်ကို ငြင်းဆိုခြင်းနှင့် ဆက်နွယ်သည်[၈]။

နိဗ္ဗာနအယူအဆအတွင် 'ယင်းသည် တည်ရှိလျက် မတည်ရှိ (ရှိလျက်မရှိ)' ဟူသောဝါကျ၌ ဒွိဟအဓိပ္ပာယ် ပါရှိနေသဖြင့် ဤအဓိပ္ပာယ်လော ထိုအဓိပ္ပာယ်လောဟူသည်ကို လွယ်ကူစွာ နားမလည်နိုင်ချေ။ သို့ဖြင့် နိဗ္ဗာန်၏ ရှင်းလင်းသည့် အဓိပ္ပာယ်ဖွင့်ဆိုချက်သည် ဗုဒ္ဓဘာသာဝင်မဟုတ်သည့် ရှေးဦးဗုဒ္ဓဘာသာ ပညာရှင်တို့အား မယုံကြည်လိုသည့် သံသယများကို ဖြစ်ပေါ်စေသည်။

'နိဗ္ဗာန်နှင့် အခြားဗုဒ္ဓဝါဒ ဥဒါန်းများ (*Nirvana and other Buddhist Felicities*)' စာအုပ် အပါအဝင် ကျမ်းစာအများ အပြားရေးသားခဲ့သူ ခေတ်သစ် ဗုဒ္ဓဘာသာပညာရှင် စတီဗင်ကောလင်းစ် (Steven Collins)ကမူ အခြားနည်းလမ်းဖြင့် နိဗ္ဗာန်၏အဓိပ္ပါယ်ကို ဖွင့်ဆိုရန် ကြိုးစားခဲ့သည်။ သို့ရာတွင် ကောလင်းစ်သည် ထာဝရတည်ရှိခြင်းနှင့် ထာဝရမတည်ရှိခြင်းအယူအဆများကို ဖြေရှင်းခြင်းမပြုခဲ့ချေ။ ၎င်းသည် နိဗ္ဗာန်ကို စိတ်ကူးယဉ် နိဗ္ဗာန်အဖြစ်ယူဆခဲ့သည်။ ဆိုလိုသည်မှာ ၎င်းသည် နိဗ္ဗာန်၏သရုပ်သဏ္ဌာန်ကို မြို့တော်အဖြစ် ယူဆလိုခဲ့သည်။ နိဗ္ဗာန်၏ အခြေအနေကို ရုပ်နယ်ကိုကျော်လွန်သောအမြင်၊ ဗုဒ္ဓဝါဒနှင့်သက်ဆိုင်သည့် ထူးခြားသည့်ဓမ္မ၊ ဗုဒ္ဓဝါဒ၏ အဆုံးစွန်ရရှိမှုအဖြစ် ညွှန်ပြခဲ့သည်[၉]။

ဗုဒ္ဓဘာသာမဟုတ်သူများအဖို့ နိဗ္ဗာန်ဟူသည် ရှေးဦးဗုဒ္ဓဘာသာဟု ခေါ်တွင်သည့် အိန္ဒိယဗုဒ္ဓဘာသာ၏ နားမလည်နိုင်သော တရားဓမ္မတစ်ခု ဖြစ်ပုံရသည်။ သို့ရာတွင် ဗုဒ္ဓဝါဒသည် ယင်း၏ ယုတ္တိနည်းကျတရားဓမ္မ၊ ကိုယ်ကျင့်တရားလမ်းညွှန်မှုနှင့် ယင်း၏ရည်မှန်းချက်တို့ကြောင့် အရှေ့မှအနောက်သို့ ပြန့်နှံ့ခဲ့သည်။ အမှန်စင်စစ် နိဗ္ဗာန်၏ အဓိပ္ပာယ်ဖွင့်ဆိုချက်နှင့် ပတ်သက်၍ ဗုဒ္ဓဘာသာဝင်နှင့် ဗုဒ္ဓဘာသာဝင်မဟုတ်သူ ပညာရှင်များအဖို့ ဝေဖန်ကြဆဲ ဖြစ်ပြီး ဒွိတ္တအဓိပ္ပာယ်ကောက်ယူမှုများကြောင့် အတိအကျဖော်ပြရန် ဖြစ်နိုင်ဘဲရှိသည်။ သို့ဖြစ်၍ ဗုဒ္ဓဝါဒအစဉ်အလာများကို လေ့လာရာတွင် ကျမ်းဂန်ဖော်ပြချက်အဓိပ္ပါယ်နှင့် ကိုယ်တိုင်သိရှိတွေ့ကြုံမှုနှင့် ပတ်သက်သည့် ရှင်သန်ဆဲ အဓိပ္ပာယ်ဖွင့်ဆိုမှုတို့အကြား ညှိနှိုင်းရန်လိုသည်။ ကန့်သတ်ခံ အဓိပ္ပါယ်ကောက်ယူမှုများနှင့် ဆွေးနွေးဘိမူ လက်မခံနိုင်သည့် သံသယကို ပိုမိုတိုးပွားစေသည်ဟု ယူဆရသည်။ ဗုဒ္ဓဝါဒလေ့လာကျင့်သုံးမှု ရှုထောင့်မှဆိုသော် ယင်းသံသယဝိတက်သည် ဝိပဿနာပညာတိုးတက်မှုကို တားဆီးတတ်သော နီဝရဏတရားတစ်ခု ဖြစ်လာနိုင်သည်[၁၀]။

သို့ရာတွင် နေ့စဉ်ဘဝ၌ ဆက်သွယ်ရေးအတွက် လူတို့သည် ဘာသာစကားကို အသုံးပြုကြရသည်။ ဘာသာစကားမရှိဘဲ တွေ့ကြုံသိရှိမှု တစ်စုံတစ်ရာကို မရှင်းပြနိုင်ချေ။ အရသာ၊ ခံစားမှု၊ စိတ်လှုပ်ရှားမှု၊ ပျော်ရွှင်မှုစသည်ကို ထုတ်ဖော်ပြောဆိုရန် စကားလုံးများလိုအပ်သည်။ သို့ရာတွင် နိဗ္ဗာန်၏အဓိပ္ပာယ်ကိုမူ စကားလုံးမျှဖြင့် အဓိပ္ပာယ်ဖော်ပြရန် မဖြစ်နိုင်ချေ။ အကြောင်းမူ ဘာသာစာကားဟူသည်ပင် အမည်နာမတစ်ခုမျှသာ ဖြစ်သောကြောင့်တည်း။ ဓမ္မအရသာနှင့် နိဗ္ဗာန်၏ အနှစ်သာရကား အဆုံးစွန် ပရမတ္ထတရားဖြစ်၍ ဘာသာစကား၏ နယ်နိမိတ်ကို ကျော်လွန်သည်။ ဗုဒ္ဓဝါဒရှုထောင့်အရမူ အစစ်အမှန်တရား၌ အမည်သတ်မှတ်မှုမရှိ၊ ဘာသာစကားမရှိ[၁၁]။

အစစ်အမှန်တရားနှင့် ပတ်သက်၍ လက်တွေ့ကျင့်သုံးမှုမှရရှိသည့် အတွေ့အကြုံအတွက် နည်းမှန်ကျအမည်နာမများကဲ့သို့သော တွေ့ကြုံသိရှိမှုများ၏ စစ်မှန်သည့်အဓိပ္ပာယ်ကို စကားလုံးမျှဖြင့် ဖော်ပြရန်နည်းလမ်းမရှိကြောင်း နားလည်ရသည်။ ထိုနယ်ပယ်၌ ကိုယ်တိုင် တွေ့ကြုံသိရှိခံစားဖူးသူသည်သာလျှင် ယင်းစကားလုံးများကို အမှန်တကယ်နားလည်သည်။ အသိဉာဏ်ထူးကို ရရှိကြလျက် လောကုတ္တရာနယ်သို့ ဆိုက်ရောက်ကြပြီးဖြစ်သော အရိယာပုဂ္ဂိုလ်များသာ သိမြင်နိုင်သည့် နိဗ္ဗာန်ကား ယင်းသို့သော ဝေါဟာရဖြစ်သည်။ ကျယ်ပြောနက်ရှိုင်းသည့် ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်ခြင်းမှ ရရှိသည့် မဂ်ဉာဏ် ဖိုလ်ဉာဏ်ကိုရရှိမှသာ ယင်းနိဗ္ဗာန်ကို သိမြင်နိုင်ပြီး တွေးခေါ်ကြံဆရုံမျှဖြင့် မသိနားမလည်နိုင်ချေ[၁၂]။ တစ်စုံတစ်ယောက်သည် တွေးခေါ်မြော်မြင်မှု ရှုထောင့်ကို အခြေပြုပြီး သီအိုရီအရ နိဗ္ဗာန်၏အဓိပ္ပာယ်ကို ဖွင့်ဆိုနိုင်ဖွယ်ရှိသည်။ သို့တစေလည်း မဟာသတိပဋ္ဌာနသုတ်ကို အခြေခံသည့် သတိပဋ္ဌာန်ဝိပဿနာကို ပွားများအားထုတ်ခြင်းမရှိဘဲ ဒဿန

---

[၈] Bibhuti S. Yadav, 'Negation, Nirvana and Nonsense,' *Journal of the American Academy of Rleigion* 45(1977), 452

[၉] Steven Collins, *Nirvana and Other Buddhist Felicities* (New York:; Cambridge University Press, 1998), 33, 224.

[၁၀] U Pandita Sayadaw, *InThis Very Life* (Bsoton: Wisdom Publications, 1992), 71-73.

[၁၁] Hsueh-li Cheng, *Nagarjuna's Twelve Great Treatise* (Boston: D. Reidel Publishing Company, 1982), 21-24.

[၁၂] Bhikkhu Bodhi, ed., *A Comprehensive Manual fof Abhidhamma* (Kandy, Sri Lanka: Buddhist Publication Society, 1993), 258.

နည်းအရ အဓိပ္ပာယ်ဖွင့်ဆို၍ နိဗ္ဗာန်၏အဓိပ္ပာယ်မှန်ကို နားလည်ရန် မဖြစ်နိုင်ချေ။ ယင်းယူဆချက်နှင့် ပတ်သက်၍ ဖော်ပြချက်တစ်ရပ်ကို အောက်ပါအတိုင်းတွေ့ရသည်-

> ယော ဟိ ကောစိ ဘိက္ခဝေ ဣမေ စတ္တာရော သတိပဋ္ဌာနေ ဧဝံ ဘာဝေယျ သတ္တဝဿာနိ -- သတ္တာဟံ သတ္တဒိဝသံ ဖလာနံ အညတရံ ဖလံ ပါဋိကင်္ခံ ဒိဋ္ဌေဝ ဓမ္မေ အညာ ဝါ ဥပါဒိသေသေ အနာဂါမိတာ[၁၃]။
> ရဟန်းတို့၊ ဤသတိပဋ္ဌာန်လေးပါးကို ခုနစ်နှစ်မျှ -- ခုနစ်ရက်မျှ ပွားများအားထုတ်သူ မည်သူမဆိုသည် ယခုဘဝ၌ပင် ရဟန္တာဘဝကိုဖြစ်စေ၊ အကယ်၍ ဥပါဒိအကြွင်းအကျန်ရှိခဲ့သေးလျှင် အနာဂါမ်ဘဝကိုဖြစ်စေ ဤအကျိုးတရား နှစ်ပါးအနက် တစ်ခုခုကို မျှော်လင့်နိုင်သည်[၁၄]။

ထို့ပြင် ပွားအားထုတ်ခြင်းမရှိဘဲ မည်သည့်ဘာသာစကားဖြင့်မဆို နိဗ္ဗာန်၏အဓိပ္ပာယ်မှန်ကို အပြည့်အစုံ ဖော်ဆောင်နိုင်မည်မဟုတ်ချေ။ အဓိပ္ပာယ်ဖွင့်ဆိုရုံမျှသည် တစ်ခါတစ်ရံ၌ ဖတ်ရှုလေ့လာသူများအား အဓိပ္ပာယ်အမျိုးမျိုး ကောက်ယူလျက် မှားယွင်းခြင်းဆီသို့ ဦးတည်သွားသည်။ အမှန်စင်စစ် ဗုဒ္ဓဘာသာ နိဗ္ဗာန်အယူအဆကို အသုံးပြုသောအခါ ကန့်သတ်ခံ အဓိပ္ပာယ်ကောက်ယူချက်နှင့် အကန့်အသတ်မဲ့ ကိုယ်တိုင်ထိုးထွင်းသိမြင်မှုနှစ်ရပ်အကြား ကွာဟချက်ကို ညှိနှိုင်းရန် လိုအပ်သည်။ သင့်တော်သည့် အဓိပ္ပာယ်ဖွင့်ဆိုမှုဖြင့် ဗုဒ္ဓ၏အရေးပါသည့် အဆုံးအမကို တည်ဆောက်ရန် ဤသုတေသန ပြုချက်သည် ပါဠိတော်ကျမ်းဂန်များနှင့်အညီ နိဗ္ဗာန်၏မူရင်းအဓိပ္ပာယ်ကို အထူးပြုဖော်ပြသွားမည်ဖြစ်သည်။ ပထမ ရှေးဦး ပါဠိတော်ကျမ်းများ သမိုင်းတစ်လျှောက် တိုးတက်ခဲ့ပုံအကြောင်းကို လေ့လာမည်ဖြစ်သည်။ ဒုတိယအနေဖြင့် ဗုဒ္ဓဓမ္မ မူရင်းနှင့် ဒဿနဆိုင်ရာ နည်းလမ်းများနှင့်ပတ်သက်၍ ဆက်နွယ်အဓိပ္ပာယ် ဖွင့်ဆိုချက်များ၌ ဗုဒ္ဓကျမ်းဂန်များတွင် အသုံး ပြုသည့် ကျမ်းဂန်လာနည်းလမ်းများ သို့မဟုတ် ပါဠိအဋ္ဌကထာနည်းလမ်းများကို ဦးစားပေးဖော်ပြမည်ဖြစ်သည်။ နောက် ဆုံးအနေဖြင့် နိဗ္ဗာန်၏အဓိပ္ပာယ်ကို နားလည်ရန် ကမ္မဋ္ဌာန်းရှုမှတ်မှု၌ တိုက်ရိုက်အသုံးပြုသည့် ဝိပဿနာနည်းလမ်းကို ဖော် ပြမည်ဖြစ်သည်။

ရှေ့တွင်ဆိုခဲ့သည့်အတိုင်း ဤလေ့လာချက်သည် မူရင်းကျမ်းဂန်များ ဆိုလိုသည်မှာ မြန်မာဗုဒ္ဓဘာသာ ကျမ်းဂန်များ အပါအဝင် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းများနှင့်အညီ အတိအကျဖွင့်ဆိုမည်ဖြစ်သည်။ မြန်မာကျမ်းဂန်များအနက် ဤသုတေသနပြုချက်၌ ရွှေကျင်ဆရာတော် ရေးသားပြုစုသည့် **ဂမ္ဘီရာဂမ္ဘီရမဟာနိဗ္ဗုတဒီပနီ** ကျမ်းနှင့် လယ်တီဆရာတော် ရေးသားပြုစုသည့် **နိဗ္ဗာနဒီပနီ**နှစ်ကျမ်းကို အဓိကသုတေသနပြု ဖော်ပြမည်ဖြစ်သည်။ ယင်းနှစ်ကျမ်းသည် မူရင်းထေရဝါဒဗုဒ္ဓဘာသာ ပါဠိတော် အဋ္ဌကထာ ဋီကာကျမ်းများကို အခြေပြုရေးသားထားသော ကျမ်းများဖြစ်ကြသည်။

## ရှေးဦး ဗုဒ္ဓဘာသာသမိုင်း အခြေခံ

ဗုဒ္ဓဘာသာသည် ဗုဒ္ဓဟောကြားချက်များက ၎င်း၏တပည့်သာဝကများအား လှုံ့ဆော်ပေးခဲ့ပြီးနောက် မူလဘူတအားဖြင့် အိန္ဒိယတွင် စတင်ထွန်းကားခဲ့သည်။ သို့ဖြစ်၍ မူရင်းဗုဒ္ဓဘာသာဟူသည်ကို အိန္ဒိဗုဒ္ဓဘာသာဟု ခေါ်ဝေါ်ခြင်းဖြစ်သည်။ ကနဦးအချိန်တွင် ဗုဒ္ဓဝါဒသည် စံပြဖြစ်ခဲ့ပြီး ညီညွတ်မှုရှိသည်။ သို့ရာတွင် နှစ်တစ်ရာခန့် ကြာပြီးနောက် ဘာသာရေးဆိုင်ရာလှုပ်ရှားမှု တစ်ရပ်ကြောင့် ဂိုဏ်းဂဏ အမျိုးမျိုးကွဲပြားသွားသည်။ ဤသည်မှာ အချိန်ကာလ၊ ပတ်ဝန်းကျင်အခြေအနေအမျိုးမျိုးနှင့် ယဉ်ကျေးမှုအထွေထွေတို့ကြောင့် ဖြစ်သည်။ ထိုအချိန်မှစ၍ နိဗ္ဗာန်၏အဓိပ္ပါယ်နှင့် ဗုဒ္ဓဝါဒ၏ပန်းတိုင်ဘာဖြစ်သည်ဟူသော အချက်များအပါအဝင် ဗုဒ္ဓတရားတော်များ၌ ယေဘုယျသဘောတူညီချက်မရှိဘဲ ဖြစ်သွားသည်။

ဟိရကာဝ အကိရ (Hirakawa Akira) ပုဂ္ဂိုလ်၏အလိုအရ အိန္ဒိယဗုဒ္ဓဘာသာတွင် ရှေးဦးထေရဝါဒဂိုဏ်းကွဲ ဆယ့်နှစ်ခုရှိခဲ့သည်[၁၅]။ ထေရဝါဒဗုဒ္ဓဘာသာအတွင်း အခြားဂိုဏ်းကွဲအမျိုးမျိုး လည်းရှိသေးသည်။ သို့ရာတွင် ဤသုတေနသပြုချက်သည် ထေရဝါဒဂိုဏ်းကွဲအမျိုးမျိုး အလုံးစုံကို စာတမ်းတစ်ခုတည်း၌ ဖော်ပြရန်မဖြစ်နိုင်သဖြင့် ဂိုဏ်းအသီးသီး၏ မူလရင်းမြစ်ကို ရှာဖွေမည်မဟုတ်ချေ။ ယင်းသည် ဤလေ့လာချက်၏ နယ်ပယ်အတိုင်းအတာ ပြင်ဘက်၌ရှိသည်။ ဤလေ့လာချက်၌ 'ဗုဒ္ဓဝါဒနှစ်ပေါင်း ၂၅၀၀'ကျမ်းစာလာ ပီဗီဘပတ် (P.V. Bapat) အဆိုနှင့်အညီ ထေရဝါဒဂိုဏ်းကွဲများ၌ သဗ္ဗတ္ထိဝါဒ (Sthaviravadin) သည် အဓိကဂိုဏ်းကွဲဖြစ်လာသည်ဟူသောအဆိုကို အသိအမှတ်ပြုမည်ဖြစ်သည်။ ထို့ပြင် ထေရဝါဒီတို့

---

[၁၃] မဟာဝဂ္ဂပါဠိ၊ ဒီဃနိကာယ (ရန်ကုန်၊ မြန်မာ၊ သာသနာရေး ဦးစီးဌာန၊ ၁၉၉၃)၊ ၂၅၁-၂၅၂။

[၁၄] Maurice Walshe, trans., *Te Long Discourses of the Buddha. A Translation of the Digha Nikaya* (Boston: Wisdom Publications, 1987), 350.

[၁၅] Hirakawa Akira, *A History of Indian Buddhism: From Sakyamuni to Early Mahayana* (1915; repring, Honolulu; University of Hawaii Press, 1990), 116.

သည် ပါဠိကို မြင့်မြတ်သည့်ဘာသာစကား၊ သို့မဟုတ် ၎င်းတို့ဝါဒ၏ ပါဠိတော်ဆိုင်ရာ ဘာသာစကားအဖြစ် အသုံးပြုကြသည်။ ‘ပါဠိစာပေ၌တွေ့ရမည့် ရှေးအကျဆုံးဗုဒ္ဓဝါဒကား အစဉ်အလာကို အတိအကျလိုက်နာသော ဂိုဏ်းကွဲတစ်ခုဖြစ်သည့် ထေရဝါဒဖြစ်၏’[၁၆]။ ထေရဝါဒနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံဗုဒ္ဓဘာသာကို ထေရဝါဒအစဉ်အလာအဖြစ် ယူဆရသည်။ သီရိလင်္ကာသမိုင်းအရ သီရိဓမ္မာအသောက မင်းတရားကြီးစေလွှတ်ခဲ့သည့် အရှင်သောဏနှင့် အရှင်ဥတ္တရအမည်ရှိ ရဟန်းတော်နှစ်ပါးသည် ယေဘုယျအားဖြင့် မြန်မာနိုင်ငံအဖြစ် အတည်ပြုထားသည့် သုဝဏ္ဏဘူမိ အရပ်တွင် ဗုဒ္ဓဝါဒကို ဟောကြားခဲ့ကြသည်[၁၇]။ အသောကခေတ် (ဘီစီ ၃ ရာစု) အတွင်း ဗုဒ္ဓသာသနာပြု လုပ်ငန်းများကို သီရိလင်္ကာ၊ မြန်မာနှင့် ထိုင်းငံများသို့တိုင် ဖြန့်ကျက်ခဲ့သည်။ မြန်မာနိုင်ငံသမိုင်းအရမှာ အောက်ပါအတိုင်းဖြစ်သည် -

> ရှေးအကျဆုံး မြန်မာနိုင်ငံ (သုဝဏ္ဏဘူမိ) ထေရဝါဒဗုဒ္ဓဘာသာ အထောက်အထားမှာ အေဒီ ၅ ရာစု ပါဠိဘာသာကျောက်စာဖြစ်သည်။ မြန်မာနိုင်ငံ၌ တစ်ချိန်က မဟာယာနနှင့် တန္တရဗုဒ္ဓဘာသာ ထွန်းကားခဲ့သော်လည်း အနော်ရထာမင်းသည် အေဒီ ၁၁ ရာစုတွင် မြန်မာနိုင်ငံအား ထေရဝါဒဗုဒ္ဓဘာသာသို့ သွတ်သွင်းခဲ့သည်။ ရာစုနှစ် နှစ်ခုအတွင်း ထေရဝါဒဗုဒ္ဓဘာသာကို မြန်မာနိုင်ငံ၌ ပိုမိုကျယ်ပြန့်စွာ လိုက်နာကျင့်သုံးလာခဲ့သည်[၁၈]။

ဤဖော်ပြချက်ကို အခြေခံ၍ဆိုရသော် မျက်မှောက်ခေတ်တွင် မြန်မာနိုင်ငံထေရဝါဒဗုဒ္ဓဘာသာသည် ရင်းမြစ်အားဖြင့် အိန္ဒိယထေရဝါဒဗုဒ္ဓဘာသာမှ ဆင်းသက်ခဲ့သည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ဗုဒ္ဓဘာသာပညာရှင်များသည် ဗုဒ္ဓ၏ မူလဘူတဖြစ်သည့် တရားတော်များကို ပါဠိဘာသာဖြင့်ရေးသားထားကြောင်း ယူဆကြသည်။ ပါဠိဘာသာဟူသည် ဗုဒ္ဓခေတ် ဘီစီ ၅ ရာစုဝန်းကျင်တွင် မဂဓနိုင်ငံအဖြစ်ထင်ရှားခဲ့သည့် အိန္ဒိယအလယ်ပိုင်း၌ ပြောဆိုသည့် မာဂဓီဘာသာစကားဖြစ်ဖွယ်ရှိသည်။ ပါဠိနှင့် မာဂဓီဘာသာစကားနှစ်ရပ်အကြား တိုက်ရိုက်ဆက်သွယ်မှုကို မဖော်ပြနိုင်ချေ။ သို့ရာတွင် ဗုဒ္ဓဘာသာပညာရှင်များသည် ဗုဒ္ဓခေတ်က မာဂဓဒေသတွင် နေထိုင်သူများသည် ပါဠိဘာသာ၏ မူလဘူလဘူတဖြစ်သည့် မာဂဓီဘာသာစကားကို ပြောဆိုကြောင်း ယူဆကြသည်။ တိပိဋကပါဠိမြန်မာ အဘိဓာန် အတွဲ ၁၆၊ စာ-၅၃၆ တွင် မာဂဓဘာသာကို ပါဠိဘာသာအဖြစ် အတည်ပြုထားသည်။

> **သုဒ္ဓမာဂဓိကာ**တိ မာဂဓေသု ဘာသာ တတ္ထ ဝိဒိတာ ဝါ မာဂဓာ၊ သဒ္ဒါ။ တေ ဧတသ္မိံ တေသု ဝါ နိယုတ္တာတိ မာဂဓိကာ[၁၉]။
>
> သုဒ္ဓမာဂဓိကာဟူရာ၌ မာဂဓတိုင်းတွင် မူလအားဖြင့် စတင်ခဲ့ပြီး ယင်းဒေသ၌နေထိုင်သူများ ပြောဆိုသည့် ဘာသာစကားကို မာဂဓီဘာသာစကားဟု ခေါ်သည်။ မာဂဓတိုင်းသားတို့၏ ဘာသာစကားသည် သဒ္ဒါနည်းအရ မာဂဓီ အမည်တွင်သည်[၂၀]။

သမိုင်းအရဆိုသော် ပထမသံဂါယနာကို မာဂဓနိုင်ငံ ရာဇဂဟ (ရာဇဂြိုဟ်) မြို့တော်၌ ကျင်းပခဲ့သည်။ သံဂါယနာတင် ဆရာတော်များသည် ပါဠိဘာသာကို တရားဝင် အသုံးပြုခဲ့ကြသည်။ ယင်းဘာသာစကားသည် မာဂဓီနှင့် ပါဠိဟု အမည်နှစ်မျိုးရှိခဲ့ပုံရသော်လည်း မူရင်းဘာသာစကားမှာ အတူတူပင်ဖြစ်ပုံရသည်။

သံဃာ့အစည်းအဝေးတွင် အဖွဲ့ဝင်သံဃာတော်များသည် အထူးသဖြင့် ထေရဝါဒဟူသောအမည်ကို အသုံးပြုခဲ့ကြသည်။ အဘယ်ကြောင့် သံဃာသည် ထိုအမည်ကို သုံးခဲ့ကြသနည်း။ ပါဠိဘာသာတွင် ထေရဝါဒဟူသောအမည်သည် ပုဒ်နက်အရ မထေရ်ကြီးတို့၏လမ်းစဉ် သို့မဟုတ် မထေရ်ကြီးတို့၏ဓမ္မဟု အဓိပ္ပာယ်ရသည်။ အမှန်သော် ဗုဒ္ဓရှင်တော်မြတ်သည် ထိုတရားဓမ္မများကို ဦးစွာဟောကြားတော်မူပြီး မထေရ်ကြီးများက ပြန်လည်ဟောကြားလျက် ဗုဒ္ဓ၏တရားဓမ္မများကို စောင့်ရှောက်ခဲ့ကြသည်။ သို့ဖြင့် ယင်းတို့၏ဟောကြားချက်များကို မထေရ်ကြီးတို့၏ဝါဒဟု ခေါ်ဝေါ်ခြင်းဖြစ်သည်။ ပါဠိတော် ကျမ်းစာများ၌ အတွဲပေါင်း များစွာပါရှိသည်။ ထေရဝါဒဗုဒ္ဓဘာသာဝင်များက ယင်းဓမ္မကျမ်းစာများကို တိပိဋက

---

[၁၆] P.V. Bapat, *2500Years of Buddhism* (1956; reprint, India; Publications Division, 1994), 89.

[၁၇] Ibid, 76.

[၁၈] Melford E. Spiro, *Buddhism and Society: A Great Tradition and Its Burmese Vicissitudes* (New York: Harper & Row Publishers, 1970), 378-382.

[၁၉] *Subodhalankara-Tika* (Rangoon, Burma: Department of Religious Affairs, 1973), 25.

[၂၀] သက်ဆိုင်ရာ နိဿယကျမ်းများကိုမှီ၍ ကျမ်းပြုပုဂ္ဂိုလ် အင်္ဂလိပ်ဘာသာ ပြန်ဆိုခဲ့သည်။

(ခြင်းတောင်းသုံးခု)ဟု ရည်ညွှန်းကြသည်။ 'ကထံ ပိဋကဝသေန တိဝိဓံ၊ သဗ္ဗမ္ပိ စေတံ ဝိနယပိဋကံ သုတ္တန္တပိဋကံ အဘိဓမ္မပိဋကန္တိ တိပ္ပဘေဒမေဝ ဟောတိ - ပိဋကတ်သုံးပုံ မည်သို့ပြားသနည်း။ ယင်းတို့မှာ ဝိနယပိဋက = စည်းမျဉ်းခြင်းတောင်း၊ သုတ္တပိဋက = ဓမ္မခြင်းတောင်းနှင့် အဘိဓမ္မပိဋက = အဘိဓမ္မခြင်းတောင်း တို့ဖြစ်သည်'[၂၁]။

ထေရဝါဒနှင့် မဟာယာနဗုဒ္ဓဘာသာအတွင်း ဂိုဏ်းကွဲများစွာရှိသည်။ သို့တစေ ထေရဝါဒနှင့် မဟာယာနဂိုဏ်းကွဲ အမျိုးမျိုးအကြောင်းကို အသေးစိတ်ဖော်ပြခြင်း ဤလေ့လာချက်၌ ပါဝင်မည်မဟုတ်ပေ။ သို့ရာတွင် အခြေခံဗုဒ္ဓဝါဒအုပ်စုနှစ်ခုအနေခြင့် ခွဲခြမ်းဖော်ပြချက်ကို ပုံမှန်အသုံးပြုထားသည်။ ယင်းတို့မှာ ပါဠိအစဉ်အလာနှင့် သက္ကတအစဉ်အလာဖြစ်သည်။ ထေရဝါဒဗုဒ္ဓဘာသာအဖြစ်ထင်ရှားသည့် ပါဠိအစဉ်အလာတွင် သီရိလင်္ကာ၊ မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လာအိုနိုင်ငံတို့ပါဝင်သည်။ မဟာယာနအဖြစ်ထင်ရှားသည့် သက္ကတဗုဒ္ဓဘာသာသည် တရုတ်၊ တိဗက်၊ နီပေါ၊ ဘူတန်၊ ကိုရီးယား၊ ဂျပန်၊ ထိုင်ဝမ်နှင့် ဗီယက်နမ်နိုင်ငံတို့ပါဝင်သည့် မြောက်ပိုင်းဗုဒ္ဓဘာသာဖြစ်သည်။ ဤလေ့လာချက်သည် အဓိကအားဖြင့် ပါဠိဗုဒ္ဓဘာသာအမြင်ကို အလေးပေးဖော်ပြမည်ဖြစ်သည်။ အကြောင်းမူ သုတေသနပြုသူသည် အသက်ကိုးနှစ်အရွယ်မှစ၍ မြန်မာနိုင်ငံထေရဝါဒဗုဒ္ဓဘာသာ အဆုံးအမဖြင့် သင့်တင့်သည့်လေ့လာမှုနှင့် လေ့ကျင့်အားထုတ်မှုကို ရရှိခဲ့သောကြောင့်ဖြစ်သည်။ ထို့ပြင် ပါဠိဗုဒ္ဓဘာသာနှင့် ဆက်နွယ်ပြီး မိမိကိုယ်တိုင်လိုက်နာသည့် ဘာသာရေးဘဝနှင့် မဟာစည်နည်းဖြင့် ဝိပဿနာအားထုတ်မှုတွင် ကမ္မဋ္ဌာန်းနည်းပြဆရာအဖြစ် ကျွမ်းကျင်သူဖြစ်သည်။

ထေရဝါဒဗုဒ္ဓဘာသာကျင့်စဉ်တွင် နံပါတ်တစ်နှင့် အလိုအပ်ဆုံးသော ရှေးဦးဗုဒ္ဓဘာသာအဆုံးအမမှာ ဗုဒ္ဓရှင်တော်မြတ် ဓမ္မစက္ကပဝတ္တနသုတ်တော်၌ ဟောတော်ထားသည့်အတိုင်း သစ္စာလေးပါးဖြစ်သည်။ ယင်းသုတ္တန်တွင် ဗုဒ္ဓ၏အရေးအပါဆုံးသော တရားတစ်ရပ်မှာ နိဗ္ဗာန်ဟူသော ဝေါဟာရနှင့် ပရိယာယ်တူသည့် ဒုက္ခနိရောဓသစ္စာ ဖြစ်သည်[၂၂]။ ပါဠိတော် အဋ္ဌကထာနှင့် ဗုဒ္ဓစာပေကျမ်းဂန်တို့၌ နိရောဓ သို့မဟုတ် နိဗ္ဗာနဟူသော ဝေါဟာရတို့ကို မကြာခဏတွေ့ရသည်။ နောင်အခါတွင် ဗုဒ္ဓရှင်တော်မြတ်သည် နိဗ္ဗာန်ဟူသောဝေါဟာရကို ပိုမိုသုံးစွဲခဲ့သည်။ မဟာပရိနိဗ္ဗာနသုတ်တော်၌ ဗုဒ္ဓရှင်တော်မြတ်သည် နိဗ္ဗာန်ဟူသောဝေါဟာရကို တိုက်ရိုက်သုံးစွဲခဲ့သည်။

> ဧကာယနော အယံ ဘိက္ခဝေ မဂ္ဂေါ သတ္တာနံ ဝိသုဒ္ဓိယာ သောကပရိဒေဝါနံ သမတိက္ကမာယ ဒုက္ခဒေါမနဿာနံ အတ္ထင်္ဂမာယ ဉာယဿ အဓိဂမာယ **နိဗ္ဗာန**ဿ သစ္ဆိကိရိယာယ ယဒိဒံ စတ္တာရော သတိပဋ္ဌာနာ[၂၃]။
> ရဟန်းတို့၊ သတ္တဝါတို့ စင်ကြယ်စေရန် သောကပရိဒေဝကို လွန်မြောက်ရန် ဒုက္ခဒေမနဿကို ငြိမ်းစေရန် မှန်ကန်သည့် လမ်းစဉ်ကိုရရှိရန် နိဗ္ဗာန်ကိုရရှိရန် သတိပဋ္ဌာန်လေးပါးသည်သာ တစ်ကြောင်းတည်းသော လမ်းစဉ်ဖြစ်သည်[၂၄]။

ထိုအတူပင် နိဗ္ဗာန်ဟူသော ဝေါဟာရကို အတွဲ လေးဆယ်ရှိသည့် ပါဠိတော်ကျမ်းများနှင့် အဋ္ဌကထာဋီကာကျမ်းတို့၌ အကြိမ်ခြောက်ရာထက်မနည်း တွေ့နိုင်သည်။ နိဗ္ဗာနဟူသော ဝေဟာရဖြင့် ပါဠိဗုဒ္ဓဘာသာတွင် တစ်ခါတစ်ရံ နောက်ဆုံးလွတ်မြောက်မှု ဝိမုတ္တိဓမ္မ (ဒုက္ခမှ အလုံးစုံ လွတ်မြောက်ခြင်း)အဖြစ် ဖော်ပြကြသည်[၂၅]။

သို့ရာတွင် သမိုင်းတစ်လျှောက် ဗုဒ္ဓဝါဒမျိုးစုံတို့၏ မှတ်တမ်းတိုင်း၌ နိဗ္ဗာန်အယူအဆကို ကြာမြင့်စွာတွေ့ရသည်။ အချိန်က နိဗ္ဗာန်နှင့် အန္တိမအစစ်အမှန်ဟူသော စကားလုံးတို့၏ အယူအဆအမျိုးမျိုး ပေါ်ပေါက်စေခဲ့သည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ဤအချက်နှင့်ပတ်သက်၍ ဗုဒ္ဓရှင်တော်မြတ်၏ ခမ်းနားလှသည့် မူလတရားတော်လာဖော်ပြချက်မှာ အချိန်ကာလကွာခြားချက်နှင့် ဗုဒ္ဓဝါဒအမျိုးမျိုးပေါ်ပေါက်လာခြင်းတို့ကြောင့် မေးမှိန်သွားခဲ့ကြောင်း ငြင်းချက်ထုတ်နိုင်သည်။ တစ်ခေတ်ပြီးတစ်ခေတ် ပညာရှင်တို့ အဓိပ္ပါယ်ဖွင့်ဆိုချက်များနှင့် ဗုဒ္ဓဝါဒအစဉ်အလာအမျိုးမျိုးတို့၏ ရှုမြင်မှုကို အခြေခံပြီး မပြောင်းလဲသော အစစ်အမှန်တရားဖြစ်သည့် နိဗ္ဗာန်အယူအဆသည် ပြောင်းလဲသွားခဲ့သည်။

ရှည်လျားသည့် သမိုင်းတစ်စေ့တစ်စောင်းက ဗုဒ္ဓဓမ္မဆိုင်ရာ အဓိပ္ပာယ်ကောက်ယူမှုအမျိုးမျိုးနှင့် ရှေးဦးဗုဒ္ဓဓမ္မကို သဘောမတူညီနိုင်မှုတို့ကြောင့် ဗုဒ္ဓဝါဒပုံစံသစ်တို့သည် ဗုဒ္ဓဓမ္မဆိုင်ရာ ရှေးဦးအဓိပ္ပါယ်ကောက်ယူမှုများမှ သွေဖည်သွားခဲ့

---

[၂၁] *Silakkhandha-vagga-atthakatha* (Rangoon, Burma: Department of Religious Affairs, 1975), 17.

[၂၂] Bhikkhu Bodhi, *The Connected Discourses of the Buddha: A New Translation of the Samyutta Nikaya Vol. II*(Boston: Wisdom Publications, 2000), 1844.

[၂၃] Ma-P, Di-N Vol. II 231.

[၂၄] Di-N-NT, 335.

[၂၅] Venerable Nyanaponika Thera and Bhikkhu Bodhi *Numerical Discourses of the Buddha: An Anthology of Suttas from the Anguttara Nikaya* (New York: Altamira Press, 1999), 130-131.

ကြောင်း ဖော်ပြလျက်ရှိသည်။ ဗုဒ္ဓဝါဒပုံစံသစ်တစ်ခုမှာ မဟာယာနဗုဒ္ဓဘာသာဖြစ်သည်[၂၆]။ သက္ကတဗုဒ္ဓဘာသာ သို့မဟုတ် မဟာယာနဗုဒ္ဓဘာသာ ပညာရှင်များသည် ရှေးဦးဗုဒ္ဓဝါဒအယူအဆများကို လက်မခံဘဲရှိကြသည်။ နာဂရဇ္ဈုန (Nagarjuna) သည် မဟာယာနဗုဒ္ဓဘာသာ ပညာရှင်တစ်ယောက်ဖြစ်သည်[၂၇]။ နာဂရဇ္ဈုနသည် နိဗ္ဗာန်ကို ခြားနားသည့် အခြေအနေတစ်ရပ်မှ တင်ပြခဲ့သည်။ ၎င်းအယူအရ နိဗ္ဗာန်ဟူသည် သံသရာဖြစ်ပြီး သံသရာဟူသည် နိဗ္ဗာန်ပင်တည်း။ ယင်းနှစ်ခု ခြားနားခြင်းမရှိဘဲ တွေ့ကြုံသိရှိမှုအရ အရာနှစ်မျိုးမ ဟုတ်ချေ။ အမှန်စင်စစ် ယင်းနှစ်မျိုးမှာ အတူတူဖြစ်သည်။ ထို့ပြင် ၎င်းသည် နိဗ္ဗာန်ကို သုညတ(ဆိတ်သုံးခြင်း)ဟုလည်း အဓိပ္ပာယ်ဖွင့်ဆိုခဲ့သည်။ ၎င်းအရ အရာခပ်သိမ်းမှာ သုညတဖြစ်ပြီး သက်ရှိသက်မဲ့အားလုံးလည်း သုညတဖြစ်သည်။ သုညတကို မဇ္ဈိမဒဋ္ဌိပဒါလမ်းစဉ်အဖြစ် နားလည်ခဲ့သည်။ သုညတလမ်းစဉ်ကို နိဗ္ဗာန်ရောက်ကြောင်း လမ်းစဉ်အဖြစ်လည်း ယူဆခဲ့သည်[၂၈]။

ယင်းအစဉ်အလာအတွင်း၌ နိဗ္ဗာန်၏အဓိပ္ပာယ်ဖွင့်ဆိုချက်အချို့ကို သဘောမတူနိုင်မှုကြောင့် မဟာယာနဂိုဏ်းအတွင်း၌ အခြားဂိုဏ်းသစ်များ ပေါ်ပေါက်ခဲ့သည်။ ယင်း မဟာယာနဂိုဏ်းကွဲပုံစံသစ်မှာ သုခဝတီဗုဒ္ဓဝါဒအဖြစ် ထင်ရှားသည်[၂၉]။ သုခဝတီဂိုဏ်းသည် နိဗ္ဗာန်ကို နိဗ္ဗာန်ဘုံ သို့မဟုတ် ဗုဒ္ဓဘုံအဖြစ် ဖွင့်ဆိုသည်။ သုခဝတီဘုံသည် အမိတဘာဘုရားမပွင့်မီ နှစ်ပေါင်း အသင်္ချေအနန္တကြာအောင် ကျင့်ကြံအားထုတ်ခဲ့သည့် ဗောဓိသတ္တကျင့်စဉ်၏ ရလဒ်ဖြစ်သည်။ သုခဝတီဝါဒသည် သကျမုနိဗုဒ္ဓ၏ ဓမ္မကာယကို မပျက်မစီး ထာဝရတည်မြဲအနေဖြင့် အလိုရှိကြောင်း အထူးပြုဖော်ပြခဲ့သည်[၃၀]။ သုခဝတီဗုဒ္ဓဝါဒ၏ အထူးပြုဖော်ပြချက်မှာ ထာဝရတည်ရှိနေသော ဗုဒ္ဓရှင်တော်မြတ်သည် တွေးခေါ်မြော်မြင်မှုအရ အထည်ကိုယ်သုံးမျိုး(တြိကာယ)ဖြင့် ထင်ရှားရှိသည်။ ယင်းအယူအဆသည် အသင်္ဂ (Asnga) နှင့် အခြားယောဂါစာရ ဆရာကြီးများ၏ အယူအဆနှင့် ဆက်နွယ်မှုရှိ သည်။

> ဗုဒ္ဓ၏ကိုယ်ခန္ဓာသည် အရေအတွက်အားဖြင့် တစ်ခုတည်းဖြစ်သော်လည်း လုပ်ဆောင်ချက်အားဖြင့် များပြားသည်။ ရှေးဦးမဟာယာနတို့သည် ဗုဒ္ဓအား ခန္ဓာနှစ်ခုရှိသည်ဟုယူဆကြသည်။ ယင်းတို့မှာ အသွင်သဏ္ဌာန်မဲ့ တည်မြဲသည့် အစစ်အမှန်တရားဟူသော ဓမ္မကာယနှင့် အရောင်အဆင်းရှိ ကွေးညွတ်နိုင်ပြီး အာရုံငါးပါးဖြင့် တွေ့သိခံစားနိုင်သော အသွင်သဏ္ဌာန်ရှိ ရူပကာယဖြစ်သည်။ အသင်္ဂနှင့် အခြားသော ယောဂါစာရ ဆရာများကမူ နောက်ဆုံး၌ ဗုဒ္ဓအား ဓမ္မကာယ၊ သမ္ဘောဂကာယ (အာရုံခံစားနိုင်သောကိုယ်ခန္ဓာ) နှင့် နိမ္မာနကာယ (ဖန်ဆင်းကိုယ်ခန္ဓာ)ဟူ၍ သုံးမျိုးရှိကြောင်းယူဆခဲ့ကြသည်[၃၁]။

အထက်ပါဖော်ပြချက်ကို အခြေပြု၍ သုခဝတီဗုဒ္ဓဘာသာဝင်တို့သည် သမိုင်းတစ်ချိန်တွင် ထင်ရှားရှိခဲ့သည့် ဗုဒ္ဓရှင်တော်မြတ်သည် လူ့လောကတွင် မတည်ရှိတော့သော်လည်း မြင့်မြတ်သောခန္ဓာကိုယ်သည် ဗုဒ္ဓဘုံဟုခေါ်သည့် အမြင့်ဆုံးဘုံဌာနတွင် ထာဝရတည်ရှိနေသည်ဟု ယုံကြည်ကြသည်။ ဤဖော်ပြချက်၌ ဗုဒ္ဓ၏ဓမ္မကိုယ်သည် သုခဝတီဗုဒ္ဓဝါဒအလိုအရ မပျက်မစီး ထာဝရတည်မြဲနေသည်ဟု ဆိုလိုရာရောက်သည်။

ဤသမိုင်းဝင်ဖော်ပြချက်ကို အခြေပြု၍ ဝိပဿနာဉာဏ် တိုးတက်အောင် အားမထုတ်ဖူးသူတစ်ယောက်အဖို့ ထေရဝါဒနှင့်မဟာယာနဗုဒ္ဓဝါဒ နှစ်မျိုးလုံးအား ဆန့်ကျင်သည့် အတွေးအမြင် တစ်ရပ်အဖြစ် ယူဆနိုင်သည်။ သို့ရာတွင် ဤအချက်နှင့်ပတ်သက်၍ ပိဋကတ်ကျမ်းဂန်များတွင် အခြေခံသည့် နိဗ္ဗာန်အဓိပ္ပါယ်ဖွင့်ဆိုချက် အမျိုးမျိုးကို စူးစမ်းရှာဖွေရန်

---

[၂၆] မဟာယာနဗုဒ္ဓဘာသာ ပေါ်ပေါက်ခဲ့သည့် ရှေးဦးကာလနှင့်ပတ်သက်၍ အယူအဆအမျိုးမျိုးရှိသည်။ အချို့ပညာရှင်များက ဒုတိယသံဂါယနာပြီးမှပေါ်ပေါက်ခဲ့ကြောင်း ယုံကြည်ပြီး အချို့ကမူ တတိယသံဂါယနာပြီးမှ ထေရဝါဒဗုဒ္ဓဘာသာနှင့် ခြားနားလျက် စတင်ပေါ်ပေါက်ခဲ့ကြောင်း ယုံကြည်ကြသည်။ Akira, 105-116 ကို ရှုပါ။

[၂၇] Cheng, 1-12. Cheng က နာဂရဇ္ဈုန (အေဒီ ၂ ရာစုတွင် ပေါ်ထွန်းခဲ့ပြီး မဇ္ဈိမိကဗုဒ္ဓဝါဒကို တည်ထောင်ခဲ့သူ) ၏အတွေးအမြင်အား မဟာယာနအတွေးအမြင်၏ အခြေခံအဖြစ် ယူဆခဲ့ကြောင်း ဖော်ပြခဲ့သည်။

[၂၈] Herbert V. Guenther, *Philosophy and Psychology in the Abhidharma* (1957:reprint, Delhi: Mothlal Banarsidass Publishers, 1991), 194.

[၂၉] သုခဝတီဗုဒ္ဓဝါဒ (Pure Land Buddhism)သည် ဗုဒ္ဓ၏တရားဓမ္မများကို အခြေခံသည့် မဟာယာနဂိုဏ်းကွဲတစ်ခုဖြစ်သည်။ နှောင်းခေတ်တွင် ထင်ရှားသည့် သုခဝတီ၏ဓမ္မများကို အေဒီ ၁၂-ရာစု ဂျပန်နိုင်ငံတွင် အခြေပြုခဲ့သည့် ရှင်သုခဝတီဂိုဏ်းကို တည်းထောင်သူ ရှင်ရန် ရှိုရင် (Shinran Shorin 1173-1262)က ဟောကြားခဲ့သည်။ ၎င်း၏အယူအဆထင်ရှားလာရခြင်းမှာ နေ့စဉ်ဘဝတွင် လူတိုင်းလိုက်နာနိုင်သည့် လွယ်ကူသည့် ကျင့်စဉ်စနစ် ကြောင့်ဖြစ်သည်။ ဤဖော်ပြချက်မှာ Cheng စာ-၁၁ မှဖြစ်သည်။

[၃၀] Ibid, 12.

[၃၁] Takeuchi Yoshinori, ed., *Buddhist Spirituality: Later China, Korea, Japan and the Modern World.* Vol. II (New York; Crossroad Press. 1999), 396.

ဒဿနနည်းလမ်းများရှိသည်။ ယင်းနည်းလမ်းများအနက် ပါဠိကျမ်းဂန်နည်းလမ်းများနှင့် ဒဿနနည်းလမ်းအချို့ ပါဝင်သည်။ ဒဿနနည်းလမ်းများကို အသုံးပြုခြင်းသည် တွေးခေါ်သူများအား နိဗ္ဗာန်အဓိပ္ပာယ် နားလည်မှုကို ရှင်းလင်းကျယ်ပြန့်စေနိုင်ပြီး ကျမ်းဂန်လာ နည်းလမ်းများကို အသုံးပြုခြင်းသည် လေ့ကျင့်အားထုတ်သူများအား မဂ်ဉာဏ်ဖိုလ်ဉာဏ်၏ ခမ်းနားမှုကို နားလည်စေနိုင်သည်။ အထူးပြုဆိုရသော် ယင်းဒဿနဆိုင်ရာ နည်းလမ်းများနှင့် ကျမ်းဂန်နည်းလမ်းများကို အသုံးပြုခြင်းသည် ဤလေ့လာချက်အား အစွန်းရောက်အယူအဆနှစ်မျိုးဖြစ်သည့် ဉစ္ဆေဒဒိဋ္ဌိနှင့် သဿတဒိဋ္ဌိ နှစ်မျိုးကို ရှင်းလင်းစေနိုင်မည်ဖြစ်သည်။

**နိဗ္ဗာန်လေ့လာချက် နည်းမှန်ကျအယူအဆ**

ဗုဒ္ဓဝါဒအစဉ်အလာ၏ ရှုထောင့်အထွေထွေဖြင့် သမိုင်းနောက်ခံဖြစ်စဉ်ကို ဖော်ပြပြီးဖြစ်သဖြင့် ယင်းသမိုင်းနောက်ခံမှုဖြင့် နိဗ္ဗာန်၏အဓိပ္ပာယ်ကို လေ့လာရန်မလုံလောက်သေးကြောင်း ထင်ရှားသည်။ အဓိပ္ပာယ်ဖွင့်ဆိုချက် အများအပြားကို ဖော်ပြရန်လိုအပ်သည်။ ယခင်က အဓိပ္ပါယ်ဖွင့်ဆိုခဲ့သည့်ကျမ်းများသည် ဗုဒ္ဓ၏မူလဟောကြားချက်ကို ပြည့်စုံ ရှင်းလင်းစေသည်ထက် တော်တော်များများမှာ ရှုပ်ထွေးဆန့်ကျင်စေသည်။ ယင်းအဓိပ္ပာယ်ဖွင့်ဆိုချက်ဆိုင်ရာ ကျမ်းများကို တည့်မတ်စေရန် ဤလေ့လာချက်သည် ရှေးဦးဗုဒ္ဓဝါဒ စူးစမ်းလေ့လာမှုစတင်ရန်အတွက် ကျမ်းဂန်နည်းလမ်းများနှင့် ဒဿနနည်းလမ်းများ ပါဝင်သည့် နည်းလမ်းများကို အသုံးပြုသည်။

ကျမ်းဂန်လာနည်းလမ်းဟူသည် အဘယ်နည်း၊ ယင်းသည် ပါဠိကျမ်းဂန်များ၌ အသုံးပြုထားသည် နည်းလမ်းကို ဆိုလိုသည်။ ပါဠိဗုဒ္ဓဘာသာတွင် ကျမ်းဂန်နည်းလမ်းသည် ရှုထောင့်သုံးမျိုးနှင့် ဆန္ဒယ်သည် (၁) ပရိယတ္တိ အဆိုအမိန့် (၂) ပဋိပတ္တိကျင့်စဉ်နှင့် (၃) ပဋိဝေဓ တွေ့ကြုံသိရှိခံစားမှု တို့ဖြစ်သည်။ ဤ၌ ပရိယတ္တိဟူသည် ဗုဒ္ဓဟောကြားချက်နှင့် အညီ အယူအဆသီအိုရီများကို ဖော်ပြသည့်နည်းလမ်းကို ဆိုလိုသည်။ ပဋိပတ္တိဟူသည် စိတ်ပိုင်းဘဝနှင့် စိတ်ဓာတ်ရင့်ကျက်မှုကို ရရှိရန်နှင့် နိဗ္ဗာန်၏အဓိပ္ပါယ်ကို နားလည်ရန်လိုအပ်သည့် လမ်းညွှန်ချက်အဖြစ် ဓမ္မအဆိုအမိန့်များကို လက်တွေ့အသုံးချခြင်းဖြစ်သည်။ ပဋိဝေဓဟူသည် သမထ ဝိပဿနာကမ္မဋ္ဌာန်းအားထုတ်မှုနှစ်မျိုးမှ တွေ့ကြုံသိရှိမှုကို ညွှန်းဆိုခြင်းဖြစ်သည်။ ယင်းသုံးမျိုးအနက် ပရိယတ္တိကို ဗုဒ္ဓဒေသနာတော်အတွက်မရှိမဖြစ် လိုအပ်သောအရာအဖြစ် မှတ်ယူသည်။ အကြောင်းမူ ယင်းပရိယတ္တိကို အခြေပြု၍ ဗုဒ္ဓဝါဒလိုက်နာကျင့်သုံးသူများသည် ၎င်းတို့၏ ဘာသာရေးလမ်းစဉ်တွင် အခြားနှစ်မျိုးကိုလည်း ဖြည့်ကျင့်နိုင်သောကြောင့်ဖြစ်သည်[၃၂]။

> တတ္ထ ပရိယတ္တီတိ တီဏိ ပိဋကာနိ။ ပဋိပတ္တီတိ ပဋိပဒါ။ ပဋိဝေဓောတိ သစ္စပဋိဝေဓော။ သာသနဋ္ဌိတိယာ ပန ပရိယတ္တိပမာဏံ။ ပဏ္ဍိတော ဟိ တေပိဋကံ သုတွာ ဒွေပိ ပူရေတိ[၃၃]။
>
> ပရိတ္တိဟူသည် ပိဋကတ်သုံးပုံတည်း။ ပဋိပတ္တိဟူသည် အကျင့်တည်း။ ပဋိဝေဓဟူသည် သစ္စာလေးပါးကို ထိုးထွင်း၍ သိမြင်ခြင်းတည်း။ ယင်းသုံးမျိုးအနက် ပရိယတ္တိသည် အခြားနှစ်မျိုးထက် အခြေခံကျပြီး အရေးပါသည်။ အခြေခံတရားများကို လေ့လာပြီးနောက် ပညာရှိပုဂ္ဂိုလ်သည် အခြားနှစ်မျိုးကို ပြည့်စုံစေနိုင်သည်[၃၄]။

ပါဠိကျမ်းဂန်လာ နည်းလမ်းများ၏ လေးနက်ခမ်းနားမှုကို တွေ့မြင်ပြီးဖြစ်သည့်အတိုင်း နိဗ္ဗာန်၏အဓိပ္ပာယ်ကို လေ့လာနိုင်ရန် ဤလေ့လာမှုအတွက် ပရိယတ္တိကို အသုံးပြုနိုင်သည်။ အမှန်တရား နားလည်မှုကို အကဲဖြတ်ရာ၌ ကျင့်ကြံအားထုတ်မှု အတွေ့အကြုံတွင် ဈာန်တရားကို သိရှိမှုနှင့် ဝိပဿနာဉာဏ် မဂ်ဉာဏ်ဖိုလ်ဉာဏ်တို့အပါအဝင် ဉာဏ်ဖြင့်တွေ့ကြုံသိရှိမှုတို့ပါ ပါဝင်သည်[၃၅]။

သို့ရာတွင် ဤလေ့လာချက်၌ စနစ်တကျဖွဲ့စည်းမှုအားဖြင့် ဗုဒ္ဓကျမ်းဂန်များကို အဓိပ္ပာယ်ဖွင့်ဆိုနိုင်ရေးအတွက် သင့်တော်သည့် ဒဿနဆိုင်ရာနည်းလမ်းများကို ရွေးချယ်ရန် လိုအပ်သည်။ ဤကျမ်းစာတွင် ဝေါဟာရခွဲခြမ်းစိတ်ဖြာမှုနှင့် အသုံးတွင်သည့် ဝေါဟာရအသုံးပြုမှု နည်းလမ်းများကို အသုံးပြုနိုင်သည်။ ဝေါဟာရခွဲခြမ်းစိတ်ဖြာ နည်းလမ်းသည် လူသားနှင့် ဘာသာရေးကျမ်းစာများကို အဓိပ္ပါယ်ဖွင့်ဆိုမှုတွင် နားလည်မှုတို့နှင့် ပတ်သက်သည်။ ယင်းသည် မူလအားဖြင့် ပါဠိတော်ကျမ်းဂန်များကို အဓိပ္ပါယ်ဖွင့်ဆိုမှုနှင့် အနည်းငယ်သာ ပတ်သက်သည်။ သို့ရာတွင် ဝေါဟာရ ခွဲခြမ်းစိတ်ဖြာ

[၃၂] *Pathikavagga-atthakatha, Digha-Nikaya* (Rangoon, Burma: Department of Religious Affairs, 1993), 82.
[၃၃] Ibid, 82.
[၃၄] ယင်းသည် ဋီကာဖွင့်ဆိုချက်ကို အခြေခံ၍ ကျမ်းပြုသူ၏ အင်္ဂလိပ်ဘာသာပြန်မှ မြန်မာပြန်ဆိုခြင်းသည်။
[၃၅] Di-N-A, Vol. III, 82-83.

နည်းလမ်းကို ယနေ့ခေတ်တွင် ဘိုင်ဘယ်လ် (Bible) လေ့လာခြင်း၊ ဘာသာရေးလေ့လာခြင်းနှင့် ဒဿနနယ်ပယ်တို့၌ မကြာခဏ အသုံးပြုသည်။ ယင်းနည်းလမ်းသည် ဆယ့်နှစ်ရာစုတွင် ဖရက်ဒရစ် ရှာလီယာမာချာ (Friendrich Schleie-rmacher) ကျမ်း၏စာဖြင့် ခေတ်သစ် အဓိပ္ပါယ်ဖွင့်ဆိုမှုနှင့် ဒဿနအစဉ်အလာများနှင့် ပတ်သက်၍ မရှိမဖြစ် လိုအပ်သော ဒဿနအခြေခံတစ်ခု ဖြစ်လာသည်။ ထို့ပြင် ဖရက်ဒရစ် ရှာလီယာမာချာ ရှေးဦးစွာ တိုးတက်အောင် လုပ်ဆောင်ခဲ့သည့် 'ဝေါဟာရ ခွဲခြမ်း စိတ်ဖြာနည်းလမ်း စက်ဝန်း'သည် ကျမ်းဂန်သို့ ပြန့်သွားပြီး အဓိပ္ပါယ်ဖွင့်ဆိုမှုအသစ်ကို ဖြစ်ပေါ်စေသည့် ဖြစ်စဉ်ဖြစ်သည်။ ယင်းသည် အချိန်တိုင်း အဓိပ္ပါယ်ဖွင့်ဆိုမှုအသစ် ဖြစ်ပုံရသည်[၃၆]။ သို့တစေ ဝေါဟာရခွဲခြမ်းစိတ်ဖြာ နည်းလမ်းအပေါ် ခေတ်သစ်စိတ်ဝင်စားမှုသည် ခေတ်သစ်အဓိပ္ပါယ်ကောက်ယူမှု သီအိုရီများနှင့် ပို၍ပတ်သက်မှုရှိသည်။ ဘာသာရေးဆိုင်ရာ ကျမ်းဂန်များကို အဓိပ္ပာယ်ဖွင့်ဆိုရန် 'ဗုဒ္ဓဘာသာဆိုင်ရာ ဝေါဟာရခွဲခြမ်းစိတ်ဖြာနည်းလမ်း'သည်လည်း ယင်း၏ကျမ်းဂန်များကို အဓိပ္ပါယ်ဖွင့်ဆိုမှုနှင့် ပတ်သက်သည်[၃၇]။

> ယင်းနောက်ဆုံး အယူအဆကို ဆုံးဖြတ်ရန်ရှာဖွေခြင်းသည် ဗုဒ္ဓဝါဒဝေါဟာရခွဲခြမ်းစိတ်ဖြာမှုတွင် အဓိက ပတ်သက်မှုတစ်ခုဖြစ်လာပြီး ကျမ်းဂန်များကို အဓိပ္ပါယ်ကောက်ယူရာ၌ ဖော်ပြပါပြဿနာများကို ဖြစ်ပေါ်စေသော ဗုဒ္ဓရှင်တော်မြတ်၏ တရားဓမ္မဟောကြားရာ၌ ထက်မြက်သည့် နည်းလမ်းဖြစ်သည့် ဥပါယဒေသနာသည်ပင် အဓိပ္ပါယ်ဖွင့်ဆိုမှုကို ဆောင်ရွက်သည့် အခြေခံတစ်ရပ်ဖြစ်လာသင့်သည်။ ဥပါယဟူသည် ထေရဝါဒနေတ္တိပါဠိနှင့် ကူရိုင် (Kurai) ၏ ဇူဇူရှင်ရွန် (Jujushinron) ကျမ်းတို့၌ ဖော်ပြသကဲ့သို့ ခြားနားလွန်းသည်ဟုထင်ရသော ကျမ်းဂန်လာ အမျိုးအစား ခွဲခြား စနစ်၏အခြေခံများကို တည်ဆောက်ပုံလည်းရသည်။ --- ထေရဝါဒအဖွင့်ကျမ်းများသည် ယင်းတို့၏ ဝေါဟာရခွဲခြမ်းစိတ်ဖြာမှု မဟာဗျူဟာကို တဖြည်းတဖြည်း ဗောဓိဉာဏ်သို့ရောက်ကြောင်း လမ်းစဉ်အယူအဆပေါ်တွင် အခြေခံသည်။ သို့ဖြစ်၍ ၎င်းတို့သည် စိတ်ပိုင်းဘဝတိုးတက်မှုနှင့် စရိုက်အဆင့်အတန်းကဲ့သို့သော အချက်များကို အခြေခံလျက် ဗုဒ္ဓရှင်တော်မြတ် တရားဓမ္မဟောကြားခဲ့သော ပုဂ္ဂိုလ်ပုံစံများကို အသေးစိတ် ဖော်ပြကြသည်[၃၈]။

အဓိပ္ပါယ်ဖွင့်ဆိုမှုအကြောင်းဆိုရာ၌ ဗုဒ္ဓရှင်တော်မြတ်သည် တပည့်သာဝကအားလုံးအား တူညီသော အကြောင်းအရာကို ဟောကြားတော်မမူခဲ့ချေ။ ဗုဒ္ဓဘာသာဝင်တို့သည် နိဗ္ဗာန်၏အဓိပ္ပါယ်ကိုဖွင့်ဆိုရာ၌ သက်ဆိုင်ရာကျမ်းဂန်၌ပါရှိသည့် ဆက်နွယ်အဓိပ္ပါယ်များကို ရရှိစေရန် နည်းလမ်းစုံကို အသုံးပြုရမည်ဖြစ်သည်။ သို့ဖြင့် ဗုဒ္ဓဘာသာဝေါဟာရခွဲခြမ်းစိတ်ဖြာနည်းစနစ်သည် နိဗ္ဗာန်အကြောင်းကိုဖွင့်ဆိုကြသည့် ယခင်ကျမ်းစာများကို သုံးသပ်လေ့လာရန် ဤသုတေသနစာတမ်းနှင့် ပတ်သက်ဆက်နွယ်မှုရှိသည်။

အချုပ်အားဖြင့် ရှေးကျမ်းတို့၌ ဖော်ပြထားပြီးဖြစ်သည့် အဓိပ္ပါယ်ဖွင့်ဆိုချက်ကိုကြည့်ခြင်း၌ အဓိပ္ပါယ်ဖွင့်ဆိုမှု နည်းပညာစက်ဝန်းမှ မလွတ်နိုင်ချေ။ ဝေါဟာရခွဲခြမ်းစိတ် ဖြာနည်းစက်ဝန်းတွင် အဓိပ္ပါယ်ဖွင့်ဆိုမှုစက်ဝန်းသည် တစ်စိတ်တစ်ဒေသနှင့် အလုံးစုံတို့အကြား ဆက်နွယ်မှုရှိသည်။ ယင်းသည် အစိတ်အပိုင်းတစ်ခုစီကို အဓိပ္ပါယ်ဖွင့်ဆိုခြင်းမှာ ပုဒ်တစ်ခုလုံးကို အဓိပ္ပါယ်ဖွင့်ဆိုခြင်း၌ တည်မှီကြောင်း ဆိုလိုသည်။ ယင်းနည်းလမ်းသည် ဤလေ့လာချက်အတွက် အမှန်ပင်အသုံးဝင်သည်။ အကြောင်းမူ အဓိပ္ပါယ်ဖွင့်ဆိုချက်များသည် တစ်ခါတစ်ရံ ယင်းတို့၏ အဓိပ္ပါယ်တိမ်မြုပ်မှု ဆက်နွယ်များပြားသဖြင့် အလွန်ရှုပ်ထွေးသောကြောင့်ဖြစ်သည်။ သို့ဖြစ်၍ ဝေါဟာရခွဲခြမ်းစိတ်ဖြာ နည်းလမ်းသည် ဤသုတေသနပြုမှု၏ ပန်းတိုင်သို့ရောက်ရန် အားကိုးရသော နည်းလမ်းဖြစ်သည်။

ဤလေ့လာချက်သည် လက်တွေ့အသုံးကျမှုဝါဒကိုလည်း အသုံးပြုမည်ဖြစ်သည်။ လက်တွေ့အသုံးကျမှုဝါဒသည် မူလအားဖြင့် အမေရိကန်နိုင်ငံ၌ တိုးတက်ခဲ့သည်။ ဤနည်းလမ်းသည် တွေးမြင်မှုအဓိပ္ပါယ် သို့မဟုတ် အမှန်တရား အယူအဆသည် လက်တွေ့ရလဒ်၏ ကိစ္စတစ်ရပ်ဖြစ်ရမည်ဟု ယူဆသည်။ 'လက်တွေ့ဟူသော ဝေါဟာရသည် တွေးကြံသည့်အတိုင်း လှုပ်ရှားဆောင်ရွက်မှုဟု အဓိပ္ပါယ်ရသည်[၃၉]။ လက်တွေ့အသုံးကျမှုဝါဒသည် ယင်း၏ နည်းလမ်းကို အမှန်တရား၏ သီအိုရီအဖြစ် တိုးတက်စေခဲ့သည်။ ချားစ် ဆန်ဒါ ပိုင်းရ်စ် (Charles Sanders Peirce, 1839-1914)က လက်တွေ့အသုံးကျမှုဝါဒကို အတွေးအမြင်များကို ရှင်းလင်းသည့် နည်းလမ်းအဖြစ် အဓိပ္ပါယ်ဖွင့်ဆိုခဲ့သည်။ ၎င်းအလိုအရ လက်တွေ့

---

[၃၆] Robert Audi, ed., *The Cambridge Dictionary of Philosophy* (New York: Cambridge University Press, 1995), 323-324.

[၃၇] Donald S. Lopez, *Jr., Buddhist Hermenetitices* (Honolulu: University of Hawaii Press, 1988), 1-5.

[၃၈] Ibid, 5-6.

[၃၉] Samuel Enoch Stumpf, *Socrates to Sartre: A History of Philosophy* (New York: McGraw-Hill Publishing Company, 1988), 411.

အသုံးကျမှုဝါဒ၏ အခြေခံမူမှာ တွေးမြင်ကြံဆမှုများကို စမ်းသပ်စစ်ဆေးမှုတစ်ခုအဖြစ်ထားရှိပြီး အကျိုးဆက်များကို စောင့်ကြည့်လေ့လာရန်ဖြစ်သည်။ ပိုင်းရ်စ်က တွေးခေါ်မြော်မြင်မှုအားလုံးမှာ တစ်စုံတစ်ခုပြုလုပ်ရန် နည်းလမ်းတစ်ခု အဖြစ်ယူဆမှုကို အမှန်အဖြစ်ယူဆခဲ့သည်။ သို့တစေ တစ်စုံတစ်ယောက်သည် အတွေးအမြင်အဖြစ်သို့ ပြောင်းလဲသွားသော ယုံကြည်မှုတစ်ရပ်ရှိရမည်။ တွေ့ကြုံသိရှိမှုနှင့် စူးစမ်းဆင်ခြင်မှုတို့၏ စံညွှန်းမှတ်ကျောက်ဖြင့် စမ်းသပ်နိုင်သော အတွေးအမြင်သည်သာ ယင်း၏ပြုမူအလေ့အကျင့်ကို တည်ဆောက်ရန် ယုံကြည်မှုကို ပေးစွမ်းနိုင်မည်ဖြစ်သည်[၄၀]။

ဝီလျံဂျိမ်းစ် (William James, 1842-1910) ကမူ မှန်ကန်သည့် ယူဆချက်များသည် စမ်းသပ်တွေ့ရှိမှုအတွက် အသုံးဝင်သည်ဟူသော အယူအဆကို ဖော်ပြခဲ့သည်။ ဂျိမ်းစ်က 'လက်တွေ့ အသုံးကျမှုဝါဒသည် နည်းလမ်းတစ်ခုသာဖြစ်သည် ---- ယင်းဝါဒသည် သေချာသည့်အဖြေအတွက် မရပ်တည်သော်လည်း လက်တွေ့ကျင့်ကြံသည့် နည်းလမ်းတစ်ခု အနေဖြင့် ယင်း၏အနှစ်သာရသည် အဖြေများကို သေချာတိကျစေသည်[၄၁]။ သို့ဖြစ်၍ ဤလေ့လာချက်သည် အဆိုအမိန့်များ၊ တရားဓမ္မများနှင့် အဓိပ္ပာယ်ဖွင့်ဆိုချက်များပါဝင်သည့် လက်တွေ့အသုံးကျ စမ်းသပ်မှုမှတစ်ဆင့် လက်တွေ့ အကျိုးတရားများနှင့် ပတ်သက်မည်ဖြစ်သည်။ ဖော်ပြပါအချက်သည် လက်တွေ့အသုံးကျစမ်းသပ်မှုနှင့် လက်တွေ့ ကျင့်သုံးမှုအကျိုးဆက်တို့ကို အသုံးပြုလျက် နိဗ္ဗာန်၏အဓိပ္ပါယ်ကို ဖွင့်ဆိုရန်လည်း လက်တွေ့အသုံးပြု မည်ဖြစ်သည်။ ဤသုတေသနပြုမှု၌ ကျမ်းဂန်လာနည်းလမ်းနှင့် ဒဿနနည်းလမ်းများကို အသုံးပြုခြင်းဖြင့် ဤလေ့လာချက်သည် နိဗ္ဗာန်၏ပြောင်းလဲတိုးတက်မှုဖြင့် ယင်း၏ ပန်းတိုင်ကို ဖြည့်စွက်ပေးမည်ဖြစ်သည်။ ယင်းသည် ဤ ကျမ်းစာ၏ အဓိကရည်ရွယ်ချက်ဖြစ်သည်။

**ဤသုတေသနပြုမှု၏ လိုရင်းအချုပ်**

နိဗ္ဗာန်အဓိပ္ပါယ်ဖွင့်ဆိုမှုကို ဖော်ပြခြင်းနှင့်ပတ်သက်၍ ရှင်းလင်းသည့် ဗုဒ္ဓဝါဒအတွေးအမြင်မှာ ဝိပဿနာကမ္မဋ္ဌာန်းတရားပွားများအားထုတ်မှုမှရရှိသော ကိုယ်တိုင်သိရှိမှုမှတစ်ဆင့် နိဗ္ဗာန်၏ခမ်းနားမှုနှင့် အဓိကအားဖြင့် ပတ်သက်သည်။ သို့သော် ဤသုတေသနပြုချက်သည် ထေရဝါဒဗုဒ္ဓ ဘာသာရှုထောင့်ကို အခြေခံသည့် နိဗ္ဗာန်အဓိပ္ပါယ်ရှင်းလင်းမှုကို ကြိုးစားဆောင်ရွက်မည်ဖြစ်သည်။ နိဗ္ဗာန်ကို ကိုယ်တိုင်သိရှိမှုသည် မလွဲမသွေလိုအပ်ပြီး ယင်း၏အနှစ်သာရကို တိကျသည့် အဓိပ္ပါယ်ဖြင့် ဖွင့်ဆိုရန် မဖြစ်နိုင်ချေ။ သို့တစေ အားကိုးလောက်သည့် အကိုးအကားများဖြင့် ကျမ်းဂန်နည်းလမ်းနှင့် ဒဿနနည်းလမ်းများကို အခြေပြုသည့် ကြောင်းကျိုးဆီလျော်သည့် အဓိပ္ပါယ်ကို ရှာဖွေရန်မှု ဖြစ်နိုင်သည်။ ရှေ့တွင်ဖော်ပြပြီးဖြစ်သည့်အတိုင်း ဤသုတေသနပြုမှုအတွက် အားအကိုးရဆုံးသော ရင်းမြစ်များမှာ ပါဠိတော်များ၊ ယင်း၏အဖွင့်အဋ္ဌကထာဋီကာကျမ်းများ၊ ဗုဒ္ဓဘာသာ ကျမ်းဂန်စာပေများနှင့် မြန်မာဗုဒ္ဓဘာသာ ကျမ်းဂန်များဖြစ်သည်။

ဤကဏ္ဍသည် နိဗ္ဗာန်၏ ကျမ်းဂန်လာအဓိပ္ပာယ်များကို မည်သို့လေ့လာမည်ဟူသော အချက်ကို အကျဉ်းအားဖြင့် ဖော်ပြသည်။ အခန်း ၂ တွင် ပါဠိစာပေနှင့် ရှေးဦး ဗုဒ္ဓဘာသာနှင့်သက်ဆိုင်သည့် ရှေးခေတ် ရေးသားချက်များနှင့် ဗုဒ္ဓဘာသာနှင့် ဗုဒ္ဓဘာသာမဟုတ်သူ ပညာရှင်တို့၏ အဓိပ္ပါယ်ဖွင့်ဆိုချက်များကို အလေးပေးဖော်ပြမည်ဖြစ်သည်။ ဗုဒ္ဓဟောကြားခဲ့သည့် တရားတော်များနှင့် တိုက်ရိုက်ဆက်နွယ်မှုရရှိစေရန် ဤသုတေသနပြုမှုအတွက် ပါဠိစာပေသည် အလိုအပ်ဆုံးကိရိယာ တန်ဆာပလာဖြစ်သည်။ စာပေအတွေးအမြင်သည် နိဗ္ဗာန်အကြောင်းဖော်ပြသည့် ဗုဒ္ဓဘာသာကျမ်းဂန်များအပြင် ပညာရှင်တို့ အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့် အဓိကပတ်သက်သည်။ ဤအခန်းတွင် ခေတ်သစ်ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်များ၏ အယူအဆကိုလည်း ထည့်သွင်းဖော်ပြမည်ဖြစ်သည်။

အခန်း ၃ ၌ ကမ္မအယူအဆကို အခြေခံသည့် ဘဝတည်ရှိမှုနှင့် ဘဝမတည်ရှိမှုအယူအဆနှင့် ဗုဒ္ဓဝါဒ စကြဝဠာယူဆချက်နှင့်အတူ ဘဝသံသရာအကြောင်းကို ဖော်ပြမည်ဖြစ်သည်။ ပါဠိတော်ဖော်ပြချက်များ၌ နိဗ္ဗာန်နှင့် ဘဝသံသရာတို့နှင့်ပတ်သက်မှုရှိသည့် ဗုဒ္ဓဝါဒဆိုင်ရာ စကြဝဠာအယူအဆကို ဗုဒ္ဓဘာသာကျမ်းဂန်များ၌ ရှင်းလင်းစွာ ဖော်ပြသည်။ ဗုဒ္ဓဘာသာကျမ်းဂန်တို့၌ စကြဝဠာအယူအဆကို ဖော်ပြခြင်း၏ရည်ရွယ်ချက်မှာ ဘဝဖြစ်စဉ်နှင့်သေခြင်း၊ ဘဝတည်ရှိမှုမှုနှင့် ဘဝမတည်ရှိမှုတို့ကို ရှင်းပြရန်နှင့် နားလည်ရန်ဖြစ်သည်။ မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရရှိပြီးပုဂ္ဂိုလ်များသည် ဘဝသံသရာတွင် မည်သို့တည်ရှိသည် ဘဝသံသရာဆင်းရဲကို မည်သို့ပယ်ရှားနိုင်သည်တို့ကို သိမြင်ကြောင်း ဗုဒ္ဓဘာသာဝင်တို့ ယုံကြည်ကြသည်။ ဤအခန်း၌ ဗုဒ္ဓဝါဒစကြဝဠာဗေဒတွင် ဖော်ပြသည့်အတိုင်း သံသရာ၊ နိဗ္ဗာန်နှင့်ပတ်သက်သည့် စိတ်အမျိုးမျိုးနှင့် စေတသိက်အထွေထွေတို့၏ဖြစ်စဉ်ကို ရှင်းပြရန် အဘိဓမ္မာအတွေးအမြင်ကို အသုံးပြုထားသည်။

---

[၄၀] Ibid, 414.

[၄၁] Ibid, 415-416.

အခန်း ၄ သည် ပါဠိပညာရှင်များ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်အမျိုးမျိုးနှင့် ၎င်းတို့၏ဒဿနဆိုင်ရာ အယူအဆလိုရင်းကို သိရှိနိုင်ရန်ကြိုးပမ်းထားသည်။ ဤသုတေသနစာတမ်းသည် ၎င်းတို့၏အဓိပ္ပါယ်ဖွင့်ဆိုချက်များနှင့် အယူအဆများကို ပြန်ပြောင်းဖော်ပြသည်မှာ သေချာသည်။ နိဗ္ဗာန်ဟူသော စကားလုံးသည် နောက်ခံဂိုဏ်းဂဏအစဉ်အလာ အမျိုးမျိုးရှိသဖြင့် အဓိပ္ပါယ်အမျိုးမျိုးနှင့် အယူအဆအမျိုးမျိုးရှိနိုင်သည်။ အစဉ်အလာတိုင်းတွင် ယင်းအစဉ်အလာ တရားဓမ္မကို အခြေခံသည့် ကိုယ်ပိုင်တန်ဖိုးများရှိသည်။ ဤလေ့လာချက်၏ လုပ်ဆောင်မှုတစ်ရပ်မှာ ပညာရှင်တို့၏အယူအဆမျိုးစုံကို နားလည်ရန်နှင့် နိဗ္ဗာန်ဟူသောပုဒ်၏အဓိပ္ပါယ်ကို ပါဠိစာပေ၌ မည်သို့ဖွင့်ဆိုရန် ကြိုးပမ်းခဲ့ကြသည်ဟူသောအချက်ကို ရှင်းပြရန်ဖြစ်သည်။ ထို့ပြင် နိဗ္ဗာန်၏ဒဿနဆိုင်ရာ ယူဆချက်နှင့်သက်ဆိုင်သော ပညာရှင်မျိုးစုံ၏ ရှုထောင့်အမျိုးမျိုးကိုလည်း ထည့်သွင်းဖော်ပြထားသည်။ အမှတ်စင်စစ် ဗုဒ္ဓဘာသာပညာရှင်များ၏ အယူအဆအမျိုးမျိုးကို နှိုင်းယှဉ်ပြခြင်းဖြင့် ဗုဒ္ဓဝါဒကို နှိုင်းယှဉ်လေ့လာမှုအတွက် ကျယ်ပြန့်သည့် အတွေးအမြင်များကို ရရှိစေနိုင်မည်ဖြစ်သည်။

အခန်း ၅ တွင် ဝိပဿနာကမ္မဋ္ဌာန်းဟုလည်း လူသိများသည့် သတိပဋ္ဌာန်လေးပါးနည်းလမ်းကို အသုံးပြုလျက် လက်တွေ့လေ့ကျင့်အားထုတ်မှုကို အဓိကအထူးပြုဖော်ပြထားသည်။ မူလဘူတအားဖြင့် ဗုဒ္ဓရှင်တော်မြတ် ဟောကြားတော်မူခဲ့သည့် ယင်းနည်းလမ်းသည် ဝိပဿနာဉာဏ် တိုးတက်မှုအတွက် လမ်းစဉ်ဖြစ်သည်။ သို့ရာတွင် အေဒီ ၅ ရာစုတွင် ထင်ရှားခဲ့သူ အဋ္ဌကထာဆရာကြီး အရှင်မဟာဗုဒ္ဓဃောသဖွင့်ဆိုသည့် အဋ္ဌကထာကျမ်း၌ သတိပဋ္ဌာန်နည်းလမ်းအကြောင်းကို စနစ်တကျ စေ့စေ့စပ်စပ်ရှင်းပြပြီး နားလည်လွယ်သည့် ဖွင့်ဆိုချက်များဖြင့် ပိုမိုအသေးစိတ် ဖော်ပြခဲ့သည်။ အဋ္ဌကထာဆရာကြီးသည် သတိပဋ္ဌာန်နည်းလမ်းကို အမျိုးအစားခွဲခြားခြင်းများ၊ ဥပမာများ၊ ညွှန်ကြားချက်များနှင့် ရှင်းလင်းသည့် ရှုထောင့်များဖြင့် ဂရုတစိုက် ခွဲခြမ်းစိတ်ဖြာဖော်ပြခဲ့သည်။ အရေးပါသည့် အခြားကျမ်းဂန်အချို့မှာ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာနှင့် မဟာဝဂ္ဂ (မဟာသတိပဋ္ဌာနသုတ်)အဋ္ဌကထာတို့ဖြစ်သည်။ ယင်းကျမ်းဂန်များမှာ ကမ္မဋ္ဌာန်းလေ့ကျင့် အားထုတ်သူများအဖို့ ၎င်းတို့၏ စိတ်ပိုင်းဘဝလမ်းစဉ်မှန်ကို နားလည်ရန် အလွန်အရေးပါသည်။ သတိပဋ္ဌာန်ကမ္မဋ္ဌာန်း နည်းလမ်းကို အခန်း ၅ တွင် အဓိက ဆွေးနွေးမည်ဖြစ်သည်။

နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုဆိုင်ရာ ဖော်ပြချက်များနှင့်ပတ်သက်၍ နိဗ္ဗာန်၏အဓိပ္ပာယ်ကိုနားလည်ရန် ပညာရည်အဆင့်မြင့် အဓိပ္ပာယ်ဖွင့်ဆိုရုံဖြင့် မလုံလောက်ဘဲ သီအိုရီနှင့် လက်တွေ့ကျင့်ကြံမှုတို့ကို ထည့်သွင်းစဉ်စား အသုံးချရမည်ဖြစ်ကြောင်း ဤသုတေသနပြုသူက ယူဆသည်။ ပထမဆုံးအနေဖြင့် သီအိုရီရှုထောင့်မှ နိဗ္ဗာန်ဟူသည် အဘယ်နည်းဟူ၍ ဖြစ်သည်။

၀၀၀၀၀၀

## အခန်း ၂

## ရှုထောင့်မျိုးစုံမှ နိဗ္ဗာန်အယူအဆ

**နိဗ္ဗာနပုဒ်၏ ဝေါဟာရရင်းမြစ်**

ပါဠိတော် အဋ္ဌကထာဋီကာကျမ်းများ၌တွေ့ရသည့် နိဗ္ဗာနပုဒ်ကို အဓိပ္ပာယ်ကောက်ယူရန် ခက်ခဲမှုတစ်ရပ်အဖြစ် ယူဆသည်။ ပါဠိအဋ္ဌကထာဋီကာကျမ်းပြုဆရာများနှင့် ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူပညာရှင်များသည် နိဗ္ဗာန်အဓိပ္ပာယ်ကို သိလိုကြသည့် ပရိသတ်မျိုးစုံအား ၎င်းတို့၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုကို ပေးခဲ့ကြသည်။ သို့ရာတွင် ၎င်းတို့ ၏ဖွင့်ဆိုချက်နှင့် အဓိပ္ပာယ်ကောက်ယူချက်များသည် မတူကွဲပြားခြားနားသည့် နိဂုံးများကို ဖြစ်ပေါ်စေသည်။ ယင်းသည် နိဗ္ဗာန်အယူအဆ ရှုပ်ထွေးမှုလျော့နည်းစေရန်နှင့် ယင်းဝေါဟာရ၏ ပိုမိုလေးစားဖွယ် ဖွင့်ဆိုချက်တစ်ရပ်ဖြစ်ရန် ပညာရှင်များ၏ အဓိပ္ပာယ်ကောက်ယူပုံများစွာကို ခွဲခြမ်းဖြာရန် ကြိုးစားမှု၏ အကြောင်းတစ်ရပ်ဖြစ်သည်။ သို့ဖြစ်၍လည်း ဤလေ့လာမှု၌ ဗုဒ္ဓဝါဒအစဉ်အလာအားလုံးနှင့် အမြဲတမ်း ညီညွတ်မှုမရှိသည့် နိဂုံးကောက်ချက်များကို တွေ့ရမည်ဖြစ်သည်။

ဗုဒ္ဓ၏အခြေခံတရားဓမ္မများနှင့် နိဗ္ဗာန်အဓိပ္ပာယ်ကောက်ယူမှုများကိုပိုမိုနားလည်ရန် ဗုဒ္ဓဝါဒအပေါ် မကောင်းမြင်ဝါဒအဖြစ် ပစ်ပယ်ထားမည့်အစား ဗုဒ္ဓဝါဒကျမ်းဂန်စာပေနှင့် ယင်း၏ခမ်းနားမှုအဆောက်အအုံကို မသိကျိုးကျွံပြုရန် မဖြစ်နိုင်ချေ။ ပါဠိတော်ကျမ်းဂန်များ၌ ဗုဒ္ဓဝါဒအယူအဆများကို ရှင်းလင်းမှုပါဝင်သည်။ ထိုအချိန်မှစ၍ နိဗ္ဗာန်အယူအဆလည်း စတင်ခဲ့ပြီး ယင်းနိဗ္ဗာန်၏ခမ်းနားမှုကို အသိအမှတ်ပြုခြင်းများလည်း ပါဝင်သည်။ ထိုအချက်ကို သိမထားခဲ့မူ နိဗ္ဗာန်အယူအဆနှင့် မေးခွန်းများစွာ ပေါ်ပေါက်လာမည်မှာ သံသယဖြစ်ဖွယ်မလိုချေ။

အဘိဓမ္မတ္ထသင်္ဂဟကျမ်း၌ နိဗ္ဗာန်ကို ပရမတ္ထဓမ္မလေးပါးတွင် ထည့်သွင်းဖော်ပြခဲ့သည်။ ပရမတ္ထဟူသောဝေါဟာရ၌ ပရမနှင့် အတ္ထဟုပုဒ်နှစ်ခုပါသည်။ **ပရမ**ဟူသည် မဖောက်ပြန်သော၊ အမြင့်ဆုံးဖြစ်သော၊ နောက်ဆုံးဖြစ်သောဟု အဓိပ္ပာယ်ရသည်။ **အတ္ထ**ဟူသည် အစစ်အမှတ်တရားဖြစ်ပြီး **ဓမ္မ**ဟူသည် အရည်အသွေး၊ သဘာဝ သို့မဟုတ် အရာဝတ္ထု ဖြစ်သည်။ သို့ဖြစ်၍ **ပရမတ္ထဓမ္မ**များဟူသည် မဖောက်ပြန်သည့် ကိုယ်ပိုင်သဘာဝနှင့် တည်ရှိနေသောအရာများ သို့မဟုတ် သဘာဝတရားများဟုဖြစ်သည်။ ယင်းသဘောတရားများသည် ဘဝ၏နောက်ဆုံးနှင့် နောက်ထပ်မရှိနိုင်တော့သော တရားအစု အပေါင်းဖြစ်သည်။ အဘိဓမ္မတ္ထသင်္ဂဟကျမ်းအလိုအရ ပရမတ္ထတရားများတွင် စိတ်၊ စေတသိက်၊ ရုပ်နှင့် နိဗ္ဗာန်ဟု တရားအစု လေးခုပါရှိသည်။ ယင်းလေးမျိုးအနက် ပထမသုံးမျိုးမှာ သင်္ခါတ(ဖြစ်ပျက်တတ်သော)တရားများဖြစ်ပြီး လေးခုမြောက်နိဗ္ဗာန်မှာ အသင်္ခတ(ဖြစ်ပျက်မဲ့)တရားဖြစ်သည်။ ယင်းအရ နိဗ္ဗာန်ဟူသည် ဘဝဒုက္ခမှ နောက်ဆုံး လွတ်မြောက်သည့် အဆင့်ဖြစ်သဖြင့် ဖြစ်ပျက်သဘောရှိသောဘဝ၌ ပါဝင်ခြင်းမရှိကြောင်း ဆိုလိုသည်[၄၂]။ အဘိဓမ္မတ္ထသင်္ဂဟကျမ်းတွင် ပရမတ္ထတရားလေးမျိုးကို အောက်ပါအတိုင်း မှတ်တမ်းတင်ခဲ့သည်-

> တတ္ထ ဝုတ္တာဘိဓမ္မတ္ထာ၊ စတုဓာ ပရမတ္ထတော။
> စိတ္တံ စေတသိကံ၊ ရူပံ နိဗ္ဗာနမိတိ သဗ္ဗထာ[၄၃]။

ဤသို့ တထာဂတဘုရားရှင်တို့သည် ပရမတ္ထတရားကို လေးမျိုးရှိကြောင်း ဖော်ထုတ်တော်မူခဲ့ကြ၏။ ယင်းတို့ကား စိတ်၊ စေတ သိက်၊ ရုပ်နှင့် နိဗ္ဗာန်တို့တည်း[၄၄]။

ဗုဒ္ဓဘာသာကျမ်းစာများအလိုအရ နိဗ္ဗာန်သည် တစ်ခုတည်းသော အနှစ်သာရ သို့မဟုတ် မပြောင်းလဲသော သဘာဝ ရှိ၏။ ဆိုလိုသည်မှာ တဒေတံ သဘာဝတော ဧကဝိ ဓမ္မံ = နိဗ္ဗာန်သည် သဘာဝအားဖြင့် တစ်ခုတည်းသော လက္ခဏာ

[၄၂] Ac-Ab, 25-27.

[၄၃] Baddanta Anurudda Thera, *Abhidhammatthasangaha Pali* (Rangoon, Burmma; Department of Religious Affairs, 1993), 114.

[၄၄] Ac-Ab, 260.

ရှိ၏။ နိဗ္ဗာန်၏ အလိုအပ်ဆုံးသော အရည်အသွေးမှာ အဘယ်နည်း။ ယင်းကား သန္တိလက္ခဏံ နိဗ္ဗာနံ = နိဗ္ဗာန်သည် အလုံးစုံငြိမ်းချမ်းခြင်း သို့မဟုတ် ပြုပြင်ပြောင်းလဲခြင်းမရှိသော လက္ခဏာရှိ၏ဟုဖြစ်သည်[၉၅]။

သို့ရာတွင် ခုဒ္ဒကနိကာယ် ဣတိဝုတ္တကပါဠိတော်၌ နိဗ္ဗာန်အပြား နှစ်ပါးရှိကြောင်းဖော်ပြသည်။ ဖော်ပြချက်မှာ 'ဒွေမာ ဘိက္ခဝေ နိဗ္ဗာနဓာတုယော၊ ကတမေ ဒွေ? သဉပါဒိသေသာ စ နိဗ္ဗာနဓာတု အနုပါဒိသေသာ စ နိဗ္ဗာနဓာတု = ရဟန်းတို့၊ နိဗ္ဗာနဓာတ် နှစ်မျိုးရှိပေ၏။ အဘယ်နှစ်မျိုးတို့ နည်းဟူမူ ၁) ဉပါဒိ အကြွင်းရှိသော နိဗ္ဗာနဓာတ်နှင့် ၂) ဉပါဒိ အကြွင်းမရှိသော နိဗ္ဗာနဓာတ်တို့ဖြစ်၏'[၉၆] ဟုဖြစ်သည်။ ဆိုလိုသည်မှာ သဉပါဒိသေသနိဗ္ဗာန်ဟူသည် စိတ်ပိုင်းဆိုင်ရာ လွတ်မြောက်မှုကို တွေ့ကြုံသိရှိခြင်းတစ်မျိုးဖြစ်သည်။ သတ္တဝါတစ်ယောက်၏ ဘဝသက်တမ်းအတွင်း ကိလေသာအညစ်အကြေးအကြောင့်ဖြစ်ပေါ်ရသည့် ဆင်းရဲဒုက္ခမှ လွတ်မြောက်ခြင်းဖြစ်သည်။ အနုပါဒိသေသနိဗ္ဗာန်ဟူသည် ကိုယ်ခန္ဓာ လွတ်မြောက်မှုကို တွေ့ကြုံသိရှိမှုနောက်တစ်မျိုးဖြစ်သည်။ ယင်းသည် နိဗ္ဗာန်ကို ရရှိပြီးနောက် ခန္ဓာငါးပါး (ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ) နှင့် ဆက်စပ်ပတ်သက်နေသည့် ဆင်းရဲအားလုံးမှ လွတ်မြောက်မှုဖြစ်သည်။

နိဗ္ဗာနဟူသော ဝေါဟာရသည် ပါဠိတော်များ၌ အခါအားလျော်စွာ တွေ့ရသော်လည်း ယင်း၏အဓိပ္ပာယ်မှာ များပြားသည်။ လန်ဒန်ပါဠိအသင်းအဘိဓာန် (P.T.S.)အရ **နိရ်** နှင့် **ဝါ** ဟု ပုဒ်ရင်းနှစ်ခုပါရှိသည့် **နေရ်ဗာန**ပုဒ်ကို ဝေဒခေတ်တွင် သုံးစွဲနေပြီးဖြစ်သည်။ အဓိပ္ပါယ်မှာ ငြိမ်းစေခြင်း သို့မဟုတ် ငြိမ်းသတ်ခြင်းဖြစ်သည်။ သို့ရာတွင် မီးကိုငြိမ်းအောင် အားထုတ်ခြင်းဟူသည် လောဘ၊ ဒေါသ၊ မောဟဟူသောဝေါဟာရတို့ကို မီးများအဖြစ် ဗုဒ္ဓဝါဒအတွေးအမြင်၌ ထင်ရှားနေပြီဖြစ်ကြောင်း ဆိုလိုသည်။ နိဗ္ဗာနဟူသော ပါဠိစကားလုံးသည် နိဗ္ဗန္တိ ဟူသော ကြိယာပုဒ်မှ ဆင်းသက်လာသည်။ နိဗ္ဗန္တိ ဟူသောပုဒ်ကို ခုဒ္ဒကနိကာယ်ဝင် ရတနသုတ်တော်၌ 'နိဗ္ဗန္တိ ဓီရာ ယထာယံ ပဒီပေါ (ပညာရှိပုဂ္ဂိုလ်တို့သည် မီးအိမ်များငြိမ်းသကဲ့သို့ ငြိမ်းကြကုန်၏)'ဟု တွေ့ရသည်။ ဆိုလိုသည်မှာ ငြိမ်းသတ်ခြင်းဟု အဓိပ္ပာယ်ရသည်။ ဤဖော်ပြချက်၌ နိဗ္ဗာန်ဟူသည် လောဘ၊ ဒေါသ၊ မောဟဟူသော လောကီမီးများကို ငြိမ်းသတ်ခြင်းဟု အဓိပ္ပါယ်သက်ရောက်သည်[၉၇]။

ဝေါဟာရရင်းမြစ်အရ နိဗ္ဗာနဟူသောပုဒ်သည် ပါဠိဘာသာ နိနှင့် ဝါနဟူသော နှစ်ပုဒ်တို့ကို ဆက်စပ်ထားသော ဝေါဟာရဖြစ်သည်။ ဤနေရာ၌ နိဟူသည် မရှိခြင်း သို့မဟုတ် ထွက်ခွာခြင်း (နိက္ခန္တတ္တာ)ဖြစ်ပြီး၊ ဝါနဟူသည် တဏှာဖြစ်သည်။ အဘိဓမ္မတ္ထဝိဘာဝိနီဋီကာ၌'ဝါနသင်္ခါတာယ တဏှာယ နိက္ခန္တတ္တာ (ဝါနဟုဆိုအပ်သော တဏှာမှ ထွက်မြောက်တတ်သောကြောင့်)'ဟုဖော်ပြသည်[၉၈]။ ဝါနဟုဆိုအပ်သော တဏှာမှထွက်မြောက်ခြင်းဟု အဓိပ္ပါယ်ရသည်။ နှစ်ပုဒ်ပေါင်း နိ+ဝါန ဟူသည် တဏှာမှ လွတ်မြောက်ခြင်းဖြစ်သည်။ ပါဠိသဒ္ဒါပုံစံအရ ဝါနပုဒ်ရှေ့၌ နောက်ထပ် 'ဝ'တစ်လုံး ဆက်ထည့်ရသည်။ သို့ဖြင့် ဝါနပုဒ်သည် ဝ+ဝါန = **ဝွါန** ဟု ဆက်စပ်ပုဒ် ဖြစ်လာသည်။ ယင်း **ဝွါန**သည် သဒ္ဒါနည်းအရ **ဗ္ဗာန** ဖြစ်လာသဖြင့် **နိ+ဗ္ဗာန**သည် ပါဠိပုံစံကျ နိဗ္ဗာနပုဒ်ဖြစ်လာသည်။ တဏှာမှ လွတ်မြောက်ခြင်းဟု အဓိပ္ပါယ်ရသည်[၉၉]။

သို့ရာတွင် သစ္စာလေးပါးတရား၌ ဗုဒ္ဓရှင်တော်မြတ်က ဒုက္ခချုပ်ငြိမ်းခြင်း နိဗ္ဗာနပုဒ်နှင့် အဓိပ္ပာယ်တူဟု ယူဆရသည့် နိရောဓသစ္စာကို တတိယသစ္စာအဖြစ် ဒီဃနိကာယ် မဟာသတိပဋ္ဌာနသုတ်တော်၌ မှတ်တမ်းတင်ခဲ့သည်။ ဟောကြားချက်ကို အောက်အတိုင်းတွေ့ရသည် -

> ကတမဉ္စ ဘိက္ခဝေ ဒုက္ခနိရောဓံ အရိယသစ္စံ၊ ယော တဿာယေဝ တဏှာယ အသေသဝိရာဂနိရောဓော စာဂေါ ပဋိနိဿဂ္ဂေါ မုတ္တိ အနာလယော --- ဧတ္ထေသာ တဏှာ ပဟီယမာနာ ပဟီယတိ၊ ဧတ္ထ နိရုဇ္ဈမာနာ နိရုဇ္ဈတိ၊ ဣဒံ ဝုစ္စတိ ဘိက္ခဝေ ဒုက္ခနိရောဓံ အရိယသစ္စံ[၁၀၀]။
> ရဟန်းတို့ ဒုက္ခနိရောဓသစ္စာဟူသည် အဘယ်နည်း။ ယင်းသည် တဏှာ၏ လုံးဝအကြွင်းမဲ့ ပျောက်ကင်း ချုပ်ငြိမ်းသွားခြင်း၊ တဏှာကို စွန့်ခြင်း၊ လွှတ်ခြင်း၊ တဏှာမှ လွတ်မြောက်ခြင်း၊ မကပ်ငြိခြင်း --- တဏှာကို ပယ်အပ်သော် ချုပ်ငြိမ်းမှုပေါ်လာ၏။ ရဟန်းတို့ ယင်းချုပ်ငြိမ်းမှုကို ဒုက္ခနိရောဓသစ္စာဟုခေါ်၏[၁၀၁]။

---

[၉၅] Ashin Janakabhivamsa Sayadaw, *Abhidhammattha-Sangaha-bhasa-tika* (Rangoon, Burma: Departement of Religious Affairs, 1979), 545.
[၉၆] *Itivuttaka Pali, Khuddaka-Nikaya* (Rangoon, Burma: Department of Religious Affairs, 1972), 221.
[၉၇] *Khuddakapatha Pali, Khuddaka-Nikaya* (Rangoon, Burma: Department of Religious Affairs, 1972) 221.
[၉၈] Baddanta Sumangalasami-thera, *Abhidhammatthavibhavini-tika* (Rangoon, Burma: Department of Religious Affairs, 1990), 216.
[၉၉] Ab-B-T, 544.
[၁၀၀] Ma-P, Di-N Vol. II, 247, 249.
[၁၀၁] Di-N-NT, 347-348

ဤကျမ်းဂန်ဖော်ပြချက်၌ ဒီဃနိကာယ် မဟာဝဂ္ဂပါဠိအဋ္ဌကထာအလိုအရ နိရောဓဟူသော ဝေါဟာရသည် နိဗ္ဗာန ပုဒ်၏ ပရိယာယ်တူဖြစ်သည်။ နိဗ္ဗာန် (ကိုရရှိပြီး) အခြေအနေတွင် တဏှာသည် လုံးဝပြတ်စဲ၏။ သို့ဖြင့် နိဗ္ဗာန ဟူသော ဝေါဟာရကို ဤနေရာ၌ နိရောဓဟူသောပုဒ်နှင့် အဓိပ္ပါယ်တူရှိကြောင်း နားလည်ရသည်။ ပါဠိဘာသာ ဖော်ပြချက်၌ 'အသေသဝိရာဂနိရောဓောတိအာဒီနိ သဗ္ဗာနိ နိဗ္ဗာနဝေဝစနာနေဝ (အသေသဝိရာဂနိရောဓစသော ဝေါဟာရတို့မှာ နိဗ္ဗာနပုဒ်၏ ပရိယာယ်တူများသာ ဖြစ်ကြသည်)[၃၂]' ဟုတွေ့ရသည်။ သို့ဖြစ်၍ နိရောဓသစ္စာဟူသော စကားစပ်၌ နိရောဓ ဟူသော ဝေါဟာရသည် နိဗ္ဗာနပုဒ်နှင့် အဓိပ္ပါယ်အတူတူဖြစ်သည်။

မည်သည့်အမည်နာမနှင့် အဓိပ္ပါယ်တူပုဒ်များကို အသုံးပြုသည်ဖြစ်စေ နိဗ္ဗာန်၏အနှစ်သာရမှာ သန္တိလက္ခဏာ(အဆုံးစွန် ငြိမ်းချမ်းမှု) တစ်ခုသာဖြစ်သည်။ သို့တစ်စေ နိဗ္ဗာနပုဒ်သည် အဓိပ္ပါယ်များစွာရှိနိုင်သည်။ ဥပမာအားဖြင့် အသေသဝိရာဂ (တဏှာမှ အကြွင်းမဲ့လွတ်မြောက်ခြင်း)၊ အသေသနိရောဓ (တဏှာအကြွင်းမဲ့ချုပ်ငြိမ်းခြင်း)၊ စာဂ (စွန့်လွှတ်ခြင်း)၊ ပဋိနိဿဂ္ဂ (စွန့်ပစ်ခြင်း)၊ မုတ္တိ (လွတ်မြောက်ခြင်း)၊ အနာလယ (မကပ်ငြိခြင်း)၊ အနာယူဟန (ပြုပြင်မှုမရှိခြင်း)၊ အပ္ပဋိသန္ဓိ (တစ်ဖန်ပဋိသန္ဓေမနေခြင်း)၊ အဂတိ (ဘဝမရှိခြင်း)၊ အဇာတ (အသစ်တစ်ဖန် မဖြစ်ခြင်း)၊ အဇရာ (အိုမှုမရှိခြင်း)၊ အဗျာဓိ (အနာရောဂါမရှိခြင်း)၊ အမတ (သေမှုမရှိခြင်း)၊ အသောက (သောကမရှိခြင်း)၊ အပရိဒေဝ (ငိုကြွေးမှုမရှိခြင်း)၊ အနုပါယာသ (ပူဆွေးမှုမရှိခြင်း)၊ အသံကိလိဋ္ဌ (အညစ်အကြေးမရှိခြင်း) စသည်တို့ဖြစ်သည်။ အထက်ပါ ဖော်ပြချက်များမှာ ဒီဃနိကာယ် မဟာသတိပဋ္ဌာနသုတ်အဋ္ဌကထာမှ ဖြစ်သည်[၃၃]။

အမှန်စင်စစ်မူ နိဗ္ဗာနပုဒ်၏ ပရိယာယ်ပုဒ်များမှာ ယင်းဖော်ပြပါ အမည်များထက်ပင် များသေးသည်။ အထက်ပါ ဖော်ပြချက်၌ ထင်ရှားပြီး အသုံးများသည့် နိဗ္ဗာန်၏ ပရိယာယ်ပုဒ်များ မပါဝင်သေးချေ။ ဤ၌ ပါဠိစာပေလာအချို့ကို ထုတ်ပြဖော်ပြရမူ သုညတ (ဆိတ်သုံးခြင်း)၊ အဘူတ (မရှိခြင်း)၊ သန္တိ (ငြိမ်းချမ်းခြင်း) နှင့် ခေမ (ဘေးကင်းခြင်း၊ တည်ငြိမ်ခြင်း၊ ငြိမ်းချမ်းမှု ပြည့်ဝခြင်း) တို့ဖြစ်သည်။ နိဗ္ဗာနပုဒ်၏ ပရိယာယ်တူပုဒ်များကို လေ့လာမှုမှာ စိတ်ဝင်စားဖွယ်ကောင်းသည်။ အမှန်အားဖြင့် ပါဠိရော သက္ကတပါ အင်္ဂလိပ်ဘာသာကဲ့သို့ ပရိယာယ်တူပုဒ်များ ကြွယ်ဝကြသည်။ အင်္ဂလိပ်ဘာသာတွင် ပရိယာယ်တူပုဒ်များနှင့် သံတူကြောင်းကွဲဝေါဟာရများကို ဖော်ပြသည့် ဝေါဟာရပဒေသာကျမ်းများရှိသကဲ့သို့ ပါဠိနှင့်သက္ကတဘာသာတို့၌လည်း အဘိဓာန်ဟုခေါ်သည့် အလားတူကျမ်းစာများရှိသည်။ ပါဠိဘာသာတွင် အဓိပ္ပာယ်တူသည့် ပုဒ်အမျိုးမျိုးကို ဖော်ပြသည့် အဘိဓာနပ္ပဒီပိကာခေါ်သည့် ကျမ်းစာတစ်စောင်ရှိသည်။ ယင်းကျမ်းစာ၏ အဓိက အစိတ်အပိုင်းတွင် ပရိယာယ်တူပုဒ်များကို စုဆောင်းဖော်ပြထားပြီး ပဏ္ဏာမနှင့်နိဂုံးမပါဘဲ ဂါထာပုဒ်ရေ ၁၂၀၃ ပါရှိသည်။ ယင်းကျမ်းစာ၌ နိဗ္ဗာနပုဒ်၏ ပရိယာယ်တူပုဒ်များကို ဖော်ပြထားသည်။ ယင်းကျမ်းအရ နိဗ္ဗာန်၏ ပရိယာယ်တူ ပုဒ် ၄၆ ခုရှိသည်[၃၄]။

ဗုဒ္ဓဘာသာစာပေတွင် နိဗ္ဗာန်၏အဓိပ္ပါယ်ကို ဖွင့်ဆိုရန် အသင်္ခတပုဒ်ကို မကြာခဏဖော်ပြလေ့ရှိသည်။ အသင်္ခတပုဒ်သည်လည်း နိဗ္ဗာန်၏ ပရိယာယ်တူပုဒ်ပင်ဖြစ်သည်။ ဝေါဟာရခွဲခြမ်းစိတ်ဖြာနည်းလမ်းအရ အသင်္ခတပုဒ်မှာ ပါဠိစာပေ၌ **အ**-နှင့် **သင်္ခတ** နှစ်ပုဒ်ကို ဆက်စပ်ထားခြင်းဖြစ်သည်။ **အ**-ဟူသည် မရှိခြင်း၊ သင်္ခတဟူသည် ပြုပြင်ခြင်းဖြစ်သည်။ အဓိပ္ပာယ်မှာ 'ပစ္စယေဟိ အဘိသင်္ခရိတတ္တာ သင်္ခတံ (အကြောင်းတရားတို့ ပြုပြင်ခြင်းခံရသောကြောင့် ခန္ဓာငါးပါးသည်

---

[၃၂] Bhaddanta Buddhaghosa Thera, *Mahava-atthakatha* (Rangoon, Burma, Department of Religious Affairs,1992), 390.

[၃၃] DI-N-A Vol. II, 390. အဋ္ဌကထာဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည် - ဧကမေဝ ဟိ နိဗ္ဗာနံ။ နာမာနိ ပနဿ သဗ္ဗသင်္ခတာနံ နာမပဋိပက္ခဝသေန အနေကာနိ ဟောန္တိ။ သေယျထိဒံ - အသေသဝိရာဂေါ အသေသနိရောဓော စာဂေါ ပဋိနိဿဂ္ဂေါ မုတ္တိ အနာလယော ရာဂက္ခယော ဒေါသက္ခယော မောဟက္ခယော တဏှက္ခယော အနုပ္ပါဒေါ အပ္ပဝတ္တံ အနိမိတ္တံ အပ္ပဏိဟိတံ အနာယူဟနံ အပ္ပဋိသန္ဓိ အနုပ္ပပတ္တိ အဂတိ အဇာတံ အဇရံ အဗျာဓိ အမတံ အသောကံ အပရိဒေဝံ အနုပါယာသံ အသံကိလိဋ္ဌန္တိ။

[၃၄] မောက္ခော နိရောဓော နိဗ္ဗာနံ၊ ဒီပေါ တဏှာက္ခယော ပရံ။
တာဏံ လေဏမရူပဉ္စ၊ သန္တံ သစ္စမနာလယံ။
အသင်္ခတံ သိဝမမတံ သုဒုဒ္ဒသံ၊ ပရာယနံ သရဏံ မနီတိကံ တထာ။
အနာသဝံ ဓုဝံ မနိဒဿနာကတာ၊ ပလောကိတံ နိပုဏ မနန္တ မသ်ခ္ခရံ။
ဒုက္ခက္ခယော ဗျာဗဇ္ဈဉ္စ၊ ဝိဝဋ္ဋံ ခေမ ကေဝလံ။
အပဝဂ္ဂေါ ဝိရာဂေါ စ၊ ပဏီတ မစ္စုတံ ပဒံ။
ယောဂက္ခေယော ပါရမပိ၊ မုတ္တိ သန္တိ ဝိသုဒ္ဓိယော။
ဝိမုတ္ယျာသင်္ခတဓာတု၊ သုဒ္ဓိ နိဗ္ဗုတိယော သိယုံ။

ဖော်ပြပါ ဂါထာများကို အရှင်မောဂ္ဂလ္လာနမဟာထေရ်က မှတ်တမ်းတင်ခဲ့ခြင်းဖြစ်သည်။ *Abhidhanappadipika* (Rangoon, Burma: Department of Religious Affairs, 1990), 3-4.

သခ်တမည်၏ဟု)' ဖြစ်သည်။ အကြောင်းတရားဟူသည် ကံ (ကိုယ်နှုတ်နှလုံး အပြုအမူ)၊ စိတ်၊ ဥတု (အအေးအပူစသည်) အာဟာရ တို့ဖြစ်သည်။ ဤဖွင့်ဆိုချက်အရ အသခ်တဟူသည် (ကံ စိတ် ဥတု အာဟာရတို့၏) ပြုပြင်ခြင်းမခံရသော တရားဟုအဓိပ္ပာယ်ရသည်[၅၅]။

အသခ်တဟူသော ဝေါဟာရကို ဒီဃနိကာယ်၊ မဟာပရိနိဗ္ဗာနသုတ်၌ဖော်ပြ၏။ ယင်းဖော်ပြချက်များသည် ဝေါဟာရ ခွဲခြမ်းစိတ်ဖြာနည်းရှုထောင့်မှ အသခ်တနှင့် နိဗ္ဗာနပုဒ်တို့ တစ်ခုနှင့်တစ်ခု ဆက်စပ်ပုံကို ဖော်ပြသည်။ ယင်းဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

ပရိနိဗ္ဗုတေ ဘဂဝတိ သဟပရိနိဗ္ဗာနာ သက္ကော ဒေဝါနမိန္ဒော ဣမံ ဂါထံ အဘာသိ -
အနိစ္စာ ဝတ သင်္ခါရာ၊ ဥပ္ပါဒဝယဓမ္မိနော။
ဥပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ၊ တေသံ ဝူပသမော သုခေါ[၅၆]။
ဗုဒ္ဓရှင်တော်မြတ် ပရိနိဗ္ဗာန်စံလွန်တော်မူသော် နတ်တို့သနင်း သိကြားမင်းသည် ဤဂါထာကို ရွတ်ဆို၏-
သင်္ခါရတရာတို့သည် မမြဲပါတကား။ ဖြစ်ခြင်းပျက်ခြင်း သဘောရှိ၏။ ဖြစ်ပေါ်ပြီးနောက် ပျက်စီး၏။ ယင်းတရားတို့ ချုပ်ငြိမ်းခြင်းကား အမှန်ကန်ဆုံး ချမ်းသာတည်း[၅၇]။

တေသံ ဝူပသမော သုခေါ (ယင်းတရားတို့ ချုပ်ငြိမ်းခြင်းကား အမှန်ကန်ဆုံး ချမ်းသာတည်း)ဟူသော စကားရပ်သည် ဤဖော်ပြချက်၌ ရှင်းလင်းပုံမရချေ။ သို့ဖြစ်၍ အဋ္ဌကထာဆရာ အရှင်မဟာဗုဒ္ဓဃောသက ဒီဃနိကာယ်၊ မဟာဝဂ္ဂအဋ္ဌကထာ၌ အောက်ပါအတိုင်း ရှင်းပြသည် -

**တေသံ ဝူပသမော**တိ တေသံ သင်္ခါရာနံ ဝူပသမော၊ အသခ်တံ နိဗ္ဗာနမေဝ သုခန္တိ အတ္ထော[၅၈]။
တေသံ ဝူပသမော (ယင်းတရားတို့ချုပ်ငြိမ်းခြင်းကား အမှန်ကန်ဆုံး ချမ်းသာတည်း) ဟူသည် သင်္ခါရတရားတို့ ပြတ်စဲချုပ်ငြိမ်းခြင်းကြောင့် ယင်းတရားတို့ချုပ်ငြိမ်းသည့် နိဗ္ဗာန်သည်သာ အမှန်ဆုံး ပျော်ရွှင်မှုဖြစ်သည်ဟု ဆိုလို၏[၅၉]။

ယင်းဖော်ပြချက်၌ နိဗ္ဗာနပုဒ်နှင့် အသခ်တပုဒ်တို့သည် ဝေါဟာရမျှသာ ကွဲပြားပြီး အဓိပ္ပာယ် အတူတူဖြစ်သည်။ နိဗ္ဗာန်၏ အဓိပ္ပာယ်နှင့်ပတ်သက်၍ နားလည်ရသည်မှာ တစ်စုံတစ်ခုသည် ပြုပြင်စီရင်ခြင်းခံရသော သဘောရှိလျှင် ယင်းသည် မွေးဖွားခြင်း ဖြစ်ပေါ်ခြင်းသဘောရှိပြီး ပြုပြင်ခံသခ်တတရားတို့သည် ချုပ်ပျောက်ပျက်စီးခြင်း သဘောရှိ၏၊ ယင်းသို့ မဖြစ်နှင့် ချုပ်ပျောက်ပျက်စီးခြင်းမရှိပါစေနှင့်ဟု မည်သူမျှ တောင့်တ၍မရနိုင်၊ နိဗ္ဗာန်ဟူသည်ကား ပြုပြင်ခံတရားမဟုတ်သဖြင့် ချုပ်ပျက်ခြင်း မွေးဖွားခြင်း သို့မဟုတ် တစ်ဖန်ဖြစ်ပေါ်ခြင်းသဘောမရှိ ဟူ၍ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်ကိုယ်တိုင် ဖော်ပြထားချက်မှာ 'ယံ တံ ဇာတံ ဘူတံ သခ်တံ ပလောကဓမ္မံ၊ တံ ဝတ မာ ပလုဇ္ဇီတိ၊ နေတံ ဌာနံ ဝိဇ္ဇတိ (မွေးဖွားခြင်း ဖြစ်ပေါ်ခြင်း ပြုပြင်သဘောတရားမှန်သမျှသည် ချုပ်ပျက်ခြင်းသဘောရှိပြီး ယင်းသဘောကို မဖြစ်ပျက်ပါစေနှင့်ဟု တောင့်တ၍ မရနိုင်)'[၆၀]။ နိဗ္ဗာန်အဓိပ္ပာယ်ကို ဖွင့်ဆိုသည့် ပါဠိတော်စကားရပ် များစွာရှိသည်မှာ ထင်ရှားသည်။

### နိဗ္ဗာန်နှင့် ရှေးဦးဗုဒ္ဓဝါဒ အယူအဆ

သမိုင်းဆိုင်ရာ အချက်အလက်များအရ ရှေးဦးအိန္ဒိယဘာသာရေး အစဉ်အလာများ၌ မောက္ခဟူသောအတွေးအမြင် လွှမ်းမိုးခဲ့ကြောင်း သံသယဖြစ်ဖွယ်မလိုချေ။ ထိုအချိန်က အိန္ဒိယတွေးခေါ်မှုအစဉ်အလာတွင် မောက္ခဟူသော အယူအဆကို ဘဝ၏အဆင့်အမြင့်ဆုံးပန်းတိုင်အဖြစ် ယူဆခဲ့ကြသည်။ သို့တစေ အိန္ဒိယအစဉ်အလာအတွင်းမှာပင် ၎င်းတို့၏ သဘာဝလွန်အခြေအနေများနှင့် သဘောထားများကြောင့် ဂိုဏ်းဂဏအမျိုးမျိုးသည် မုတ္တိ၏သဘာဝ၊ လွတ်မြောက်မှုအဓိပ္ပာယ်နှင့် မောက္ခခေါ် လွတ်မြောက်မှုကို သိရှိခံစားမှုတို့နှင့် စပ်လျဉ်း၍ ခြားနားစွာ ဖော်ပြကြသည်။ ဂျိန်းဝါဒတွင် မောက္ခဟူသည်

[၅၅] Ab-B-t, 481.
[၅၆] Ma-P, Di-N 129-130.
[၅၇] Di-NNT,271.
[၅၈] Di-NNT,271.
[၅၉] အဋ္ဌကထာဖွင့်ကို အခြေခံသည့် စာတမ်းရှင်၏ အင်္ဂလိပ်ဘာသာပြန်ဖြစ်သည်။
[၆၀] Ma-P, Di-N, 129-130.

စာပေနည်းအရ လွတ်မြောက်ခြင်းဖြစ်သည်။ ယင်းသည် ဝိညာဉ်၏ မကောင်းမှုမှ လွတ်မြောက်ခြင်းနှင့် နောက်ထပ်အသွင်ကူးပြောင်းမှုမှ လွတ်မြောက်ခြင်းကို ဆိုလိုသည်[၆၁]။

ဒုက္ခမှလွတ်မြောက်မှု အပြစ်မှလွတ်မြောက်မှုဟူသည်မှာ ဘာသာတရားတို့၏ ယေဘုယျယူဆချက် ဖြစ်သည်။ ယင်းယူဆချက်တွင် ဗုဒ္ဓဝါဒက ယင်း၏အန္တိမပန်းတိုင်ကို နိဗ္ဗာန သို့မဟုတ် လွတ်မြောက်မှု (မုတ္တိ သို့မဟုတ် ဝိမုတ္တိ) ဟု ဖော်ပြသည်။ ဗုဒ္ဓရှင်တော်မြတ်သည် မိမိပရိသတ်အား ပထမဆုံး စတင်ဟောကြားတော်မူခဲ့သောကြောင့် ဒုက္ခနိရောဓသစ္စာ (ဒုက္ခချုပ်ငြိမ်းခြင်း အမှန်တရား)၏ ကြီးမြတ်ခမ်းနားမှုကို အလေးထားဟောကြားတော်မူသည်။ ဤ၌ ဒုက္ခနိရာဓဟူသော စကားလုံးကို လွတ်မြောက်မှုအဖြစ် အဓိပ္ပာယ်ကောက်ယူနိုင်သည်။ ဗုဒ္ဓဘာသာဝင်တို့သည် သေခြင်းနှင့် ပဋိသန္ဓေတစ်ဖန်နေခြင်းမှလွတ်မြောက်ခြင်းဟူသော အဆုံးစွန်ငြိမ်းချမ်းမှုကို ရရှိရေးအတွက် လွတ်မြောက်မှုလမ်းစဉ်ကိုရှာဖွေရန် ကြိုးပမ်းကြသည်။ သို့ဖြင့် ဗုဒ္ဓဝါဒီတို့သည် စိတ်ပိုင်းနှင့်ရုပ်ပိုင်းဘဝ လွတ်မြောက်မှုအတွက် ဘာသာတရားနှင့်ဆိုင်သော မျှော်မှန်းချက်တစ်ရပ်ရှိသည်။

နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုနှင့်ပတ်သက်၍ အဂ္ဂသာဝကနှစ်ပါး၏ ဖော်ပြချက်အဖြစ်ဖြင့် နိဗ္ဗာန်ယူဆချက်ကို ဖော်ပြသည့် ရှေးဦးဗုဒ္ဓဝါဒအတွေးအမြင်တစ်ရပ်ရှိသည်။ အဂ္ဂသာဝကများဖြစ်ကြသည့် အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့သည် နိဗ္ဗာန်ကို သေခြင်းကင်းသည့် အခြေအနေအဖြစ် အဓိပ္ပာယ်ဖွင့်ဆိုခဲ့သည်။ တစ်ခါသော် နောင်အခါ အစဉ်အတိုင်း အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်ဖြစ်လာကြမည့် **ဥပတိဿ**နှင့် **ကောလိတ**အမည်ရှိ အမျိုးသားနှစ်ယောက်သည် ကပွဲတစ်ခုကို ကြည့်ရှုနေကြဆဲတွင် ဘဝရှိအရာဝတ္ထုများ၏ မတည်မြဲပုံကို နက်ရှိုင်းစွာ သဘောပေါက်ခဲ့ကြသည်။ နောက်ဆုံးတွင် ၎င်းတို့နှစ်ယောက်သည် အိမ်ထောင်မှုဘဝကိုစွန့်ပြီး လွတ်မြောက်မှုလမ်းစဉ်ကို ရှာဖွေရန်ဆုံးဖြတ်ခဲ့ကြသည်[၆၂]။ သို့ရာတွင် ၎င်းတို့ တောထွက်ခြင်းမပြုမီ တစ်ယောက်သည် သေခြင်းကင်းသည့်အခြေအနေ (အမတ) ကို တွေ့ခဲ့မူ အခြားတစ်ယောက်အား ပြောပြရန် ကတိကဝတ်ပြုကြသည်။ ဤဖော်ပြချက်အရ ဗုဒ္ဓဘာသာဝင်တို့သည် နိဗ္ဗာန်၏ အဓိပ္ပာယ်ကို နားလည်နိုင်ကြသည်။

> တေန ခေါ ပန သမယေန သာရိပုတ္တမောဂ္ဂလ္လာနာ သဉ္စယေ ပရိဗာဇိကေ ဗြဟ္မစရိယံ စရန္တိ။ တေဟိ ကတိကာ ကတာ ဟောတိ **'**ယော ပဌမံ **အမတံ** အဓိဂစ္ဆတိ၊ သော ဣတရဿ အာရောစေတီ**'**တိ[၆၃]။
>
> အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့သည် သဉ္စယအမည်ရှိပရိဗိုဇ်ဆရာကြီး၏ လမ်းညွှန်မှုအောက်၌ နေထိုင်ကြစဉ် ဤသို့အချင်းချင်း ကတိကဝတ်စကားပြုကြ၏ 'အကယ်၍ တစ်ယောက်သည် သေခြင်းကင်းသည့် အခြေအနေကို ပထမဆုံး ရောက်ရှိခဲ့မည်ဆိုလျှင် ထိုပုဂ္ဂိုလ်သည် အခြားတစ်ယောက်အား ပြောရမည်'[၆၄]။

ရှေးဦးဗုဒ္ဓဘာသာဝင်တို့သည် ပါဠိတော်ဖော်ပြချက်များကိုအခြေခံ၍ နိဗ္ဗာန် သို့မဟုတ် လွတ်မြောက်ခြင်း၏ ခမ်းနားမှုအဓိပ္ပာယ်ကို နားလည်နိုင်ကြသော်လည်း မွေးသေမှုလွတ်မြောက်မှု အယူအဆသည် ဗုဒ္ဓဘာသာဝင်မဟုတ်သူများအဖို့ ဒဿနဆိုင်ရာ မေးခွန်းတစ်ခုအဖြစ်သို့ မြင့်တက်သွားနိုင်သည်။ လွတ်မြောက်မှုနှင့်ပတ်သက်သည့် ၎င်းတို့၏ဖော်ပြချက်မှာ ဝေဖန်ဆန်းစစ်ဖွယ်အချက် ပါဝင်သည့် ဘာသာတရားဆိုင်ရာ ယူဆမှုဖြစ်သည်။ နိဗ္ဗာန်ဟူသောဝေါဟာရနှင့် လက်တွေ့ဆက်စပ်သည့် ဗောဓိဉာဏ် (အရဟတ္တမဂ်ဉာဏ် ဖိုလ်ဉာဏ်) နှင့် လွတ်မြောက်မှု ဟူသော အရာနှစ်ခုတို့ မည်သို့ ဆက်စပ်သနည်း။ ဗောဓိဉာဏ်ကို ထိုးထွင်းသိမြင်သွားပြီးသူသည် လောကအား အလုံးစုံသော ယင်း၏မနှစ်သက်ဖွယ် အကျိုးဆက်များရှိသည့် အခြေခံအစစ်အမှန်တရားတစ်ခုအဖြစ် ရှုမြင်နိုင်သည်။ ယင်းသို့သော ပုဂ္ဂိုလ်သည် ဒုက္ခလောကမှ လွတ်မြောက်လိုသည်။ ပညာစွမ်းရည်ဖြင့် စိတ်ကို လွတ်မြောက်စေလိုသည်။ ပညာ သို့မဟုတ် ဗောဓိဉာဏ်သည် သတ္တဝါတစ်ယောက်အဖြစ် ဒုက္ခလောကသို့ဆက်စပ်ပေးသည့်တဏှာကို ဖယ်ရှားပစ်နိုင်သည်။ ထို့ပြင် ပညာသည် အကယ်၍ ဤဘဝတွင် ဗောဓိဉာဏ်ကို ရရှိပြီးသူတစ်ယောက်ရှိမည်ဆိုလျှင် ထိုပုဂ္ဂိုလ်သည် နတ်၊ ပေတ၊ လူ၊ တိရစ္ဆာန်နှင့် အခြားနိမ့်ကျသည့် ဘဝများပါဝင်သည့် ဘဝအစဉ်ကို ဖြတ်သန်းဖွယ်မလိုတော့ကြောင်း သိနိုင်သည်။ သတ္တဝါတစ်ယောက်၏ ဘဝဖြစ်

---

[၆၁] Jaina Ramjee Singh, "Moksa in Indian Philosophy: A Perspective in Jaina Philosophy and Religion," www.jainworld.com, 1-5 [cited 15 September, 2002].

[၆၂] Bhaddanta Buddhaghosa-thera, Dhammapada-atthakatha, (Rangoon, Burma: Burma Pitaka Association, 1986), 52-73.

[၆၃] *Mahavagga Pali, Vinaya Pitaka, Khudddaka-Nikaya* ( Ranggon, Burma: Department of Religious Affairs, 1972), 50.

[၆၄] ကျမ်းပြုသူ၏ ပါဠိဝါကျ အင်္ဂလိပ်ဘာသာပြန် ဖြစ်သည်။

စဉ်ကို သဘောပေါက်ခြင်း၌ ဗုဒ္ဓဘာသာဝင်တို့သည် ဗောဓိဉာဏ်၏ အခန်းကဏ္ဍသည် မရှိမဖြစ်လိုအပ်သော ဗုဒ္ဓဝါဒ လွတ်မြောက်မှု အယူအဆတစ်ရပ်ဖြစ်ကြောင်း ယုံမှတ်ကြသည်။

ဗောဓိဉာဏ်အခြေအနေနှင့် ပတ်သက်သည့် ယူဆချက်ကား အဘယ်နည်း။ ဤနေရာ၌ ဗောဓိဉာဏ်ဟူသည်ကို သစ္စာတရားကိုသိမြင်ခြင်း သို့မဟုတ် အကုသိုလ်အညစ်အကြေးများမှ လွတ်မြောက်သော စိတ်အခြေအနေတစ်ရပ် အဖြစ် နားလည်ရသည်။ ဗောဓိဉာဏ်စွမ်းရည်မှတစ်ဆင့် အရာအားလုံးကို တွယ်တာလိုမှု မရှိတော့ချေ။ ဗောဓိဉာဏ်နှင့် ပတ်သက်သည့် ဗုဒ္ဓရှင်တော်မြတ်၏ တပည့်သာဝကတို့အား မိန့်ကြားချက်တစ်ရပ်မှာ ဤသို့ဖြစ်သည် -

> ဝိမုတ္တသ္မိံ ဝိမုတ္တမိတိ ဉာဏံ ဟောတိ၊ 'ခီဏာ ဇာတိ ဝုသိတံ ဗြဟ္မစရိယံ ကတံ ကရဏီယံ နာပရံ ဣတ္ထတ္တာယာ'တိ ပဇာနာတိ၊ ဣဒ မဝေါစ ဘဂဝါ၊ အတ္တမနာ ပဉ္စဝဂ္ဂိယာ ဘိက္ခူ ဘဂဝတော ဘာသိတံ အဘိနန္ဒုံ။ ဣမသ္မိံ စ ပန ဝေယျာကရဏသ္မိံ ဘညမာနေ ပဉ္စဝဂ္ဂိယာနံ ဘိက္ခူနံ အနုပါဒါယ အာသဝေဟိ စိတ္တာနိ ဝိမုစ္စိံသူတိ[၆၅]။
>
> လွတ်မြောက်သွားသော် လွတ်မြောက်သွားပြီဟု အသိဉာဏ်ဖြစ်၏။ 'ဘဝတစ်ဖန်ဖြစ်ခြင်း ကုန်ဆုံးပြီ၊ အကျင့်မြတ်ကို ကျင့်သုံးပြီးပြီ၊ ပြုဖွယ်ကိစ္စကို ပြုပြီးပြီ၊ ဘဝသစ်တစ်ဖန် ဖြစ်မှုမရှိတော့ချေ' ဟု နားလည်၏။ ဗုဒ္ဓရှင်တော်မြတ် ယင်းသို့ ဟောကြားတော်ပြီ။ ပဉ္စဝဂ္ဂီရဟန်းတို့သည် ဗုဒ္ဓဟောကြားချက်ကို ဝမ်းမြောက်စွာ နာယူကြ၏။ ဤဒေသနာတော်ကို ဟောကြားတော်မူသောအခါ ပဉ္စဝဂ္ဂီရဟန်းတို့၏ စိတ်သည် အနှောင်အတွယ်မဲ့လျက် အာသဝေါ တရားတို့မှ လွတ်မြောက်သွားကြ၏[၆၆]။

အထက်ပါဖော်ပြချက်သည် နိဗ္ဗာန်ကို ဒဿနအနေဖြင့် ရှုမြင်ခြင်းဟု ဆိုခြင်းထက် စိတ်ပညာအနေဖြင့် ရှုမြင်ခြင်း တစ်ရပ်ဟု ယူဆသည်။ အထက်ပါ ဖော်ပြချက်များကို စိတ်ပိုင်းဆိုင်ရာ သိမြင်နားလည်မှုတစ်ရပ်ဟု ယူဆခဲ့သော် နိဗ္ဗာန်၏ အနှစ်သာရကို နာမ်တရားအဖြစ် ထည့်သွင်းနိုင်သည်။ ဗုဒ္ဓဝါဒပညာရှင်များအနေဖြင့် နိဗ္ဗာန်ကို နာမ်တရားအဖြစ် အသိအမှတ်ပြုနိုင်သလော။ မှန်သည်၊ နိဗ္ဗာန်ကို နာမ်တရားအဖြစ် အသိအမှတ်ပြုထားသည်။ သို့တစေ နိဗ္ဗာန်ကို စင်ကြယ်မှုဖြစ်စဉ် အနေဖြင့်လည်း ဖော်ပြသည်။ စင်ကြယ်မှုဖြစ်စဉ်ကို နားလည်ရန်မှာ ကြောင်းကျိုးဆက်နွယ်မှုဖြစ်စဉ် (ပဋိစ္စသမုပ္ပါဒ) သို့မဟုတ် စင်ကြယ်မှုလမ်းစဉ်ကို အခြေခံသည့် ဗောဓိဉာဏ်ကို နားလည်ရမည်ဖြစ်သည်။ ယင်းနှစ်မျိုးအကြောင်းကို ဤကျမ်းနောက်ပိုင်းတွင် ဆွေးနွေးမည်ဖြစ်သည်။ ပုံမှန်အားဖြင့် ဗုဒ္ဓဘာသာစာပေက နိဗ္ဗာန်အခြေအနေကို အကုသိုလ်အညစ်အကြေးတို့၏ အခြေခံအကြောင်းအချက်များအဖြစ် ယူဆသည့် လောဘ၊ ဒေါသနှင့် မောဟတို့ မပါဝင်သည့် စင်ကြယ်မှုဖြစ်စဉ်အဖြစ် ဖော်ပြရန် အားထုတ်ကြသည်။

ဒီဃနိကာယ်၊ သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာတွင် လောဘ၊ ဒေါသနှင့် မောဟကဲ့သို့သော စိတ်အညစ်အကြေးတရားများအား ယင်းတရားတို့မှ မလွန်မြောက်နိုင်သူအပေါင်းကို ဆင်းရဲဒုက္ခများစွာ ရစေတတ်သောကြောင့် အဆိပ်နှင့် ပမာပြုထားသည်။ ယင်းဋီကာကျမ်းလာ တိုက်ရိုက်ဖော်ပြချက်မှာ 'အနတ္ထဇနနတော ဝိသသဒိသတာယ ကိလေသော ဝိသံ (ကိလေသာတို့သည် ပုထုဇဉ်တို့ကို ဒုက္ခများစွာ ဖြစ်စေတတ်သောကြောင့် အဆိပ်နှင့်ပမာတူ၏' ဟုဖြစ်သည်[၆၇]။ အမှန်စင်စစ် ကိလေသာအဆိပ်များသည် မိမိကိုသာမက သူတစ်ပါးတို့ကိုလည်း နာကျင်စေသည်။ ထို့ထက် ယင်းတို့သည် သောက်မျိုမိသူ သို့မဟုတ် ထိမိသူအပေါင်းအား သေစေလောက်သည့် အခြေအနေကို ဖြစ်ပေါ်စေနိုင်သည်။ သို့ဖြစ်၍ ဗုဒ္ဓဝါဒကို လိုက်နာကျင့်သုံးသူများသည် စိတ်အညစ်အကြေးကိလေသာကို ဖယ်ရှားနိုင်လျှင် နိဗ္ဗာန်ဟူသော အဆုံးစွန် ငြိမ်းချမ်းမှုကို ရရှိနိုင်သည်ဟု ယုံကြည်ကြသည်။ ထို့ပြင် ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်မှုဖြင့် ကိလေသာများကို ကျော်လွှန်နိုင်ခြင်းသည် စိတ်စင်ကြယ်မှုကို ရရှိခြင်းဖြစ်သည်။ စင်ကြယ်မှုဖြစ်စဉ်ကို ချဉ်းကပ်သောနည်းလမ်းသည် စိတ်ကို စိတ်ပညာ ရှုထောင့်နှင့် အနည်းနှင့်အများ ပတ်သက်စေသည်။ သို့ရာတွင် ဗုဒ္ဓဝါဒရှေးဦးယူဆချက်မှာ ဗောဓိဉာဏ် သို့မဟုတ် နိဗ္ဗာန်ကိုရရှိမှုသည် ကိလေသာစိတ်အညစ်အကြေး (အကုသိုလ်စေတသိက်များ)ကြောင့်ဖြစ်သော ဆင်းရဲအားလုံးမှ လွတ်မြောက်ပြီးနောက်တွင် ဖြစ်သည်။

ဗုဒ္ဓရှင်တော်မြတ်သည် အောက်ပါမြွက်ဟချက်ကို ဗောဓိဉာဏ် သို့မဟုတ် နိဗ္ဗာန်ကို သိမြင်ရရှိပြီးနောက် ခဏအကြာတွင် မိန့်ကြားတော်မူသည်။ ယင်းမြွက်ကြားချက်ကို ဗုဒ္ဓရှင်တော်မြတ်၏ ပထမဦးဆုံးသော ကိုယ်တိုင်မြွက်ဟချက်

---

[၆၅] Khandhavagga-Pali, Sanyutta-Nikaya ( Ranggon, Burma: Department of Religious Affairs, 1991), 56.

[၆၆] Bhikkhu Bodhi, *The Commected Discourses of the Buddha*, 903

[၆၇] Baddanta Nanabhivamsa, *Silakkhandhavagga-abhinava-tika*, ( Ranggon, Burma: Department of Religious Affairs, 1963), 74.

အဖြစ် ပြဆိုသည်။ ဒီဃနိကာယ်၊ သီလက္ခန္ဓဝဂ္ဂအဋ္ဌကထာအဆိုအရ ဗုဒ္ဓ၏စကားတော်များမှာ အုပ်စုသုံးခုရှိသည်။ ပထမ ဗုဒ္ဓဝစန (ဗုဒ္ဓ၏ ပထမဆုံးမြွက်ကြားချက်)၊ မဇ္ဈိမဗုဒ္ဓဝစန (ပထမနှင့် နောက်ဆုံးဟောကြားချက်များအတွင်း ဟောကြားချက်အားလုံး)နှင့် ပစ္ဆိမဗုဒ္ဓဝစန (ဗုဒ္ဓ၏နောက်ဆုံးစကား) တို့ဖြစ်သည်။ သာဓကပါဠိမှာ 'သဗ္ဗမေဝ ဟိဒံ ပထမဗုဒ္ဓဝစနံ မဇ္ဈိမဗုဒ္ဓဝစနံ ပစ္ဆိမဗုဒ္ဓဝစနန္တိ တိပ္ပဘေဒံ ဟောတိ (ဗုဒ္ဓ၏ဟောကြားချက်များမှာ ပထမဆုံးစကား၊ အလယ်တွင်ဖြစ်သော စကားနှင့် နောက်ဆုံးစကားဟု သုံးမျိုးရှိ၏)' ဟုဖြစ်သည်[၆၈]။ ယင်းဗုဒ္ဓဝစနသုံးမျိုးအနက် ပထမဗုဒ္ဓဝစနမှာ အောက်ပါအတိုင်းဖြစ်သည် -

အနေကဇာတိသံသာရံ၊ သန္ဓာဝိဿံ အနိဗ္ဗိသံ။
ဂဟကာရံ ဂဝေသန္တော၊ ဒုက္ခာ ဇာတိ ပုနပ္ပုနံ။
ဂဟကာရက ဒိဋ္ဌောသိ၊ ပုန ဂေဟံ န ကာဟသိ။
သဗ္ဗာ တေ ဖာသုကာ ဘဂ္ဂါ၊ ဂဟကူဋံ ဝိသင်္ခတံ။
ဝိသင်္ခါရဂတံ စိတ္တံ၊ တဏှာနံ ခယ မဇ္ဈဂါ[၆၉]။

အိမ်ဆောက်လုပ်သူအား ရှာဖွေသော်လည်း မတွေ့သောငါသည် ဘဝများစွာ မွေးဖွားမှုသံသရာကို ဖြတ်သန်းခဲ့ရ၏။ ဘဝကြိမ်ဖန် ဖြစ်ရခြင်းကား နာကျင်လှချေ၏။ အို အိမ်ဆောက်လုပ်သူ၊ ယခု သင့်ကို တွေ့ပြီ။ သင်သည် အိမ်သစ်တစ်ဖန် မဆောက်ရတော့ပြီ။ သင့် အခြင်ရနယ်တို့ကို ဖျက်ဆီးလိုက်ပြီ။ သင့် အိမ်အထွတ်ကိုလည်း ဖျက်ဆီးလိုက်ပြီ။ ငါ့စိတ်သည် ပြုပြင်ခြင်းကင်းရာ နိဗ္ဗာန်သို့ရောက်ပြီ။ တပ်နှစ်သက်မှုအလုံးစုံ ကုန်ဆုံးရာသို့ ရောက်ခဲ့ပြီ[၇၀]။

အထက်ပါဖော်ပြချက်၌ ဒဿနဆိုင်ရာ ယူဆချက်များပါရှိသည်။ ဗုဒ္ဓရှင်တော်မြတ်သည် ယင်းပါဠိဂါထာများကို မိမိဖာသာ ရွတ်ဆိုတော်မူခြင်းဖြစ်သည်။ အခြားသူတစ်ယောက်၏ တပ်နှစ်သက်မှုတဏှာကို မည်သူတစ်ယောက်မျှ မဖယ်ရှားနိုင် ကြောင်း နားလည်ရသည်။ ဗောဓိဉာဏ်စွမ်းရည်ဖြင့်သာလျှင် ယင်းတဏှာကို ဖယ်ရှားနိုင်သည်။ တဏှာသည် သံသရာ၌ရှိသည်။ အကယ်၍ နိဗ္ဗာန်သည် သံသရာ၌မရှိလျှင် တဏှာနှင့်နိဗ္ဗာန်တို့ ဆက်နွယ်မှုကို မည်သို့ရှင်းပြနိုင်အံ့နည်း။ အမှန်ဆိုသော် ဗောဓိဉာဏ်စွမ်းရည်သည် ယင်းနှစ်ခုကို တစ်ခုစီခွဲပစ်လိုက်သည်။ တဏှာသည် သံသရာနှင့် ဆက်နွယ်နေပြီး တဏှာမဲ့ခြင်းသည် ဘဝမရှိသည့် နိဗ္ဗာန်နှင့် ပတ်သက်သည်။ သို့ဖြင့် နိဗ္ဗာန်၌ ဘဝတစ်ဖန်မွေးဖွားခြင်း လုံးဝမရှိကြောင်း နားလည်ရသည်။

ယင်းမြွက်ဆိုချက်သုံးရပ်၌ မဟာပရိနိဗ္ဗာနဟုခေါ်သည့် နောက်ဆုံးနိဗ္ဗာန်သို့ ရောက်လုနီးအချိန်တွင် ဗုဒ္ဓရှင်တော်မြတ်သည် တပည့်အပေါင်းအား ဓမ္မ၏မြင့်မြတ်ပုံကို အကျဉ်းချုပ်အားဖြင့် မိန့်ကြားတော်မူသည်။ ဗုဒ္ဓ၏ ယင်းစကားတော်များကို နောက်ဆုံးမြွက်ဆိုချက်အဖြစ် အခိုင်အမာဖော်ပြကြသည်။ 'ဣဒံ ပစ္ဆိမဗုဒ္ဓဝစနံ (ဤသည်ကား ဗုဒ္ဓ၏ နောက်ဆုံးစကားတော်တည်း)'။ ယင်းဟောကြားချက်ကို ဒီဃနိကာယ်၊ မဟာပရိနိဗ္ဗာနသုတ်တော်၌ အောက်ပါအတိုင်း မှတ်တမ်းတင်ထားသည် -

အထ ခေါ ဘဂဝါ ဘိက္ခူ အာမန္တေသိ 'ဟန္ဒ ဒါနိ ဘိက္ခဝေ၊ အာမန္တယာမိ ဝေါ၊ ဝယဓမ္မာ သင်္ခါရာ၊ အပ္ပမာဒေန သမ္ပာဒေထာ'တိ။ အယံ တထာဂတဿ ပစ္ဆိမဝါစာ[၇၁]။

ယင်းနောက် ဗုဒ္ဓရှင်တော်မြတ်သည် ရဟန်းတို့အား ဤသို့မိန့်တော်မူ၏ 'ရဟန်းတို့၊ ယခုအခါ၌ ငါသည် သင်တို့အား ဤသို့မိန့်ကြားပေ၏ - သင်္ခါရတရားအားလုံးတို့သည် ပျက်စီးခြင်းသဘောရှိ၏။ မမေ့လျော့ဘဲ ကြိုးစားအားထုတ်ကြကုန်လော့'။ ဤကား တထာဂတ၏ နောက်ဆုံးစကားတည်း[၇၂]။

---

[၆၈] Bhaddanta Buddhaghosa-thera, *Silakkhandhavagga (Sumangalavilasini) -atthakatha,* (Rangoon, Burma: Department of Religious Affairs, 1973), 16.

[၆၉] *Dhammapada-Pali, Khuddaka Nikaya,* (Rangoon, Burma: Department of Religious Affairs, 1972), 36.

[၇၀] Nanamoli Thera's translation: *Udanavatthu, Dhammapada Pali, verses* 153-154, Kh-N Vol. 1, 36; Vi-P Vol. IV, 481-,482-3.

[၇၁] Di-N, Vol. II, 128.

[၇၂] Di-N-NT, 170.

ထို့ပြင် ရှေးဦးဗုဒ္ဓဘာသာဝင်တို့သည် ဗုဒ္ဓရှင်တော်မြတ်အား နိဗ္ဗာန်ကို တွေ့ကြုံခံစားမှု၏ အထူးမြတ်ဆုံး စံပြပုဂ္ဂိုလ်အဖြစ် ယူဆကြသည်။ ဗုဒ္ဓရှင်တော်မြတ်သည် ကမ္မဋ္ဌာန်းဘာဝနာ ရှုမှတ်အားထုတ်ခြင်းဖြင့် ကိုယ်တော်တိုင် ဗောဓိဉာဏ်ကို ထိုးထွင်းသိမြင်ခဲ့ပြီး နိဗ္ဗာန်၏အနှစ်သာရကို နားလည်ခဲ့သည်။ ဗုဒ္ဓဘာသာကျမ်းဂန်များအရ ပြင်ပမှအကူအညီ တစ်စုံတစ်ခုမရှိဘဲ မိမိအလိုလို မမေ့မလျော့ ကြိုးစားအားထုတ်ခြင်းဖြင့် ဗောဓိဉာဏ်ကို ရရှိခဲ့ခြင်းဖြစ်သည်။ ဗုဒ္ဓသည် မိမိ၏ ဓမ္မကို နာယူသူများအနေဖြင့် နိဗ္ဗာန်၏အဓိပ္ပာယ်ကို အမှန်တကယ်နားလည်ရန် မလွယ်ကူကြောင်း သိတော်မူခဲ့သည်။ သို့ဖြစ်၍ ပထမတွင် ဗုဒ္ဓ၏စိတ်တော်၌ ဓမ္မကို ဟောကြားမှုမပြုရန် ကိုင်းညွတ်တော်မူခဲ့သည်။ အကြောင်းမူ သတ္တဝါတို့၏ ဉာဏ်မျက်စိတွင် တိမ်သလာများစွဲရှိကြသော သတ္တဝါတို့အား ဓမ္မကိုဟောကြားရန် ခက်ခဲကြောင်း သိမြင်တော်မူသောကြောင့်ဖြစ်သည်။ သို့တစေ နောက်ဆုံး၌ မဟာကရုဏာတော်ကြောင့် သတ္တဝါတို့အား တရားဓမ္မဟောကြားတော်မူသည်။ ဗုဒ္ဓရှင်တော်မြတ် ဆင်ခြင်စဉ်စားပုံကို ဒီဃနိကာယ်၊ မဟာပဒါနသုတ်၌ ဖော်ပြထားချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

> အဓိဂတော ခေါ မျာယံ ဓမ္မော ဂမ္ဘီရော ဒုဒ္ဒသော ဒုရနုဗောဓော သန္တော ပဏီတော အတက္ကာဝစရော နိပုဏော ပဏ္ဍိတဝေဒနီယော။ အာလယရာမာ ခေါ ပနာယံ ပဇာ အာလယတာ အာလယသမုဒိတာ။ အာလယရာယ ခေါ ပန ပဇာယ အာလယတာယ အာလယသမုဒိတာယ ဒုဒ္ဒသံ ဣဒံ ဌာနံ ယဒိဒံ ဣဒပစ္စယတာ ပဋိစ္စသမုပ္ပါဒေါ။ ဣဒမ္ပိ ခေါ ဌာနံ ဒုဒ္ဒသံ ယဒိဒံ သဗ္ဗသင်္ခါရသမထော သဗ္ဗူပဓိပဋိနိဿဂ္ဂေါ တဏှက္ခယော ဝိရာဂေါ နိရောဓော နိဗ္ဗာနံ။ အဟဉ္စေဝ ခေါ ပန ဓမ္မံ ဒေသေယျံ ပရေ စ မေ န အာဇာနေယျုံ၊ သော မမဿ ကိလမထော၊ သာ မမဿ ဝိဟေသာတိ[၃၃]။
>
> ငါသိထားသော ဓမ္မကား နက်နဲ၏။ သိမြင်နိုင်ခဲ၏။ ထိမိပိုင်နိုင်ရန် ခဲယဉ်း၏။ ငြိမ်းချမ်းပြီး လွန်မြတ်၏။ ကြံစည်တွေးတော၍ မရနိုင်။ သိမ်မွေ့၏။ ပညာရှိတို့သာ နားလည်နိုင်၏။ သတ္တဝါအပေါင်းကား တွယ်တာတပ်မက်မှု၌ ပျော်ပါးလျက် ယင်း၌ သာယာပျော်ရွှင်ကြ၏။ ယင်းသို့ တွယ်တာတပ်မက်မှု၌ ပျော်ပါးလျက် ယင်း၌ သာယာပျော်ရွှင်ကြသဖြင့် သင်္ခါရတရားတို့၏ ပြုပြင်ခံသဘာဝ သို့မဟုတ် ကြောင်းကျိုးဆက်နွယ်မှုဖြစ်စဉ် (ပဋိစ္စသမုပ္ပါဒ)ကို သိမြင်နိုင်ခဲရခြင်းဖြစ်၏။ ထိုအတူပင် သင်္ခါတရားအားလုံး၏ ချုပ်ငြိမ်းမှု၊ ဇာတိ(မွေးဖွား)သံသရာ၏ ရင်းမြစ်အားလုံးကို ပယ်စွန့်မှု၊ တဏှာနှင့်ရာဂတို့ ကုန်ဆုံးခြင်း၊ (ဒုက္ခ)ပြတ်စဲချုပ်ငြိမ်းခြင်းနှင့် နိဗ္ဗာန်ကို သိမြင်ရန်လည်း ခဲယဉ်းလှ၏။ ငါသည် ဓမ္မကို အခြားပုဂ္ဂိုလ်များအား ဟောကြားဘိမူ ၎င်းတို့ ငါ့(တရား)ကို နားလည်ကြမည်မဟုတ်။ ယင်းသို့ဖြစ်လျှင် ငါဘုရားအား ပင်ပန်းမှု ဖိစီးမှု ဖြစ်လိမ့်မည်[၃၄]။

ဖော်ပြပါ ပါဠိတော်စကားရပ်၌ တွေ့ရသည့်အတိုင်း ယင်းသို့ဖြစ်ခြင်းသည် ရှေးဦးဗုဒ္ဓဘာသာဝင်တို့ နိဗ္ဗာန်အဓိပ္ပာယ်ကောက်ယူမှုနှင့်ပတ်သက်၍ ငြင်းခုံပြောဆိုမှုပြဿနာမရှိဘဲ နှုတ်ဆိတ်နေကြခြင်း၏ အကြောင်းတစ်ရပ် ဖြစ်ဖွယ်ရှိသည်။ ဗုဒ္ဓရှင်တော်မြတ်၏ တိကျသောဖြေရှင်းချက်နှင့် နောက်ဆုံးလွတ်မြောက်မှုအနေဖြင့် နိဗ္ဗာန်ကိုတိုက်ရိုက်သိမြင်သည်ဟူသော ဗောဓိဉာဏ်ကိုရပြီးသည့် အရှင်သာရိပုတ္တရာကဲ့သို့သော တပည့်သာဝကများ၏ ရှင်းလင်းချက်များကိုလည်း နားလည်ရသည်။ ရှေးဗုဒ္ဓဝါဒ၏ လွတ်မြောက်မှုအမြင်သည် ဘာသာစကားဝေါဟာရအနေဖြင့် အခြားသော ဘာသာဝါဒတို့၏ ကယ်တင်ခြင်းအယူအဆ သို့မဟုတ် ပြင်ပအသွင်သဏ္ဍာန်တစ်မျိုး၌ လွတ်မြောက်ခြင်းနှင့် ပမာတူနိုင်သည်။ သို့သော် ဤနေရာ၌ လွတ်မြောက်မှုဟု အဓိပ္ပာယ်ရသည့် နိဗ္ဗာန်အယူအဆကား အခြားဘာသာဝါဒလိုက်နာသူများ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်နှင့် ခြားနားသည်။

**ပါဠိတော်လာ နိဗ္ဗာန်အဓိပ္ပာယ် ဖွင့်ဆိုချက်များ**

နိဗ္ဗာန်ဟူသည် ဒုက္ခအားလုံးမှ လွတ်မြောက်ခြင်းဟု သိနားလည်ခြင်း၌ လွတ်မြောက်မှုဟူသည်ကို သေခြင်းမဲ့အခြေအနေအဖြစ် အထူးပြုဖွင့်ဆိုမည်ဖြစ်သည်။ ယင်းယူဆချက်သည် ရှေးဦးဗုဒ္ဓဝါဒီတို့အကြား ထင်ရှားသောကြောင့် ၎င်းတို့သည် အတ္တလိပ်ပြာနှင့် ယင်းအတ္တလိပ်ပြာ၏ ထာဝရတည်မြဲမှု အယူအဆကို ငြင်းပယ်ခဲ့သည်။ မဟာဗြဟ္မာအပါအဝင် ထာဝရတည်မြဲသတ္တဝါအားလုံးနှင့် ဣဿရနိမ္မာနပုဂ္ဂိုလ်(ဖန်ဆင်းရှင်)ကို ငြင်းဆိုကြသည်။ ရှေးဦးဗုဒ္ဓဝါဒသည် ထာဝရတည်မြဲနေသော မည်သည့် သတ္တဝါအခြေအနေတစ်ရပ်ကိုမျှ ဖော်ပြခြင်းမပြုချေ။ ထာဝရတည်မြဲအမြင်ကို လက်ခံမည့်အစား ၎င်း

---

[၃၃] Di-N Vol. III, 31.

[၃၄] Ibid, 213.

တို့သည် ထာဝရတည်မြဲသည့်အရာအား လက်ခံမှုကို ငြင်းဆိုကြသည်။ ၎င်းတို့အမြင်၏ ဝိသေသဖော်ပြချက်မှာ ဗောဓိဉာဏ်ကို ရရှိပြီးသူများ နောက်ဆုံးအနေဖြင့် နိဗ္ဗာန်ကို ဝင်ရောက်ပြီးနောက် ထိုပုဂ္ဂိုလ်များ၏ ခန္ဓာငါးပါးသည် (အခြားဘဝ တစ်ခုဖြစ်ရန်) အကြွင်းအကျန်မရှိတော့ချေဟု ဖြစ်သည်။ ယင်းသို့သော နားလည်မှုမျိုးကြောင့် ရှေးဦးဗုဒ္ဓဝါဒီတို့အနေဖြင့် ဗောဓိဉာဏ်ကို ရရှိပြီးသူများ၏ သေလွန်ပြီးနောက်အခြေအနေနှင့် ပတ်သက်၍ ဆွေးနွေးခြင်းပြုရန် အရေးမကြီးဟု ယုံကြည်ခဲ့ကြသည်။ သို့တစေ ၎င်းတို့၏ ယူဆချက်မှာ ဒဿနဆိုင်ရာ စုံစမ်းလေ့လာမှုကို မလွန်မြောက်နိုင်ချေ။ နိဗ္ဗာန်ကို ရရှိပြီးပုဂ္ဂိုလ်များအနေဖြင့် အကျိုးမရှိသော်လည်း ယင်းအချက်အချို့ကို တရားဒေသနာတော်များက ရှင်းပြရမည်ဖြစ်သည်။ သို့ဖြင့် အချို့သော ဗုဒ္ဓဝါဒပညာရှင်များအနေဖြင့် နိဗ္ဗာန်ကို ပါဠိဘာသာဖြင့် ဝေါဟာရမဲ့ သုညတ၊ သို့မဟုတ် ဝေါဟာရတို့ကုန်ဆုံးရာ ခယ၊ သို့မဟုတ် ဒြပ်မဲ့ အဘာဝ၊ သို့မဟုတ် ဆိတ်သုံးခြင်း တုစ္ဆအဖြစ် အဓိပ္ပာယ်ဖွင့်ဆိုရန် ကြိုးပမ်းခဲ့ကြသည်။

အမှန်စင်စစ် နိဗ္ဗာန်အဆင့်တွင် ကိုယ်ပိုင် ခမ်းနားမြင့်မြတ်မှုရှိသည်။ သို့ရာတွင် သဘာဝအားဖြင့် အာရုံငါးပါး ကာမဂုဏ်တရားပျော်ရွှင်မှုဆီသို့ ကိုင်းညွတ်သော လောကီစိတ်ဖြင့် နိဗ္ဗာန်အကြောင်းကို တွေးတောခြင်းကား နိဗ္ဗာန်၏အနှစ်သာရအမှန်မှ ကွာလှမ်းလှသည်။ နိဗ္ဗာန်ချမ်းသာကို မခံစားဖူးသူများအဖို့ (ပရိ)နိဗ္ဗာန်စံပြီးနောက် မဂ်ဖိုလ်ဉာဏ်ကို ရရှိပြီးသူများ မည်သည့်နေရာတွင် ရှိလိမ့်မည်ဟူသည်ကို နားလည်ရန်လည်း မဖြစ်နိုင်ချေ။ သို့တစေ ရဟန္တာပုဂ္ဂိုလ်များအနေဖြင့် မိမိကိုယ်တိုင် ထိုးထွင်းသိမြင်ပြီးဖြစ်သည့်အရာ (နိဗ္ဗာန်)ကို သိမြင်နိုင်သည်ဟု ဗုဒ္ဓဘာသာဝင်တို့ ယုံကြည်ကြသည်။ ပါဠိကျမ်းဂန်များအရ ရဟန္တာပုဂ္ဂိုလ်များသည် လောကုတ္တရာအာရုံနှင့် ၎င်းတို့သိမြင်ပြီး အရည်အချင်းများကို ၎င်းတို့ ထိုးထွင်းသိမြင်ပြီးဖြစ်သည့် လောကုတ္တရာပညာဖြင့် သိမြင်ကြသည်။ ၎င်းတို့၏ တွေ့ကြုံသိရှိမှုသည် ဗုဒ္ဓဝါဒယုတ္တိတွင် ခွဲခြမ်းစိတ်ဖြာစမ်းသပ်မှုနှင့် ဆက်နွယ်သည်။ အောက်ပါစကားရပ်မှာ ဗုဒ္ဓရှင်တော်မြတ် မြွက်ဟခဲ့သော ပါဠိစာပိုဒ်ဖြစ်သည် -

> ယတော စ ခေါ မေ ဘိက္ခဝေ ဣမေသု စတူသု အရိယသစ္စေသု ဧဝံ တိပရိဝဋ္ဋံ ဒွါဒသာကာရံ ဉာဏဒဿနံ သုဝိသုဒ္ဓံ ဟောတိ၊ အထာဟံ ဘိက္ခဝေ သဒေဝကေ လောကေ သမာရကေ သဗြဟ္မကေ သဿမဏဗြာဟ္မဏိယာ ပဇာယ သဒေဝမနုဿာယ အနုတ္တရံ သမ္မာသမ္ဗောဓိံ အဘိသမ္ဗုဒ္ဓေါတိ ပစ္စညာသိံ။ ဉာဏဉ္စ ပန မေ ဒဿနံ ဥဒပါဒိ၊ အကုပ္ပာ မေ ဝိမုတ္တိ၊ အယမန္တိမာ ဇာတိ၊ နတ္ထိ ဒါနိ ပုနဗ္ဘဝေါတိ[၇၅]။
> ငါဘုရား၏ သစ္စာလေးပါးကို အဝန်းအဆင့်သုံးပါး အခြင်းအရာဆယ့်နှစ်ပါးဖြင့် အရှိမှန်အတိုင်းသိသော ဉာဏ်အမြင်သည် ကောင်းစွာစင်ကြယ်၏။ ယင်းသို့ ကောင်းစွာစင်ကြယ်လသော် နတ် မာရ်နတ် ဗြဟ္မာနှင့် လူ့လောကအလုံးသို့ အတုမဲ့ပြီးပြည့်စုံသည့် ဗောဓိဉာဏ်ကို ရရှိပြီဖြစ်ကြောင်း ငါဘုရား ကြေညာခဲ့သည်။ 'ငါ့စိတ်လွတ်မြောက်မှုကား မတုန်မလှုပ် ခိုင်မြဲ၏။ ဤသည်ကား ငါ၏ နောက်ဆုံးမွေးဖွားမှုတည်း။ ဘဝသစ်တစ်ဖန် ဖြစ်ပေါ်မှု မရှိတော့ချေ'ဟူသော ဉာဏ်အမြင်ဖြစ်ပေါ်ခဲ့သည်[၇၆]။

ဗုဒ္ဓရှင်တော်မြတ် ဗောဓဉာဏ်ကို ရရှိခဲ့စဉ်က ဖော်ပြချက်အရ ရှင်တော်မြတ်သည် 'ဤကား ငါ၏ နောက်ဆုံးဘဝဖြစ်၏' ဟု မိန့်တော်မူသည်။ ယင်းသည် ကိုယ်တော်မြတ်အနေဖြင့် သေခြင်းနှင့် သေပြီးနောက် အနှောင်အဖွဲ့ မရှိတော့ပြီဖြစ်ကြောင်း ဆိုလိုသည်။ ဤဖော်ပြချက်၌ ဗုဒ္ဓသည် ပြည့်စုံသည့်ဗောဓဉာဏ်ဖြင့် မိမိစိတ် လွတ်မြောက်သွားခြင်းကိုသာလျှင် ဝိသေသပြုထားသည်။ သို့တစေ နာယူသူများ၏စိတ်တွင် ရှင်တော်မြတ်ဟောကြားချက်နှင့် ပတ်သက်၍ မေးမြန်းဖွယ် တစ်စုံတစ်ရာ ရှိနိုင်သည်။ ဗုဒ္ဓရှင်တော်မြတ်သည် ရုပ်ပိုင်းဘဝ လွတ်မြောက်သွားခြင်းကို မြွက်ဟတော်မူသလော၊ ယင်းသည် နိဗ္ဗာန်၏ မြင့်မြတ်ခမ်းနားမှုနှင့် မည်သို့ဆက်စပ်သနည်းဟူသည်ကို သိလိုကြသည်။ အမှန်ပင် ဗုဒ္ဓသည် ဤမြွက်ဟချက်ကို တပည့်အပေါင်းအား အချိန်အခါ နေရာဒေသအမျိုးမျိုး၌ မြွက်ဟတော်မူခဲ့သည်။

ဗုဒ္ဓသည် လူသားတစ်ယောက်အနေဖြင့် ကိုယ်ပိုင်သဘာဝရှိကြောင်း သဘောပေါက်တော်မူသည်။ စရိုက်ဝါသနာဟူသည် လူတစ်ယောက်၏ သဘာဝရှိရင်းစွဲ သဘောထားအပြုအမူနှင့် ပတ်သက်သည့် စရိုက်လက္ခဏာဖြစ်သည်။ 'လူတို့၏စရိုက်လက္ခဏာသည် ၎င်းတို့၏ အတိတ်ကံအမျိုးမျိုးအရ ကွဲပြားခြားနားသည်။ အဋ္ဌကထာဆရာများအလိုအရ စရိုက်လက္ခဏာဟူသည် ပဋိသန္ဓေစိတ်နှင့်အတူပါလာသည့် ကံကြောင့်ဖြစ်သည်[၇၇]။ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာအလိုအရ ရာဂစရိုက်၊

---

[၇၅] Sa-N Vol. III, 370-371.
[၇၆] Sa-N - NT Vol. II, 1846.
[၇၇] Ac-Ab, 330-331.

ဒေါသစရိုက်၊ မောဟစရိုက်၊ သဒ္ဓါစရိုက်၊ ဗုဒ္ဓိ (အသိပညာ)စရိုက်၊ ဝိတက္က (ကြံစည်တွေးတောမှု)စရိုက်ဟု အကျဉ်းအားဖြင့် ခြောက်မျိုးရှိသည်။ သို့ရာတွင် -

> အချို့က ယင်းခြောက်မျိုးတစ်ခုစီနှင့် ရာဂဒေါသမောဟသုံးမျိုးပေါင်းတစ်နှင့် ယင်းသုံးမျိုးပေါင်းတွင် သဒ္ဓါ၊ ဗုဒ္ဓိ၊ ဝိတက္ကတို့ကိုပေါင်း၍ တစ်မျိုးစီ ပေါင်းလေးမျိုး၊ သဒ္ဓါဗုဒ္ဓိဝိတက္ကသုံးမျိုးပေါင်းတစ်နှင့် ယင်းသုံးမျိုးပေါင်းတွင် လောဘ၊ ဒေါသ၊ မောဟတို့ကိုပေါင်း၍ တစ်မျိုးစီ ပေါင်းလေးမျိုးဟု စရိုက်အပြားကို ၁၄-မျိုးယူကြ၏။ သို့သော် ယင်းသို့ ခွဲခြားမှုကို လက်ခံခဲ့သော် လောဘစသည်ကို သဒ္ဓါစသည်၌ ပေါင်းထည့်ခြင်းဖြင့် စရိုက်အပြား တိုးများဖွယ်ရှိ၏။ သို့ဖြစ်၍ စရိုက်အပြားကို အချုပ်အားဖြင့် ခြောက်ပါးသာမှတ်သင့်၏[၇၈]။

စရိုက်များအလိုက် လောကီနှင့် လောကုတ္တရာရေးရာ ဘဝအမြင်တို့၌ ပုဂ္ဂိုလ်တိုင်း စိတ်ဝင်စားမှုကိုယ်စီ ရှိလိမ့်မည်ဖြစ်သည်။ ဥပမာဆိုရသော် လောကီရေးရာတွင် တစ်ယောက်က အစိမ်းရောင်ကိုကြိုက်ပြီး အခြားတစ်ယောက်က အခြားအရောင်တို့ကို နှစ်သက်မည်ဖြစ်သည်။ စိတ်ပိုင်းဘဝ လေ့ကျင့်အားထုတ်မှုတွင် အချို့က မေတ္တာကမ္မဋ္ဌာန်း ကရုဏာကမ္မဋ္ဌာန်းကဲ့သို့သော သမထကမ္မဋ္ဌာန်းကို ပွားများလိုစိတ် ထက်သန်ပြီး အချို့မူ ဝိပဿနာကမ္မဋ္ဌာန်း ပွားများအားထုတ်မှုကို အားရကြသည်။ ယင်းအခြေအနေကို သဘောပေါက်တော်မူခြင်း၌ ဗုဒ္ဓရှင်တော်မြတ်သည် ပုဂ္ဂိုလ်တိုင်း၏ စရိုက်လက္ခဏာအလိုက် ရှုထောင့်မျိုးစုံမှ တရားဒေသနာကို ဟောကြားတော်မူခြင်းဖြင့် မိမိ၏စွမ်းရည်ကို အသုံးပြုတော်မူ သည်။ ဗုဒ္ဓရှင်တော်မြတ်သည် မိမိ၏တရားဒေသနာတော်များ၌ တစ်ခါတစ်ရံ စိတ်ပိုင်းဘဝလွတ်မြောက်မှုသာမက ဘဝကိုယ်ခန္ဓာလွတ်မြောက်မှုကိုပါ အထူးပြုဟောကြားတော်မူသည်။ သို့ဖြစ်၍ နိဗ္ဗာန်ဟူသည် စိတ်ပိုင်းနှင့် ရုပ်ပိုင်းဘဝ လွတ်မြောက်မှုနှင့် သက်ဆိုင်သော လွတ်မြောက်မှုအဖြစ် နားလည်နိုင်သည်။ ခုဒ္ဒကနိကာယ်၊ သုတ္တနိပါတ်ပါဠိ၌ ဗုဒ္ဓဟောကြားတော်မူချက်ကို အောက်ပါအတိုင်း မှတ်တမ်းတင်ထားသည် -

> အကိဉ္စနံ အနာဒါနံ၊ ဧတံ ဒီပံ အနာပရံ။
> နိဗ္ဗာနမိတိ နံ ဗြူမိ၊ ဇရာမစ္စု ပရိက္ခယံ[၇၉]။
> ဤကျွန်း၌ ကြောက်ရွံ့ခြင်းမရှိ။ တဏှာဖြင့် တွယ်ကပ်ခြင်းမရှိ။ ဤကိုးကွယ်ရာ၌ မည်သည့်အရာမျှမရှိ။ ယင်းကျွန်းဟူသည် နိဗ္ဗာန်တည်း။ ယင်းသည် အိုခြင်း သေခြင်းမှ လွတ်မြောက်သည့် နေရာဖြစ်၏[၈၀]။

အထက်ပါ ဖော်ပြချက်၌ နိဗ္ဗာန်ဟူသည် အိုခြင်းသေခြင်းနှင့် ဒုက္ခနှင့် ဆက်နွယ်သည့်အရာအားလုံးမှ လွတ်မြောက်လျက် ဘေးကင်းသည့် ကျွန်းနှင့်တူသော နေရာဖြစ်သည်။ ဖော်ပြပြီးသကဲ့သို့ပင် အချို့မှာ တင်စားဖွင့်ဆိုခြင်းဖြင့် နိဗ္ဗာန်အဓိပ္ပါယ်ကို နားမလည်နိုင်ဘဲ အချို့မူ ယင်းသို့သော တင်စားရှင်းပြချက်များကို လွယ်ကူစွာ နားလည်နိုင်ခြင်းဖြင့် ဖတ်ရှုလေ့လာသူများကို အသိပညာနှင့် စိတ်ပိုင်းအရ ခြားနားသွားစေသည်။ နိဗ္ဗာန်အဓိပ္ပါယ်ကောက်ယူမှုနှင့် ပတ်သက်၍ ဗုဒ္ဓရှင်တော်မြတ်၏ အဂ္ဂသာဝက အရှင်သာရိပုတ္တရာသည် သင်ယူလေ့လာသူများ၏ အကျိုးအတွက် နိဗ္ဗာန်၏အဓိပ္ပာယ်ကို ကြိုးပမ်းဖွင့်ဆိုခဲ့သည်။ အရှင်သာရိပုတ္တရာ၏ ရှင်းလင်းချက်သည် စိတ်ပညာဆန်ဆန် အဓိပ္ပာယ်ဖွင့်ဆိုမှုတွင် အခြေခံသဖြင့် ဗုဒ္ဓဝါဒလိုက်နာကျင့်သုံးသူအချို့အတွက် နားလည်ရန်လွယ်ကူသည်မှာ သေချာသည်။ အရှင်မြတ်၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်သည် နိဗ္ဗာန်အကြောင်းကို မေးမြန်းသူ ဇမ္ဗုခါဒကပရိဗိုဇ်အဖို့ စံပြဖြစ်သွားပုံရသည်။ ယင်းဖော်ပြချက်ကို သံယုတ္တနိကာယ်၊ နိဗ္ဗာနပဉှသုတ်၌ အောက်ပါအတိုင်း တွေ့ရသည် -

> နိဗ္ဗာနံ နိဗ္ဗာနန္တိ အာဝုသော သာရိပုတ္တ ဝုစ္စတိ၊ ကတမံ နု ခေါ အာဝုသော နိဗ္ဗာနမိတိ။ ယော ခေါ အာဝုသော ရာဂက္ခယော ဒေါသက္ခယော မောဟက္ခယော၊ ဣဒံ ဝုစ္စတိ နိဗ္ဗာနမိတိ[၈၁]။
> မိတ်ဆွေ သာရိပုတ္တာ၊ နိဗ္ဗာန် နိဗ္ဗာန်ဟု ဆိုပါ၏။ ယင်းနိဗ္ဗာန်ဟူသည် အဘယ်ပါနည်း။ (မိတ်ဆွေ ဇမ္ဗုခါဒက)၊ ရာဂကုန်ရာ၊ ဒေါသကုန်ရာ၊ မောဟကုန်ရာကို နိဗ္ဗာန်ဟု ဆိုပါ၏[၈၂]။

---

[၇၈] Vi-S, 101.

[၇၉] *Suttanipata Pali, Khuddhakanikaya* (Rangoon, Burma: Department of Religious Affairs, 1990), 444.

[၈၀] ယင်း၏ သုတ္တနိပါတ်အဋ္ဌကထာကို အခြေခံ၍ ကျမ်းပြုသူက အင်္ဂလိပ်ဘာသာပြန်ဆိုခဲ့သည်။

[၈၁] *Sagathavagga Samyutta Pali, Samyuitta-Nikaya* (Rangoon, Burma: Department of Religious Affairs, 1991), 447.

အထက်ပါဖော်ပြချက်၌ အရှင်သာရိပုတ္တရာ၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်မှာ လောဘ၊ ဒေါသနှင့် မောဟဟူသော စိတ်အညစ်အကြေးမှ လွတ်မြောက်သောအရာဟု ဖြစ်သည်။ အကယ်၍ လောဘ၊ ဒေါသနှင့် မောဟတို့ ရှိနေဦးမည်ဆိုလျှင် ဒုက္ခအထွေထွေကို ဖြစ်ပေါ်စေသည့် ပြဿနာများကို ဖန်တီးလိမ့်ဦးမည်ဖြစ်သည်။ အမှန်စင်စစ် ဗောဓိဉာဏ်ကို မရဘဲ လောဘ၊ ဒေါသ၊ မောဟတို့၏ အရှိန်အဝါကို ဖျက်ဆီးရန် မဖြစ်နိုင်ချေ။ သို့ဖြစ်၍ အရှင်သာရိပုတ္တရာသည် လောဘ၊ ဒေါသ၊ မောဟကုန်ရာသည် နိဗ္ဗာန်မည်၏ဟု အထူးပြုမိန့်တော်မူခြင်းဖြစ်သည်။ ယင်းနောက် အရှင်မြတ်သည် သမ္မာဒိဋ္ဌိ (မှန်သောအမြင်)၊ သမ္မာသင်္ကပ္ပ (မှန်သောအကြံအစည်)၊ သမ္မာဝါစာ (မှန်သောစကား)၊ သမ္မာကမ္မန္တ (မှန်သောအလုပ်)၊ သမ္မာအာဇီဝ (မှန်သောအသက်မွေးမှု)၊ သမ္မာဝါယာမ (မှန်သောလုံ့လ)၊ သမ္မာသတိ (မှန်သောသတိ)၊ သမ္မာသမာဓိ (မှန်သောတည်ကြည်မှု)ဟူသော မဂ္ဂင်ရှစ်ပါးလမ်းစဉ်ဖြင့် နိဗ္ဗာန်သို့ရောက်နိုင်သည့်နည်းလမ်းကို ဟောကြားခဲ့သည်[၈၃]။

တစ်ဖန် ပါဠိတော်ကျမ်းစာတို့၌ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်ကို မည်သို့ပင်တွေ့ရစေကာမူ အခြေခံအားဖြင့် နှစ်မျိုးပြားကြောင်းဖော်ပြသည့် လက္ခဏာတစ်ရပ်သာရှိသည်။ နောက်ဆုံးတွင် နိဗ္ဗာန်ဟူသည် လွတ်မြောက်မှုအခြေအနေတစ်ရပ်ဖြစ်သည်။ ယင်းလွတ်မြောက်မှုသည် နှစ်မျိုးရှိသည်။ တစ်ခုမှာ စိတ်နှင့်ပတ်သက်သည့် စိတ်ပိုင်းဆိုင်ရာလွတ်မြောက်မှုဖြစ်ပြီး အခြားတစ်ခုမှာ ခန္ဓာငါးပါး ပို၍အတိအကျဆိုသော် ဘဝခန္ဓာနှင့်ပတ်သက်သည့် လွတ်မြောက်မှုဖြစ်သည်။ ယင်းအခြေအနေကို သဘောပေါက်ပြီးဖြစ်ခြင်း၌ အရှင်သာရိပုတ္တရာသည် နိဗ္ဗာန်နှင့်ပတ်သက်သည့် ကြောင်းကျိုးဆီလျော်သည့် နည်းလမ်းတစ်ခု၊ ဆိုလိုသည်မှာ မိမိဟောကြားချက်၏နိဂုံးတစ်ရပ်ကို ဆွဲပြခဲ့သည်။ ယင်းကို ခုဒ္ဒကနိကာယ်၊ ပဋိသမ္ဘိဒါမဂ္ဂ ပါဠိတော်၌ မှတ်တမ်းတင်ခဲ့သည်။ ယင်းဖော်ပြချက်မှာ - 'ဥပ္ပါဒေါ သင်္ခါရာ၊ အနုပ္ပါဒေါ နိဗ္ဗာနန္တိ သန္တိပဒေ ဉာဏံ၊ ပဝတ္တံ သင်္ခါရာ၊ အပ္ပဝတ္တံ နိဗ္ဗာနန္တိ သန္တိပဒေ ဉာဏံ (တည်ဖြစ်မှုသည် သင်္ခါရ၊ ဖြစ်တည်မှု မရှိခြင်းသည် နိဗ္ဗာန၊ သဘာဝဖြစ်စဉ်သည် သင်္ခါရ၊ သဘာဝဖြစ်စဉ်မရှိခြင်းသည် နိဗ္ဗာန) ဟုဖြစ်သည်'[၈၄]။ ဖော်ပြချက်အများစုတွင် သင်္ခါရဟူသော ပညာရပ်သုံး ဝေါဟာရကို ဗုဒ္ဓဘာသာကျမ်းစာတို့၌ နာမ်ပိုင်းဆိုင်ရာအဖွဲ့အစည်း (mental formation) ဟု အင်္ဂလိပ်ဘာသာပြန်ကြသော်လည်း ဤနေရာတွင် ယင်းသည် နိဗ္ဗာန်၏ဆန့်ကျင်ဘက်အဓိပ္ပာယ်ဖြစ်သည်။ ပဋိသမ္ဘိဒါမဂ်ပါဠိတော်အရ နိဗ္ဗာန်ဟူသည် 'ဖြစ်ပေါ်မှုမရှိခြင်း' သို့မဟုတ် 'ဘဝဖြစ်တည်မှုမရှိခြင်း' ဖြစ်သည်။ ယင်းဖော်ပြချက်အရ နိဗ္ဗာန်၏အဓိပ္ပာယ်ကို တစ်ခါတစ်ရံ၌ ဘဝခန္ဓာလွတ်မြောက်မှုကို ဆိုလိုကြောင်း နားလည်နိုင်သည်။

### နိဗ္ဗာန်အဓိပ္ပာယ် အဋ္ဌကထာဖွင့်ဆိုချက်များ

နိဗ္ဗာန်အဓိပ္ပာယ်ကို ပါဠိတော်ကျမ်းဂန်များ၌ ဖော်ပြထားချက်အရ နာကြားသူပရိသတ်နှင့်အညီ ရည်ညွှန်းကြောင်း နားလည်ရသည်။ ပါဠိတော်လာ နိဗ္ဗာန်အဓိပ္ပာယ် ဖွင်ဆိုချက်များသည် နားလည်နိုင်လောက်အောင် ရှင်းလင်းကြောင်း အဋ္ဌကထာဆရာများ ယုံကြည်ကြသည်။ ဗုဒ္ဓရှင်တော်မြတ်၏ တရားတော်အားလုံးမှာ လက်တွေ့ကျင့်သုံးမှုအခြေခံအတွက် ဟောကြားချက်များတွင် များစွာအခြေခံသည်။ သို့တစေ လက်တွေ့ချဉ်းကပ်မှုမရှိဘဲ နိဗ္ဗာန်၏အနှစ်သာရမှန်ကို နားလည်ရန် သေချာပေါက်မဖြစ်နိုင်ကြောင်း ညွှန်ပြသည်။ အမှန်သော် ပထမတွင် ကျင့်စဉ်ကို သင်ယူသည်ဆိုပါစို့၊ ယင်းနောက် စိတ်ပိုင်းဘဝတိုးတက်မှုအတွက် ယင်းကျင့်စဉ်ကို လက်တွေ့ကျင့်သုံးရမည်ဖြစ်သည်။ ဤနည်းဖြင့် နိဗ္ဗာန်၏ခမ်းနားမှုကို နားလည်နိုင်မည်ဖြစ်သည်။

အဋ္ဌကထာဆရာများသည် နိဗ္ဗာန်၏သဘာဝကိုနားလည်မှုနှင့် ပတ်သက်၍ အရေးပါသည့် ဖော်ပြချက်တစ်ရပ် ပြုခဲ့ကြသည်။ ပါဠိတော်လာ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်ကို နားလည်ရန် သင့်တင့်လျောက်ပတ်သော လက်တွေ့ကျင့်စဉ်ရှိရမည်ဖြစ်သည်။ အဋ္ဌကထာဆရာတို့သည် လက်တွေ့ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်ခြင်းမရှိဘဲ နိဗ္ဗာန်၏သဘာဝမှန် သို့မဟုတ် ဗောဓိဉာဏ်အား တွေ့ကြုံသိရှိမှုကို နားလည်ရန်မဖြစ်နိုင်ကြောင်း ၎င်းတို့၏ဖော်ပြချက်တို့၌ အခိုင်အမာ ဆိုကြသည်။ ၎င်းတို့၏ဖော်ပြချက်ကို ဖော်ပြချက်ကိုခိုင်မာစေရန် အဋ္ဌကထာဆရာ အရှင်အနုရုဒ္ဓါသည် အဘိဓမ္မတ္ထသင်္ဂဟကျမ်း၌ ၎င်း၏အယူအဆကို ယုတ္တိနှင့်လက်တွေ့အမြင်ဖြင့် ဖော်ပြရန်ကြိုးပမ်းခဲ့သည် -

> နိဗ္ဗာနံ ပန လောကုတ္တရသင်္ခါတံ စတုမဂ္ဂဉာဏေန သစ္ဆိကာတဗ္ဗံ မဂ္ဂဖလာနမာရမ္မဏဘူတံ ဝါနသင်္ခါတာယ တဏှာယ နိက္ခန္တတ္တာ နိဗ္ဗာနန္တိ ပဝုစ္စတိ[၈၅]။

---

[၈၂] Sa-N-NT Vol. II, N, 1294.

[၈၃] Ibid, 1294.

[၈၄] Patisambhidamagga Pali, Khuddaka-Nikaya (Rangoon, Burma: Department of Religious Affairs, 1991), 58.

[၈၅] Bahhanta Anuroddha thera, *Abhidhammattha-sangaha-Pali* (Rangoon, Burma: Department of Religious Affairs, 1993), 113.

နိဗ္ဗာန်ဟူသည် လောကုတ္တရာဖြစ်၏။ မဂ်ဉာဏ် လေးပါးဖြင့်သိနိုင်၏[၈၆]။ မဂ်ဖိုလ်တို့၏ အာရုံဖြစ်ပြီး ဝါနဟုဆို အပ်သော တဏှာမှ ထွက်မြောက်တတ်သောကြောင့် နိဗ္ဗာန်ဟုခေါ်၏[၈၇]။

ရှေ့တွင်ဖော်ပြပြီးသည်ကို အခြေခံ၍ဆိုသော် နိဗ္ဗာန်၏သဘာဝကို လောကုတ္တရာစိတ်ဖြင့် သိနိုင်သည်။ လောကုတ္တရာမဂ်စိတ်ဖြင့် နိဗ္ဗာန်သို့ ရောက်နိုင်သည်။ အဘယ်သူသည် နိဗ္ဗာန်၏သဘာဝကို နားလည်နိုင်သနည်း။ ထေရဝါဒဗုဒ္ဓဘာသာအလိုအရ ဗောဓိဉာဏ်ကို ရရှိပြီးပုဂ္ဂိုလ်များသာ နိဗ္ဗာန်ကို အမှန်အတိုင်း သဘောပေါက်နိုင်သည်။ ဤကျမ်းစာအဆိုအရ နိဗ္ဗာန်ဟူသည် ဗောဓိဉာဏ်ကို ရရှိပြီးပုဂ္ဂိုလ်များသာ ပိုင်ဆိုင်ကြောင်း နားလည်နိုင်သည်။

အေဒီငါးရာစုတွင် ပေါ်ထွန်းခဲ့သည့် အရှင်မဟာဗုဒ္ဓဃောသသည် ထင်ရှားသော အဋ္ဌကထာဆရာဖြစ်သည်။ အရှင်မြတ်၏ အထင်ရှားဆုံးသောကျမ်းမှာ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာဖြစ်ပြီး အခြားပါဠိတော်များ၏ အဋ္ဌကထာကျမ်းများကိုလည်း ရေးသားခဲ့သည်။ အရှင်မြတ်သည် ရှေးဟောင်းအဋ္ဌကထာကျမ်းများကို ဆက်စပ်ပြီး အဋ္ဌကထာသင်္ခေပအဖြစ် အဖွင့်သစ်များရေးသားလျက် ပိဋကတ်သုံးပုံကို အနှစ်ချုပ်ခဲ့သည်။ ဗုဒ္ဓဝါဒတရားဒေသနာများတွင် နိဗ္ဗာန်အယူအဆနှင့်ပတ်သက်ပြီး ရှုပ်ထွေးမှုများစွာမရှိဘဲ အရှင်ဗုဒ္ဓဃောသသည် ဖွင့်ဆိုပြီးအဓိပ္ပာယ်များကို ညှိနှိုင်းရန်ကြိုးပမ်းခဲ့သည်။ အရှင်ဗုဒ္ဓဃောသသည် နိဗ္ဗာန်၏အဓိပ္ပာယ်ကို လက်တွေ့အားထုတ်မှုမှတစ်ဆင့် အဓိပ္ပာယ်ဖွင့်ဆိုပြီး ယင်းနောက် ၎င်းအလို နိဗ္ဗာန်၏အဓိပ္ပာယ်ကို ရှင်းပြသည်။ ၎င်းကျမ်းစာ၏ အကောင်းဆုံးအချက်မှာ တိုရှင်းလိုရင်းမိခြင်းဖြစ်သည်။ အရှင်ဗုဒ္ဓဃောသသည် ဗုဒ္ဓ၏တရားဒေသနာအားလုံးအတွက် ရှင်းလင်းသည့် အနှစ်ချုပ်ကို ပြုနိုင်စွမ်းရှိခဲ့သည်။ ယင်းအနှစ်ချုပ်မှာ နိဗ္ဗာန်သို့မဟုတ် ဗောဓိဉာဏ်ကိုရရှိရန်အတွက် သီလ သမာဓိ ပညာဟူသော သိက္ခာသုံးပါးကို ဖြည့်ကျင့်အားထုတ်ရမည်ဖြစ်သည်။ ယင်းသည် ဝိပဿနာဉာဏ် သို့မဟုတ် ဗောဓိဉာဏ်ကို အမှတ်တကယ်လိုလားသူ မည်သူမဆိုအတွက် မဖြစ်မနေလိုအပ်သည်။ သို့ရာတွင် ပါရမီ၊ သဒ္ဓါတရား (ဓမ္မအပေါ်ယုံကြည်မှု)နှင့် အဓိဋ္ဌာနဟူသော ကနဦးလိုအပ်ချက်များကိုလည်း ချန်လှပ်မထားခဲ့ပေ။ ၎င်း၏ဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

> အပိ စ နိဗ္ဗာနံ နတ္ထီတိ န ဝတ္တဗ္ဗံ၊ ကသ္မာ၊ ပဋိပတ္တိယာ ဝဉ္ဈဘာဝါပဇ္ဇနတော။ အသတိ ဟိ နိဗ္ဗာနေ သမ္မာဒိဋ္ဌိ-ပုရေဇဝါယ သီလာဒိခန္ဓတ္တယသင်္ဂဟာယ သမ္မာပဋိပတ္တိယာ ဝဉ္ဈဘာဝေါ အာပဇ္ဇတိ။ န စာယံ ဝဉ္ဈာ နိဗ္ဗာနပါပန-တောတိ[၈၈]။
>
> တစ်ဖန်လည်း နိဗ္ဗာန်သည် မတည်ရှိပါဟုမဆိုနိုင်။ အကြောင်းမူ ယင်းသို့ဖြစ်မူ နိဗ္ဗာန်သို့ရောက်ကြောင်းအကျင့်သည် အချည်းနှီးဖြစ်သွားသောကြောင့်တည်း။ အကယ်၍ နိဗ္ဗာန်မတည်ရှိဟုဆိုခဲ့မူ သီလနှင့် သမ္မာဒိဋ္ဌိအစပြုသည့် သိက္ခာသုံးပါးပါရှိသည့် သမ္မာပဋိပတ္တိလမ်းစဉ်သည် အကျိုးမရှိဟု ဆိုရာရောက်၏။ ယင်းကျင့်စဉ်သည် နိဗ္ဗာန်သို့ အမှန်တကယ်ရောက်နိုင်သောကြောင့် အချည်းနှီးမဟုတ်ချေ[၈၉]။

ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာတွင် အရှင်မဟာဗုဒ္ဓဃောသမထေရ်က နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုကို အကျဉ်းချုပ်လေ့လာ သုံးသပ်ခဲ့ပြီး လူအချို့က နိဗ္ဗာန်ဟူသည် ယုန်ချိုလိပ်သွေး (သသဝိသာဏ)ဟူသကဲ့သို့ အမှန်တကယ်မရှိဟု မှားယွင်းစွာ ယူကြကြောင်း မှတ်ချက်ပြုခဲ့သည်။ အရှင်မဟာဗုဒ္ဓဃောသသည် သီလ၊ သမာဓိ၊ ပညာလမ်းစဉ်ဖြင့် နိဗ္ဗာန်ကို သိမြင်နိုင်သောကြောင့် နိဗ္ဗာန်မတည်ရှိဟူသော အယူအဆကို ပြင်းထန်စွာငြင်းဆိုခဲ့သည်။ အရှင်မြတ်သည် ပိုမိုနားလည်မှု ရရှိနိုင်ရန် ယခင်ဖွင့်ဆိုချက်အချို့ကို ငြင်းဆိုရန်ကြိုးပမ်းခဲ့သည်။ ဥပမာ အရှင်ဗုဒ္ဓဃောသသည် နိဗ္ဗာန်ဟူသည် ရာဂကုန်ရာဖြစ်သည်ဟုဖော်ပြသည့် အရှင်သာရိပုတ္တရာ၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်ကို ကိုးကားခဲ့သည်။ ၎င်း၏ဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည်-

---

[၈၆] အဘိဓမ္မတ္ထသင်္ဂဟပါဠိနှင့် အဘိဓမ္မာကျမ်းဂန်များ၌ မဂ်ဉာဏ်လေးမျိုး ဖော်ပြသည်။ ယင်းတို့မှာ ၁) သောတာပတ္တိမဂ်ဉာဏ် ၂) သကာဒါဂါမိမဂ်ဉာဏ် ၃) အနာဂါမိမဂ်ဉာဏ် ၄) အရဟတ္တမဂ်ဉာဏ် တို့ဖြစ်သည်။ Bhaddanta Nyanatiloka-thera ၏ *Buddhist Dictionay: Manual of Buddhist Terms and ctrines* (Kandy, Sri Lanka: Buddhist Publication Society, 1988) 20 ကို ရှုပါ။

[၈၇] Ac-Ab, 258.

[၈၈] Bhaddanta Buddhaghosa-thera, *Visuddhimagga-atthakatha* Vol. II (Rangoon, Burma: Department of Religios Affairs, 1993) 139.

[၈၉] Bhikkhu Nanamoli ၏ ဝိသုဒ္ဓိမဂ်အင်္ဂလိပ်ဘာသာပြန် *The Path of Purification: Visuddhimagga* (1956; repring, Kandy, Sri Lanka: Buddhist Publication Society, 1991) 514-15 မှ ထုတ်နုတ် ကူးယူပါသည်။

‘ယော ခေါ အာဝုသော ရာဂက္ခယော’တိ အာဒိဝစနတော ‘ခယော နိဗ္ဗာန’န္တိ စေ၊ န အရဟတ္တဿာပိ ခယမတ္တာပဇ္ဇနတော။ တမ္ပိ ဟိ ‘ယော ခေါ အာဝုသော ရာဂက္ခယော’တိ အာဒိနာ နယေန နိဒ္ဒိဋ္ဌံ[၉၀]။

‘ငါ့ရှင်၊ ရာဂကုန်ရာ (ဒေါသ၊ မောဟကုန်ရာ)သည် နိဗ္ဗာန်မည်၏’ဟူသော စကားအရ နိဗ္ဗာန်ဟူသည် ကုန်ဆုံးပျက်စီးသွားခြင်းမဟုတ်လောဟုဆိုအံ့ (Sa-N. IV, 251)။ ယင်းသို့ကား မဟုတ်။ အကြောင်းမူ ရဟန္တာအဖြစ်သည်လည်း ကုန်ဆုံးပျက်စီးသွားခြင်းဖြစ်၏ဟု အဓိပ္ပာယ်သက်ရောက်သွားသောကြောင့်တည်း။ ‘ငါ့ရှင်၊ ယင်းအဓိပ္ပာယ်ကို လောဘ၊ ဒေါသ၊ မောဟကုန်ခန်းသူသည် ရဟန္တာမည်၏’စသော ရှေးဦးစကားရပ်ဖြင့်ပင် ဖော်ပြပြီးဖြစ်၏[၉၁]။

ကုန်ဆုံးပျက်စီးခြင်း ဖော်ပြချက်နှင့်ပတ်သက်၍ အဋ္ဌကထာဆရာသည် ပျက်စီးခြင်းအဓိပ္ပာယ်ရှိသည့် မူရင်းစကားလုံး ရာဂက္ခယပုဒ်ကို ရည်ညွှန်းပြဆိုသည်။ အရှင်ဗုဒ္ဓဃောသက ခယ(ကုန်ခြင်း)သည် နိဗ္ဗာန်ကို မရည်ညွှန်းဘဲ ဗောဓိဉာဏ်ကိုရပြီးသူ ရဟန္တာပုဂ္ဂိုလ်တို့၏ ခန္ဓာငါးပါးကိုသာ ရည်ညွှန်းကြောင်း ငြင်းဆိုသည်။ ရဟန္တာပုဂ္ဂိုလ်တို့သည် ဘဝသစ်ကို ဖြစ်ပေါ်စေရန် ကမ္မစွမ်းရည်ရှိသော စိတ်အညစ်အကြေးအားလုံးကို ဖျက်ဆီးသည်။ ဗုဒ္ဓဃောသသည် သာဓကအနေဖြင့် ဗုဒ္ဓရှင်တော်မြတ်၏ စကားတော်များကိုဖော်ပြလျက် တိကျသည့် ဖော်ပြချက်တစ်ရပ်ကို ကြိုးစားရှင်းပြခဲ့သည်။ “အကြောင်းမူ ယင်းသည် ဗုဒ္ဓ၏စကားတော်ဖြစ်ပြီး နိဗ္ဗာန်သည် ပရမတ္ထသဘောအရ ပုဂ္ဂိုလ်တစ်ဦးစီ၏ အနုစ်သာရ ဖြစ်သောကြောင့် မရှိသောအရာမဟုတ်။ သို့ဖြစ်၍ ‘ရဟန်းတို့၊ မမွေးဖွားသောအရာ၊ ဖြစ်ပေါ်ခြင်းမရှိသောအရာ၊ မပြုပြင် အပ်သောအရာ၊ ဖြစ်တည်ခြင်းမရှိသောအရာသည်ရှိ၏’ဟု ဟောတော်မူ၏ (Iti. 37; Ud. 80.)”[၉၂]

အရှင်ဗုဒ္ဓဃောသ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်နိဂုံးချုပ်မှာ ‘နိဗ္ဗာန်သည်သာ (မဖန်ဆင်းအပ်သောအရာဖြစ်သောကြောင့်) ထာဝရတည်မြဲသောအရာ ဖြစ်၏။ တစ်ဦးစီနှင့်ဆိုင်သော ရုပ်ဝတ္ထုအနှစ်သာရကို ကျော်လွန်သောကြောင့် ရုပ်ဝတ္ထုအထည်ကိုယ်မရှိ။ ဗုဒ္ဓ၏ပန်းတိုင်မှာ တစ်ခုတည်းသာဖြစ်ပြီး အများအပြားမရှိ’[၉၃]။ သို့ရာတွင် အရှင်ဗုဒ္ဓဃောသနှင့် ခေတ်ပြိုင်ခန့်ဟုယူဆရသည့် ရဟန္တာအရှင်ဥပတိဿမထေရ်က နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုနှင့်ပတ်သက်၍ ဝိမုတ္တိမဂ္ဂကျမ်းတွင် ကိုယ်ပိုင်ဟန်ဖြင့် အကျဉ်းချုပ်ဖွင့်ပြခဲ့သည်။ ၎င်း၏ဖွင့်ဆိုချက်မှာ ‘တဏှာ လုံးဝလျော့နည်း ပြတ်စဲသွားခြင်း၊ တဏှာမှ ထွက်ခွာခြင်း၊ တဏှာကို စွန့်ပစ်ခြင်း၊ တဏှာမှ လွတ်မြောက်ခြင်း၊ တဏှာမှ ကင်းဝေးခြင်းဟူ၍ ဒုက္ခနိရောဓသစ္စာကို နားလည်ရမည်[၉၄]’ဟုဖြစ်သည်။ ၎င်း၏အလိုအရ ပဋိသန္ဓေတစ်ဖန်မနေသည့် အခြေအနေ၊ သဘာဝအားဖြင့် ပျက်စီးမသွားခြင်း၊ သစ္စာလေးပါးကို ထိုးထွင်း၍သိမြင်ခြင်း၊ ဒုက္ခငြိမ်းချုပ်ခြင်းကို နိဗ္ဗာန်ဟုခေါ်သည်။ ယင်းဖော်ပြချက်ကို အနှစ်ချုပ်ဖော်ပြရသော် ဤအဋ္ဌကထာဆရာ၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်သည် ရှင်းလင်းပြီး တိုတောင်းသည်။ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်ကို ရှုထောင့်အမျိုးမျိုးမှ သိနိုင်သည်။ ယင်းရှုထောင့်များအရ နိဗ္ဗာန်ဟူသည် ကမ္မဝိပါက (အတိတ်နှင့် ပစ္စုပ္ပန်ကံ၏ အကျိုးဆက်)နှင့် တဏှာနှင့်အဝိဇ္ဇာတို့ ဖြစ်ပေါ်စေသော သံသရာအနှောင်အဖွဲ့မှ လွတ်မြောက်ခြင်းမှတစ်ပါး အခြား အဓိပ္ပာယ်မရှိချေ။ ဤသို့ဖြင့် လွတ်မြောက်မှု၏ သာလွန်မြင့်မြတ်ပုံကို နည်းလမ်းမျိုးစုံဖြင့် နားလည်နိုင်ရာသည်။

### ထေရဝါဒမဟုတ်သော ဗုဒ္ဓဝါဒီပညာရှင်တို့၏ နိဗ္ဗာန်အယူအဆ

ဤနေရာ၌ ထေရဝါဒမဟုတ်သော ဗုဒ္ဓဘာသာဟူသည် အိန္ဒိယမဟာယာနဗုဒ္ဓဘာသာကို အဓိကအားဖြင့် ရည်ညွှန်းခြင်းဖြစ်သည်။ အမှန်အားဖြင့် ယင်းဂိုဏ်းကွဲနှစ်ခု၏ တရားဓမ္မများမှာ ရင်းမြစ်အားဖြင့် ဗုဒ္ဓ၏ဟောကြားချက်များကို အခြေခံကြသည်။ အချို့သော အဓိပ္ပာယ်ကောက်ယူမှု သို့မဟုတ် ဖွင့်ဆိုမှုတို့မှာ နှစ်ဂိုဏ်းလုံးသဘောတူညီနိုင်ပြီး အချို့မှာ သဘောတူညီမှု မရှိနိုင်ချေ။ နှစ်ဂိုဏ်းလုံး၌ နိဗ္ဗာန်သို့ရောက်ရန်ဟူသော တူညီသည့် ပန်းတိုင်ရှိကြသည်။ ယေဘုယျအားဖြင့် နှစ်ဂိုဏ်းလုံးသည် နိဗ္ဗာန်အဓိပ္ပာယ်ကောက်ယူခြင်းအတွက် လှုပ်ရှားမှုများရှိနေသည်။ ထေရဝါဒလိုက်နာကျင့်သုံးသူအများစုက နိဗ္ဗာန်ဟူသည် လက်လှမ်းမီသောအရာဖြစ်သဖြင့် ဤဘဝမှာပင် လက်တွေ့ကျင့်သုံးမှုမှတစ်ဆင့် ရရှိနိုင်သည်

[၉၀] Vi-M Vol. II, 139-140

[၉၁] Vi-M, 515.

[၉၂] Ibid, 517.

[၉၃] Ibid, 516-516.

[၉၄] N.R.M. Ehara, Soma Thera, and Kheminda Thera, trans. *The Path of Freedom: Vimuttimagga* (1961; reprint, Kandy, Sri Lanka: Buddhist Publication Society, 995), 272. အဋ္ဌကထာဆရာ ရဟန္တာအရှင်ဥပတိဿမထေရ်သည် ၎င်း၏ဖော်ပြချက်ကို သံယုတ္တနိကာယ်၊ မဟာဝဂ္ဂ သံယုတ္တပါဠိမှ ‘ယော တဿာယေဝ တဏှာယ အသေသဝိရာဂ နိရောဓော စာဂေါ ပဋိနိဿဂ္ဂေါ မုတ္တိ အနာလယော။ ဣဒံ ဝုစ္စတိ ဘိက္ခဝေ ဒုက္ခနိရောဓံ အရိယသစ္စံ’ (Rangoon, Burma: Department of Religious Affairs, 1991, 272.)ဟူသော သာဓကကို ကိုးကား၍ မိမိ၏ ဖော်ပြချက်ကို အထူးပြုမှီငြမ်းခဲ့သည်။

ဟုယူဆပြီး မဟာယာနဗုဒ္ဓဝါဒီ အများစုကမူ နိဗ္ဗာန်ဟူသည် လူတိုင်းတွင်တည်ရှိသဖြင့် လက်တွေ့ကျင့်သုံးမှုမှတစ်ဆင့် ရရှိနိုင်သည်ဆိုသည်။ ဂိုဏ်းနှစ်ခုလုံးကပင် နိဗ္ဗာန်အား မောဟ သို့မဟုတ် အဝိဇ္ဇာမှ လွတ်မြောက်မှုအဖြစ် အထူးပြုဖော်ပြကြသည်။ ထေရဝါဒီများအဖို့ အဝိဇ္ဇာနှင့်တဏှာမှ လွတ်မြောက်မှုဟူသည် ပရမတ္ထသစ္စာကို ထိုထွင်းသိမြင်မှုနှင့် နိဗ္ဗာန်ကို ရရှိမှုပင်ဖြစ်သည်။ မဟာယာနဝါဒီအများစုအဖို့မူ မောဟမှလွတ်မြောက်ခြင်း သို့မဟုတ် အရာခပ်သိမ်းအတွက် ဆိတ်သုံးသောစိတ်ဖြင့် ဗုဒ္ဓသဘာဝဟူသော မူလစိတ် သို့မဟုတ် စကြဝဠာစိတ်သို့ ပြန်လည်ရောက်သွားနိုင်သည်ဟုဆိုသည်[၉၅]။

> မောဟမှ လွတ်မြောက်မှုကို ရခြင်းဖြင့် နောက်ဆုံးအဆင့်သို့ ပြန်ရောက်၏။ နောက်ဆုံးအဆင့်သို့ ရောက်ခြင်းဖြင့် မူလရင်းမြစ်သို့ ပြန်ရောက်၏။ မူလရင်းမြစ်ကို ရရှိမှုသည် နိဗ္ဗာန်အဆင့် ဖြစ်၏။ သို့သော် နိဗ္ဗာန်သည် ပြင်ပတွင် ရှိသောအရာ ဘဝသံသရာမှ တစ်ခြားစီဖြစ်သောအရာကား မဟုတ်။ ဗုဒ္ဓသဘာဝအစစ်အမှန်သည် အပြင်ဘက်ရှိအရာ သဘာဝလောကမှ တစ်ခြားစီလည်း မဟုတ်။ တစ်စုံတစ်ယောက်သည် ရုတ်တရက် အသိဉာဏ်ကို ရသည်နှင့် ထိုအသိဉာဏ်သည် ထိုပုဂ္ဂိုလ်နှင့်ထပ်တူဖြစ်သွား၏။ --- မဟာယာနဗုဒ္ဓဝါဒ နိဗ္ဗာန်သည် ဘဝသံသရာ အပြင်ဘက်၌ ရှာဖွေရသည်မဟုတ်။ မွေးသေကိစ္စအားဖြင့် ဘဝသံသရာအတွင်းမှာပင် နိဗ္ဗာန်ကို ရနိုင်၏[၉၆]။

ဗုဒ္ဓဝါဒအစဉ်အလာနှစ်ခုလုံးမှာပင် မောဟ(အသိမှန်မရှိမှု)ကို နိဗ္ဗာန်၏အတားအဆီးအဖြစ် အရေးတကြီးဖော်ပြကြသည်မှာ ထင်ရှားသည်။ ထေရဝါဒဗုဒ္ဓဝါဒီတို့က မောဟ၏သတ္တိသည် နိဗ္ဗာန်ရောက်ကြောင်း နည်းလမ်းကို တားဆီးတတ်ကြောင်း မကြာခဏဖော်ပြသည်။ ဤအချက်၌ မဟာယာနဗုဒ္ဓဝါဒီတို့လည်း ထိုနည်းတူပင် ဆိုကြသည်။ "အသုံးများသည့် တရုတ်ဗုဒ္ဓဘာသာ စကားပုံတစ်ခုမှာ 'အသိမှန် မရသေးလျှင် ပုထုဇဉ်၊ အသိမှန်ရပြီးလျှင် ပညာရှင်' ဟုဖြစ်သည်"[၉၇]။

ထေရဝါဒမဟုတ်သည့် ဗုဒ္ဓဘာသာဂိုဏ်းကွဲများအနက် ထင်ရှားသည့်နှစ်ခုမှာ မဓျမိကဂိုဏ်းနှင့် ယောဂါစာရဂိုဏ်းတို့ဖြစ်သည်။ တွေးခေါ်ရှင် **နာဂရဇ္ဇုန** သည် အလယ်အလတ်လမ်းစဉ်ဟုလည်း ထင်ရှားသည့် မဓျမိကဂိုဏ်းကို တည်ထောင်ခဲ့သည်။ ဤပုဂ္ဂိုလ်သည် အေဒီ နှစ်ရာစုတွင် ပေါ်ထွန်းခဲ့သည်။ နာဂရဇ္ဇုနသည် တရားဓမ္မနှင့်ပတ်သက်သည့် တွေးခေါ်မှုနည်းစနစ်များကို အလေးပေးဖော်ပြပြီး အဘိဓမ္မာရှုထောင့်ကိုအခြေခံလျက် ဗုဒ္ဓဝါဒကိုနားလည်ရန် ၎င်းတီထွင်သည့် ယုတ္တိဗေဒနည်းကို အသုံးပြုခဲ့သည်။ တွေးခေါ်မှုဆိုင်ရာ အဓိပ္ပာယ်ကောက်ယူနည်းနှင့်မတူဘဲ ၎င်း၏ကျမ်းတွင် အဘိဓမ္မာ အတွေးအခေါ်ဆိုင်ရာ ခွဲခြမ်းစိတ်ဖြာမှုဖြင့် အများသုံးအယူအဆတို့ကို လျှော့ချရန် ယုတ္တိဗေဒကို အသုံးပြုခဲ့သည်[၉၈]။

အေဒီလေးရာစုတွင် ပေါ်ထွန်းခဲ့သူ **အသင်္ဂ** ပါဝင်တည်ထောင်ခဲ့သော စိတ်အဓိကဂိုဏ်းဟုလည်း ထင်ရှားသည့် ယောဂါစာရဂိုဏ်းသည် နောက်ဆုံးအစစ်အမှန်တရား၏ အနှစ်သာရကိုရှာဖွေရန် လက်တွေ့ကျင့်သုံးမှုကို ထောက်ခံပြီး ဗုဒ္ဓ၏မဇ္ဈိမပဋိပဒါလမ်းစဉ်ကိုတင်ပြရန် ကမ္မဋ္ဌာန်းလက်တွေ့အားထုတ်မှုကို အထူးပြုဖော်ပြသည်။ နာဂရဇ္ဇုနနှင့် မတူဘဲ အသင်္ဂ၏ဖော်ပြချက်မှာ တစ်စုံတစ်ယောက်၏ သိမြင်မှုနှင့် နားလည်မှုတို့သည် သဘာဝအားဖြင့် မတည်ရှိဘဲ ယင်းတို့မှာ အကြောင်းတရားနှင့် အခြေအနေများရှိသည့် ဆက်နွယ်မှုသဘောတရားများ ဖြစ်ကြသည်[၉၉]။

နာဂရဇ္ဇုနသည် နိဗ္ဗာန်၏ လွတ်မြောက်မှုနှင့် ပြန်လည်မမွေးဖွားခြင်း လက္ခဏာကိုဖော်ပြရန် မကြိုးပမ်းခဲ့သော်လည်း ၎င်း၏ဖော်ပြချက်သည် တစ်စုံတစ်ယောက်အား နိဗ္ဗာန်ဟူသော နောက်ဆုံးအစစ်အမှန်တရားအပေါ် နိုးကြွစေသည်။ နာဂရဇ္ဇုနသည် အဆုံးစွန်အမှန်တရားဟူသည်ကို ဘာသာစကားဖြင့် ရှင်းပြသင့်ကြောင်း ယုံကြည်ခဲ့သည်။ ဘာသာစကားဟူသည် သမ္မုတိသဘော အခြေအနေအပေါ် မူတည်သောသဘောရှိသော်လည်း လောကီအမှန်တရားအဖြစ် ဘာသာစကားသည် အန္တိမအမှန်တရားကို နားလည်ရန် အမှန်ပင်လိုအပ်သည်။ နာဂရဇ္ဇုန၏ ရပ်တည်ချက်မှာ လောကီအမှန်တရားဖြစ်သည့် ဘာသာစကားဖြင့် ယင်းပရမတ္ထသစ္စာကို မရနိုင်။ သို့သော် ယင်းပရမတ္ထသစ္စာကို နားမလည်ဘဲ နိဗ္ဗာန်ကို နားမလည်နိုင်။ နာဂရဇ္ဇုနအလိုအရ စကားလုံးများ၊ အမည်နာမများ၊ ဘာသာစကားများမှာ သုညဖြစ်သည်။ သက်ရှိများ သက်မဲ့များမှာ သုညဖြစ်သည်။ သက်ရှိသက်မဲ့နှစ်မျိုးလုံးကို သုညအဖြစ်သိမြင်ခြင်းသည် အဆုံးစွန်အမှန်တရားဖြစ်သည်။ စကြဝဠာ၏ အမှန်တရားကို သက်ရှိ သို့မဟုတ် သက်မဲ့အဖြစ် မဖော်ပြနိုင်။ သို့သော် ဆန်လုန် မာစတာ ချီဆန် (San-lun

---

[၉၅] Fung Yu-Lan. *A Short History of Chinese Philosophy* (New York: The Free Press, 1976), 251.

[၉၆] Ibid, 252. The quotation connected to Collected Commentaries t the Parinirvana Sutra, Chuan 1 and Commentary to the Vimlakirti Sutra, Chuan 7.

[၉၇] Ibid, 253.

[၉၈] Cheng, 1-9.

[၉၉] Asanga, Abhidharmasamuccaya: *The Compendium of the Higher Teaching (Philosophy).* Translated by Sara Boin-Webb from the French translation of Walpola Rahula (1971; repring, Fremong, California: Asian Humanities Press, 2001), xi-xviii.

Master Chi-tsang) ကဲ့သို့သော မဟာယာနအစဉ်အလာ ဆရာကြီးများသည် သုည သို့မဟုတ် သုညတ ဟူသော ဝေါဟာရများကို တစ်ခါတစ်ရံ အရာဝတ္ထုများကို အရည်အချင်းလျှော့ရန်နှင့် တန်ဖိုးလျှော့ရန် အသုံးပြုကြောင်း ညွှန်ပြခဲ့သည်။ ဤဆရာ၏အလိုအရ သုညဖြစ်သောအရာများသည် ဘာမျှအသုံးမကျချေ။ သို့ဖြစ်၍ ဗုဒ္ဓတရားတော်များ အားနည်းသွားမည့်အခြေအနေကို ပပျောက်စေရန် သုညတအယူအဆကို ဖယ်ရှားသင့်သည်။ သို့သော် ယူဆချက်မှာ ယူဆချက်မျှသာဖြစ်ပြီး အမှန်တရားမဟုတ်ချေ။

အရာဝတ္ထုတို့၏ အစစ်အမှန်အား သက်ရှိနှင့်သက်မဲ့၊ တည်ရှိမှုနှင့်မတည်ရှိမှု ဟူသကဲ့သို့သော အယူအဆတို့ကို အပြန်အလှန် သက်ရောက်စေမှု (အားပြိုင်မှု) အားဖြင့် မရှင်းပြနိုင်။ နာဂရဇ္ဇုနက 'တစ်ဖန် အရာအားလုံးမှာ သုညဖြစ်၏။ အဘယ်ကြောင့်နည်း၊ သက်ရှိသက်မဲ့ဟူသည်ကို တစ်ချိန်တည်းမှာဖြစ်စေ၊ အချိန်အမျိုးမျိုးမှာဖြစ်စေ မရရှိနိုင်' ဟုဆိုခဲ့သည်[၁၀၀]။

အမှန်စင်စစ် နာဂရဇ္ဇုန၏ဒဿနသည် မဟာယာနဗုဒ္ဓဝါဒအပေါ် ဩဇာလွှမ်းမိုးမှုကြီးမားခဲ့ပြီး ဒဿနနှင့်ဘာသာရေးဆိုင်ရာ လှုပ်ရှားမှုအမျိုးမျိုးကို ဖြစ်ပေါ်စေခဲ့သည်။ ၎င်း၏အတွေးအမြင်ကို အခြေခံလျက် မဟာယာနဗုဒ္ဓဘာသာပညာရှင်များစွာတို့သည် မဇ္ဈိမိကဂိုဏ်း၏ သင်ကြားချက်အတွေးအမြင်အချို့ကို ဗုဒ္ဓ၏တရားဓမ္မမူရင်းနှင့် အရေးပါသောဟောကြားချက်များအဖြစ် ရွေးချယ်ခဲ့ကြသည်။ ယင်းနောက် ၎င်းတို့သည် မိမိတို့ကိုယ်ပိုင် တရားဓမ္မနှင့် ဘာသာရေးဆိုင်ရာ လေ့ကျင့်အားထုတ်မှုများကို တိုးတက်အောင် ဆောင်ရွက်ခဲ့ကြသည်။ အချို့သော မဟာယာနဗုဒ္ဓဘာသာပညာရှင်တို့သည် ရုပ်လွန်ဒဿနအမြင်ကို တည်ဆောက်နိုင်ရေးအတွက် ဘဝနှင့်သတ္တဝါတို့နှင့်ဆိုင်သော ရုပ်လွန်အခြေအနေကို ထောက်ခံရန် ကိုယ်ပိုင်အယူအဆများကိုပင် အသုံးပြုခဲ့ကြသည်။

ရုပ်လွန်ဒဿနသည် တစ်စုံတစ်ခုသည် ရှိသည်(အတ္ထိ)နှင့် မရှိ(နတ္ထိ)၊ ယင်းနှစ်မျိုးကိုငြင်းဆိုချက် ရှိသည်လည်းဟုတ် မရှိသည်လည်းဟုတ်ဟူသော ယုတ္တိသဘောနှင့်ဆက်နွယ်၏။ အဆိုပါ ရှိဟုတ်မရှိဟုတ်ဒဿန လွှမ်းမိုးသဖြင့် ရှေးဦးဗုဒ္ဓဘာသာဝင်တို့သည် နိဗ္ဗာန်သည် တည်ရှိ၏ သို့တည်းမဟုတ် တည်ရှိသည်ဟူသော သဘောတရားအားလုံး၏ ဆန့်ကျင်ဘက်ဟု ယူဆကြ၏။ ယင်းရှေးဦးဗုဒ္ဓဝါဒီတို့အနေဖြင့် နိဗ္ဗာန်သည် ဒုက္ခမရှိသည်၌ တည်ရှိ၏ သို့တည်းမဟုတ် ယင်းသည် ဒုက္ခမရှိခြင်းမျှသာဖြစ်၏ဟု ယူဆခဲ့ကြသည်ကို တွေ့နိုင်သည်[၁၀၁]။

ရှိသည်(အတ္ထိ) မရှိ(နတ္ထိ)ဟူသော ရုပ်လွန်ဒဿနနှင့်ပတ်သက်သည့် အထက်ပါဖော်ပြချက်ကို ဆင်ခြင်သော် သံသရာသည်ပင် နိဗ္ဗာန်ဟုယူသဖြင့် ယင်းသို့သော သီအိုရီယူဆချက်သည် ဒုက္ခပြဿနာများအတွက် အဖြေမဖြစ်နိုင်ဟု ဆိုရမည်ဖြစ်သည်။ အဖြစ်မရှိခြင်း (အဘာဝ)၊ ဆိတ်သုံးခြင်း (တုစ္ဆ) အနေဖြင့် အဓိပ္ပာယ်ကောက်ယူလျက် နိဗ္ဗာန်ဟူသည် လုံးဝမရှိခြင်းဟူသော ယူဆချက်ကို စွဲကိုင်ထားလျှင် မဟုတ်အဖြေယူဆချက်သို့ ကျရောက်နေသည်။ နာဂရဇ္ဇုနက အရှိတရားအားလုံးသည် တည်မှီသောအရှိတရားဖြစ်သည်ဟူသော အဆိုမှန်လျှင် နိဗ္ဗာန်အပါအဝင် မတည်မှီသောတရားသည် မတည်ရှိဟု ဆိုနိုင်ပြန်သည်[၁၀၂]။ နိဗ္ဗာန်ဟူသောဘာသာစကားသည် ရှုထောင့်အမျိုးမျိုးနှင့် ဗုဒ္ဓဝါဒီပညာရှင်များစွာတို့၏ အဓိပ္ပာယ်ကောက်ယူချက်နှင့် ပတ်သက်နေသဖြင့် နိဂုံးကောက်ချက်ဆွဲယူရန် ခဲယဉ်းသည်။

ယောဂါစာရဂိုဏ်းကို တွဲဖက်တည်ထောင်သူ အသင်္ဂသည် နည်းလမ်းများစွာဖြင့် ပရမတ္ထသစ္စာနှင့် သမ္မုတိသစ္စာဟူသော အမှန်တရားနှစ်မျိုးကို ပြင်ဆင်ပြုပြင်လျက် နာဂရဇ္ဇုန၏ အယူအဆကို ထောက်ခံရန် ကြိုးပမ်းခဲ့သည်။ အသင်္ဂသည် ထောက်ဆခြင်း၊ ကြံစည်ခြင်း၊ ဆုံးဖြတ်ခြင်းဟူသော လက္ခဏာသုံးရပ်ရှုထောင့်မှ ၎င်း၏အမြင်ကို ဖော်ပြခဲ့သည်။ သို့တစေ အသင်္ဂသည် နိဗ္ဗာန်ဟူသောဝေါဟာရကို ရှေးဦးဗုဒ္ဓဝါဒီတို့ အဓိပ္ပာယ်ဖွင့်ဆိုသည်နှင့် အနီးစပ်ဆုံးအနေဖြင့် ပြတ်စဲခြင်း သို့မဟုတ် ချုပ်ငြိမ်းခြင်းဟုဖွင့်ဆိုရန် ကြိုးပမ်းခဲ့သည်။ 'ပြတ်စဲခြင်းကို အဘယ်ကြောင့် နိဗ္ဗာနဟုခေါ်သနည်း။ အကြောင်းမူ နိဗ္ဗာန်သည် ကိလေသာအပူအားလုံးနှင့် အလိုဆန္ဒအားလုံး မပြည့်စုံမှုကြောင့်ဖြစ်ပေါ်လာသည့် ဆင်းရဲဒုက္ခအပူကြီးတို့မှ လွတ်မြောက်သောကြောင့်ဖြစ်၏။ ယင်းဒုက္ခပြတ်စဲသွားခြင်းကို အဘယ်ကြောင့် ချုပ်ငြိမ်းခြင်း (နိဗ္ဗာန်)

[၁၀၀] Cheng, 13.
[၁၀၁] Bibhuti, 452.
[၁၀၂] Ibid, 463-464.

ဟုဆိုရသနည်း။ အကြောင်းမူ ယင်းသည် သဏ္ဍာန်မဲ့ ငြိမ်းချမ်းမှုဖြစ်သောကြောင့်တည်း’[၁၀၃]။ တစ်ဖန်ဆိုရမူ ယောဂါစာရ ဂိုဏ်းတည်ထောင်သူများအနက် တစ်ယောက်ပါဝင်သူ **ဝသုဗန္ဓု**အမည်ရှိ ဗုဒ္ဓဘာသာပညာရှင်တစ်ယောက်လည်း ရှိသေးသည်။ ထိုပုဂ္ဂိုလ်၏ နိဗ္ဗာန်အယူအဆမှာ အောက်ပါအတိုင်းဖြစ်သည် -

> ပဋိသင်္ခါနိရောဓ သို့မဟုတ် နိဗ္ဗာန်ဟူသည် အဘယ်ကို ခေါ်သနည်းဟူမူ - တည်ရှိပြီး ကိလေသာများနှင့် တည်ရှိပြီး ဘဝကို ဖျက်ဆီးလိုက်သောအခါ ကိလေသာအကြွင်းအကျန် သို့မဟုတ် ဘဝအကြွင်းအကျန်မရှိခြင်းတည်း။ စိတ်၏သတ္တိ (ပဋိသင်္ခါပညာ)ဟူသော အကြောင်းကြောင့် (သို့သော် သုတ္တန္တာန်ဆောင်ပုဂ္ဂိုလ်တို့က မှတ်ချက်ပြုကြ၏) အနာဂတ်တွင် ဒုက္ခဖြစ်ပေါ်မလာခြင်းသည် စိတ်ဝိညာဉ်ကို အထောက်အပံ့ပြု၏။ ယင်းနောက် ယင်း (ဒုက္ခဖြစ်ပေါ်မလာခြင်း)ကို ပဋိသင်္ခါနိရောဓအတွင်း ထည့်သွင်းရ၏[၁၀၄]။

ဧင်း၏နိဗ္ဗာန်အမြင်အရ နိဗ္ဗာန်ဟူသည် ကိလေသာအားလုံး သို့မဟုတ် ဘဝအားလုံးမှ လွတ်မြောက်ခြင်းကြောင့် အနာဂတ်တွင် ဒုက္ခဖြစ်ပေါ်မလာခြင်းဖြစ်သည်။ နိဗ္ဗာန်သို့ရောက်ရခြင်းတွင် ကိလေသာမှ လွတ်မြောက်ခြင်းသည် အဓိက အချက်ဖြစ်ကြောင်း ဆိုလိုခြင်းဖြစ်သည်။ အမှန်စင်စစ် ဗုဒ္ဓဘာသာပညာရှင်များသည် လွတ်မြောက်မှုကို ရှာဖွေနေကြသည့် အခြားသော ဘာသာတရားလိုက်စားသူများအား မိမိတို့၏အတွေးအမြင်ကို မျှဝေကြခြင်းဖြစ်သည်။

ဗုဒ္ဓဝါဒနိဗ္ဗာန်အဓိပ္ပာယ်ဖွင့်မှုဆိုင်ရာ ဖော်ပြချက်ကို အနှစ်ချုပ်သော် ဗုဒ္ဓဘာသာဝင်များ၏ ရှုထောင့်အရ နိဗ္ဗာန်ဟူသည် အနှစ်သာရအားဖြင့် ငြိမ်းချမ်းမှုလက္ခဏာတစ်ရပ်သာရှိသော်လည်း ယင်းသည် အဓိပ္ပာယ်အမျိုးမျိုးရှိနိုင်သည်။ သို့တစေ အံ့သြဖွယ်ကောင်းသည်မှာ ဗုဒ္ဓဝါဒအစဉ်အလာများသည် နိဗ္ဗာန်အား နာမ်တရားအနေဖြင့် ပရမတ္ထ (အဆုံးစွန် အစစ်အမှန်) တရားအဖြစ် အဓိပ္ပာယ်ဖွင့်ဆိုမှုကို ယေဘုယျအားဖြင့် သဘောတူကြခြင်းဖြစ်သည်။ သို့ရာတွင် ဖော်ပြပြီး နိဗ္ဗာန် အဓိပ္ပာယ်ဖွင့်ဆိုမှုများနှင့် ပတ်သက်၍ လျဉ်းပါးဖွယ်များ ရှိနိုင်သေးသည်။ ဤသည်မှာ နိဗ္ဗာန်အဓိပ္ပာယ်သည် ဧင်းတို့ယူဆသည်နှင့် ခြားနားပြီး နိဗ္ဗာန်၏အနှစ်သာရမှာ ဧင်းတို့မျှော်လင့်သည်နှင့် ခြားနားကြောင်းဆိုလိုသည်။ ဧင်းတို့အနေဖြင့် ယခင်ဖွင့်ဆိုပြီး ကျမ်းစာများကို အခြေပြု၍ ပြန်လည်ရှင်းလင်းဖွင့်ဆိုခဲ့ခြင်းဖြစ်ဖွယ်ရှိသည်။ သိပြီးဖြစ်သည့်အတိုင်း လက်တွေ့ကျင့်သုံးမှုမှတစ်ဆင့် နိဗ္ဗာန်ကို ရနိုင်သည်သာဖြစ်သည်။

**ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်များ၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်များ**

နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့်ပတ်သက်၍ ဖော်ပြပြီးဖြစ်သည့်အတိုင်း ပညာရှင်အများစု၏ နိဗ္ဗာန်အဓိပ္ပာယ် ဖွင့်ဆိုချက်များမှာ နိဗ္ဗာန်အား ဧင်းတို့ကိုယ်တိုင်တွေ့ကြုံသိရှိမှုတွင် အခြေမခံဘဲ စာတွေ့နိဗ္ဗာန်ယူဆချက် နားလည်မှုအပေါ်တွင် အခြေခံပုံရသည်။ ပါဠိတော်ကျမ်းဂန်တို့၌ နိဗ္ဗာန်ကိုနားလည်ရန် ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်လေ့ကျင့်မှုဖြင့် ချဉ်းကပ်မှု အမှန်တကယ်လိုကြောင်း အထူးပြုဖွင့်ဆိုကြသည်။ ယင်းသည် နိဗ္ဗာန်၏သဘာဝကို သဘောပေါက်ခြင်းအတွက် အခြေခံလမ်းညွှန်ချက်ဖြစ်သည်။ သို့ရာတွင် ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်များအနေဖြင့် လက်တွေ့အခြေခံမပါဘဲ စာတွေ့နှင့် တွေးခေါ်မြော်မြင်မှုအခြေခံဖြင့် နိဗ္ဗာန်ကိုလေ့လာရန် အကောင်းဆုံးနည်းလမ်းဖြစ်ကြောင်း သွယ်ဝိုက်၍ အသားပေး ဖော်ပြလိုကြသည်။ နိဗ္ဗာန်ဟူသည် မည်သို့ဖြစ်သည်ဟု ရေးဦးစွာ စာတွေ့အားဖြင့် နားလည်ရန် ဖြစ်နိုင်သည်။ သို့တစေ နိဗ္ဗာန်၏အဓိပ္ပာယ်ကို ပိုမိုနားလည်နိုင်ရန် ပရိယတ္တိ(စာတွေ့)နှင့် ပဋိပတ္တိ(လက်တွေ့)ဟူသော ရှုထောင့်နှစ်ထွေကို အသုံးချရန် မဖြစ်မနေလိုအပ်ကြောင်း ဤလေ့လာချက်၌ အခိုအမာဖော်ပြသည်။

နိဗ္ဗာန်အယူအဆ မည်မျှသြဇာကြီးမားကြောင်းနှင့် အခြားသောယဉ်ကျေးမှုနှင့် အစဉ်အလာများကို မည်မျှလွှမ်းမိုးကြောင်းသိမြင်ရန် တကယ်ပင် အံ့သြစရာဖြစ်နေသည်။ ဤနိဗ္ဗာန်ယူဆချက်နှင့် ပတ်သက်၍ ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်များက ဧင်းတို့ဘာသာတရားယူဆချက်အပေါ်အခြေခံလျက် ဧင်းတို့နားလည်သည့်အတိုင်း နိဗ္ဗာန်၏သဘာဝကို အဓိပ္ပာယ်ဖွင့်ဆိုရန် ကြိုးပမ်းခဲ့ကြသည်။ ဥပမာအားဖြင့် ဟိန္ဒူဘာသာရှုထောင့်မှ နိဗ္ဗာန်ဝေါဟာရကိုဆက်နွယ်ရန် ကြိုးပမ်းသည့် ဟိန္ဒူဝါဒယူဆချက် တစ်ရပ်ရှိသည်။ ယင်းယူဆချက်ကို အောက်ပါဖော်ပြချက်၌ တွေ့ရသည် ‘ဗုဒ္ဓသည် တစ်ကိုယ်ရေ

---

[၁၀၃] Asanga, 193.

[၁၀၄] Vasubandhu *Abhidharmakosabhasyam,* Vol 1. Translated by Pwo M. Pruden from the French translatin of Louis de La Vallee Poussin, ( 1923-1925; reprent, Berkeley, California: Asian Humanities Press, 1988), 280-281.

အတ္တလိပ်ပြာငယ်ကိုသာ ငြင်းဆိုခဲ့ပြီး မဟာဗြဟ္မာနှင့်ထပ်တူပြုသည့် မဟာအတ္တအား မငြင်းဆိုဘဲ နိဗ္ဗာန်၏ အမှန်တရားသည် ဥပနိသျှဒ်ကျမ်းတို့၌ သင်ကြားသည့် လွတ်မြောက်မှုကဲ့သို့ပင်ဖြစ်ကြောင်း ဆိုနိုင်သည်[၁၀၅]။

ထို့ပြင် ဗုဒ္ဓဝါဒီမဟုတ်သူပညာရှင် မာက်စ် မူလာ (Max Muller)က နိဗ္ဗာန်ဟူသည် ဝိညာဉ်လိပ်ပြာ ရပ်နားခြင်းသို့ ရောက်ရှိခြင်းအဖြစ် အဓိပ္ပာယ်ဖွင့်ဆိုရန် ကြိုးပမ်းခဲ့သည်။ ယင်းပညာရှင်တို့၏ နိဗ္ဗာန်ယူဆချက်မှာ ယင်းတို့၏ယုံကြည်မှုကို အခြေခံသည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ထိုပုဂ္ဂိုလ်က နိဗ္ဗာန်ကို အောက်ပါအတိုင်း ဆိုသည် -

> အတ္တလိပ်ပြာဝိညာဉ်ကောင် အနားယူသွားခြင်း၊ ဆန္ဒနှင့် လိုအပ်ချက်အားလုံးတို့ကို ကျော်လွှားအောင်မြင်ခြင်း၊ သုခဒုက္ခ အကောင်း အဆိုး ခြားနားမှုမရှိခြင်း၊ အတ္တဝိညာဉ် ၎င်းဘာသာ နစ်ဝင်သွားခြင်း၊ မွေးခြင်းမှ သေခြင်း သေခြင်းမှ အသစ်တစ်ဖန်မွေးဖွားခြင်းဟူသော ဘဝသံသရာမှ လွတ်မြောက်သွားခြင်း[၁၀၆]။

ဗုဒ္ဓဝါဒ၏အဓိကရည်ရွယ်ချက်မှာ အတ္တလိပ်ပြာရှိဝါဒကို ငြင်းဆိုပါလျက် အတ္တလိပ်ပြာသီအိုရီကို စွန့်ပယ်ရန် ခဲယဉ်းကြောင်း နားလည်နိုင်သည်။ သို့တစေ နိဗ္ဗာန်ကို အခြားပုဂ္ဂိုလ်များ မည်သို့ယူဆသည် ၎င်းတို့နည်းလမ်းဖြင့် နိဗ္ဗာန်ဟူသည်ကို အမှန်တရားတစ်ရပ်အဖြစ် မည်သို့ထင်မြင်ခဲ့သည်ကို သိရခြင်းမှာ စိတ်ဝင်စားဖွယ်ကောင်းသည်။ အမှန်သော် နိဗ္ဗာန်အယူအဆသည် ၎င်းတို့ထင်မြင်ခဲ့သည်နှင့် တူညီနိုင်မည်မဟုတ်ပေ။ အခြားဘာသာတရားရှုထောင့်မှ နိဗ္ဗာန်အယူအဆမည်သည့် အသေးစိတ် နှိုင်းယှဉ်ခွဲခြမ်းစိတ်ဖြာမှုကိုမဆို ဤလေ့လာမှုနယ်ပယ်အတွင်း ထည့်သွင်းမည်မဟုတ်ပေ။

ဘာသာရေးရှုထောင့်များနှင့် ပတ်သက်၍ ဘာသာတရားကိုယ်၌ပင် ယင်းတို့၏ ယုံကြည်မှုစနစ်အတွင်း လူအများကို ရှုပ်ထွေးလာစေရန် စွမ်းရည်ရှိသည်ဟု ဆိုနိုင်ပါသလော။ ယင်းသို့ မဆိုနိုင်ပါ။ ဘာသာတရား၏ ရည်ရွယ်ချက်သည် လူသားတို့၏ ငြိမ်းချမ်းမှုကို တည်ဆောက်ရန်ဖြစ်သည်။ လူတို့သည် ဘာသာတရားလိုက်နာကျင့်သုံးမှုဖြင့် ကိုယ်ပိုင်ငြိမ်းချမ်းမှုကို တည်ဆောက်နိုင်သည်။ သို့တစေ ဤယုံကြည်မှုစနစ်သည် ပြီးပြည့်စုံစွာ မှန်ကန်သလော သို့တည်းမဟုတ် လုံးဝမှားယွင်းသလော ဟူသည်ကို အတိအကျ မဆိုနိုင်ချေ။ အမှန်စင်စစ် ဘာသာတရားများသည် လူသာတို့အား ငြိမ်းချမ်းမှုကို တည်ဆောက်နိုင်သလော သို့မဟုတ် လူသားတို့သည် ငြိမ်းချမ်းမှုအတွက် ဘာသာတရားများကို တည်ဆောက်နိုင်သလောဟူသည်ကို ဆိုရန်ခဲယဉ်းလှသည်။ သို့ဖြင့် ဘာသာရေးယုံကြည်မှုစနစ်အကြောင်းကို ပြောဆိုလေ ရှုပ်ထွေးလာနိုင်လေဖြစ်သည်။ အမှန်သော် နိဗ္ဗာန်သည် ထည့်သွင်းစဉ်းစားရမည့် အကြောင်းအရာတစ်ခုမဟုတ်သော်လည်း ချဉ်းကပ်သင့်သော အစစ်အမှန်တရားတစ်ခု ဆိုလိုသည်မှာ နောက်ဆုံးအစစ်အမှန်တရားတစ်ခုဖြစ်သည်။ ဤအဓိပ္ပာယ်အရ နိဗ္ဗာန်သည် စိတ်ပိုင်းဘဝ တွေ့ကြုံသိရှိမှုမှတစ်ပါး အခြားတစ်ပါးမဟုတ်ချေ။

ထေရဝါဒဗုဒ္ဓဝါဒီအချို့သည် ဗုဒ္ဓဟောကြားချက်များနှင့် ဗုဒ္ဓ၏ဓမ္မရေးရာလွတ်မြောက်မှုအမြင်အား လက်တွေ့ချဉ်းကပ်မှုကိုအခြေခံလျက် ခွဲခြမ်းစိတ်ဖြာရန် ကြိုးစားခဲ့ကြသည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ယင်းအခြေအနေများကို ရှုလျက် ဗုဒ္ဓဝါဒီပညာရှင် လာဗောလီပူရှင် (La Vallee Poussin)က အောက်ပါအတိုင်းဖော်ပြခဲ့သည် -

> ရှေးဦးဗုဒ္ဓဝါဒ၌ ရုပ်လွန်သဘောတရား လုံးဝမရှိ သို့မဟုတ် အရာဝတ္ထုတို့၏ အလုံးစုံနှင့် သဘာဝရေးရာ သင်ယူအပ် သို့မဟုတ် အတိအကျအကြောင်းပြချက်ရှိသော စာတွေ့သဘောတရား မရှိချေ။ ဗုဒ္ဓရှင်တော်မြတ်၏ ဟောကြားချက်များကို အမှီပြုလျက် လူသည် အသိပညာထွန်းလင်းမှုဖြင့် လွတ်မြောက်ရာနိဗ္ဗာန်တွင် သန္တိသုခကို ရရှိသည်အထိ မိမိပြုမူဆောင်ရွက်ချက်တို့၏ အကျိုးတရားကို တစ်ဘဝပြီးတစ်ဘဝ ခံစားရမည်ဖြစ်ကြောင်း ယုံကြည်ကြသည်[၁၀၇]။

စတီဗင် ကောလင်းစ် (Steven Collins) သည် နိဗ္ဗာန်ကို ဘဝ၏ ပြုပြင်အပ်သော မတည်မြဲသော မနှစ်မြို့ဖွယ် အရာအားလုံး ဆုံးခန်းတိုင်သည့် ပြတ်စဲမှုဖြစ်စဉ်အဖြစ် အဓိပ္ပာယ်ဖွင့်ဆိုခဲ့သူ ခေတ်သစ် ဗုဒ္ဓဝါဒီပညာရှင်ဖြစ်သည်။ ၎င်း၏ ဗုဒ္ဓဝါဒအပေါ် အကောင်းမြင်သဘောထားသည် ဗုဒ္ဓဝါဒကို လက်မခံလိုဘဲရှိကြသူများအား (ကျေနပ်လာစေရန်) ခွန်အားတစ်ရပ်ဖြစ်စေသည်။ ၎င်းတို့သည် နိဗ္ဗာန်၏သဘောသဘာဝကို နားလည်မှုလွဲပြီး တရားဓမ္မရှာဖွေသူ၏ အခန်းကဏ္ဍကို

[၁၀၅] Collins, 98.

[၁၀၆] Welbon, 125.

[၁၀၇] Ibid, 282.

လူမှုဆက်နွယ်ရေးနှင့် ပြတ်တောက်မှုအဖြစ် ရှုမြင်ကြသောကြောင့် လက်မခံလိုကြခြင်းဖြစ်သည်။ စတီဗင် ကောလင်းစ်သည် ၎င်း၏ ဗုဒ္ဓဝါဒအတွေးအမြင်နှင့် ယနေ့လူမှုရေး ဆက်စပ်ပတ်သက်မှုကို တင်ပြခဲ့သည်။ အမှန်စင်စစ် စတီဗင်ကောလင်းသည် သဿတ (တည်မြဲမှု)နှင့် ဥစ္ဆေဒ (ပြတ်စဲမှု)ဟူသော အစွန်းနှစ်ရပ်ယူဆချက်ကို မဖြေရှင်းခဲ့သော်လည်း နိဗ္ဗာန်ကို ထူးမြတ်သာလွန်ပြီး အသင်္ခတ လွတ်မြောက်မှုအဖြစ်ယူဆသည့် ဗုဒ္ဓဝါဒတန်ဖိုး၏ အစိတ်အပိုင်းအဖြစ် ဖော်ပြခဲ့သည်။ ရဟန္တာပုဂ္ဂိုလ်များ ပရိနိဗ္ဗာန်စံပြီးနောက် အခြေအနေပြဿနာနှင့်ပတ်သက်သည့် ၎င်း၏ဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည်-

> အဖြေမှာ အခြေအနေနှစ်ရပ်အနက် တစ်ခုသာဖြစ်နိုင်ကြောင်း မကြာခဏဖော်ပြပုံရသည် - နိဗ္ဗာန်သည် အတ္တလိပ်ပြာကိုလက်မခံမှု၊ ထာဝရတည်မြဲမှုမှန်သမျှကို ပြောဆိုခြင်းအား ငြင်းပယ်မှု၊ ရည်ရွယ်ပုံရသည်ကို မရည်ရွယ်ရသော မြင့်မြတ်သည့် ဘုံဌာနတစ်မျိုးဟုဖြစ်စေ၊ သို့မဟုတ် ဓမ္မသည် ရည်ရွယ်ပုံရသည်ကို အမှန်တကယ် ရည်ရွယ်သဖြင့် နိဗ္ဗာန်ဟူသည် ဘာမျှမရှိခြင်း ချုပ်ငြိမ်းပြတ်စဲခြင်းဟုဖြစ်စေ (ဖော်ပြနိုင်၏)။ ဗုဒ္ဓဝါဒကျမ်းဂန်ဆိုင်ရာ ရပ်တည်ချက်ကို ရှင်းလင်းစွာဖော်ပြရမူ နိဗ္ဗာန်ဟူသည် အမှန်ပင် ဘာသာရေးဆိုင်ရာ နောက်ဆုံးပန်းတိုင် ဒုက္ခအားလုံးနှင့် မတည်မြဲသောအရာအားလုံးမှ လွတ်မြောက်ခြင်းဖြစ်သော်လည်း ဘာသာစကား တွေးခေါ်ယူဆချက်တို့ဖြင့် မှန်ကန်အောင် မဖော်ပြနိုင်သောအရာဖြစ်၏။ နိဗ္ဗာန်သည် အတက္ကာဝစရံ တွေးခေါ်ကြံဆ၍ မရနိုင်သောအရာ ( It 37, Ud-a 391) ဖြစ်၏။ ထင်ရှားသည်မှာ နိဗ္ဗာန်ကို ဝိညာဉ်အတ္တလိပ်ပြာတစ်ခုအဖြစ် မဖော်ပြနိုင်ခြင်းဖြစ်၏။ ခေတ်သစ်ဗုဒ္ဓဘာသာ စာရေးဆရာများသည် ကုန်းမြေအတွေ့အကြုံကို ငါးအား မရှင်းပြနိုင်သော လိပ်နှင့်ဥပမာပြု၍ ဖော်ပြကြ၏[၁၀၈]။

နိဗ္ဗာန်အကြောင်း ပညာရှင်တို့ အဓိပ္ပာယ်ဖွင့်ဆိုချက်များအနက် အချို့သော ကြောင်းကျိုးဆီလျော်သည့် အချက်များမှ တွေ့ရသည့်အတိုင်း ယင်းဖွင့်ဆိုချက်တို့သည် တစ်နည်းမဟုတ်တစ်နည်း အဆင့်မြင့်စနစ်တကျလေ့လာမှုအတွက် အကျိုးရှိသည်။ သို့တစေ ပညာရှင်တို့သည် တွေးခေါ်ခြင်းနှင့် အစစ်အမှန်တရားဟူသော ရှုမြင်မှုနှစ်ရပ်အကြား ခြားနားမှုကို ရှာဖွေနေကြဆဲဖြစ်သည်။ ဗုဒ္ဓဝါဒအတွေးအခေါ်ရှုထောင့်မှ နိဗ္ဗာန်ကို တွေ့ကြုံသိရှိမှုအား နာမ်ပိုင်းသဘောတရားတစ်မျိုး သို့မဟုတ် စိတ်ပိုင်းဆိုင်ရာ လမ်းစဉ်တစ်ရပ်၏ ပုဂ္ဂလိကပိုင်ဆိုင်သောအရာအဖြစ် ယူဆကြသည်။ သို့ရာတွင် ဤလေ့လာချက်၏ ရည်ရွယ်ချက်မှာ အစစ်အမှန်တရားကို ထောက်ခံသည့် တွေးခေါ်မြော်မြင်မှုများနှင့်အတူ ယင်းအစစ်အမှန်တရားအား တွေ့ကြုံသိရှိမှုကို ရှင်းပြရန်ဖြစ်သည်။ အစစ်အမှန်တရားအား တွေ့ကြုံသိရှိမှုကို လက်တွေ့ချဉ်းကပ်မှုအခြေခံဖြင့် ရရှိနိုင်သည်။ ထိုအတူပင် တွေးခေါ်မြော်မြင်မှုဆိုင်ရာ ယူဆချက်သည် ပါဠိတော်များ၊ စာပေတို့အပြင် ယင်းချဉ်းကပ်မှုဆိုင်ရာ အဓိပ္ပာယ်ဖွင့်ဆိုမှုတို့နှင့် ဆက်နွယ်သည်။ တွေးခေါ်မြော်မြင်ယူဆချက်သည် ပန်းတိုင်သို့ သက်သောင့်သက်သာ ရောက်ရှိရန် လမ်းညွှန်သော မြေပုံနှင့်တူသည်။ သို့ဖြင့် ဤလေ့လာမှုသည် တွေးခေါ်မြော်မြင်မှု ရှုထောင့်ကို အသုံးချခြင်းမရှိဘဲ နိဗ္ဗာန်၏အဓိပ္ပာယ် ခွဲခြမ်းစိတ်ဖြာမှုကို ရှောင်လွှဲရန် မဖြစ်နိုင်ချေ။

**ကျမ်းဂန်လာ နည်းလမ်းများဖြင့် နိဗ္ဗာန်ကို နားလည်ခြင်း**

တွေးခေါ်မြော်မြင်မှုရှုထောင့်ဖြင့် ဖော်ပြပြီးဖြစ်သည့်အတိုင်း ဤလေ့လာမှု၏ ပန်းတိုင်သို့ရောက်ရန် ဤကျမ်း၌ အရေးကြီးသည့် အခန်းကဏ္ဍတစ်ရပ်မှာ ပါဠိတော်ကျမ်းဂန်များကို အသုံးချရန်ဖြစ်သည်။ ပဋိစ္စသမုပ္ပာဒနှင့် ဝိသုဒ္ဓိမဂ္ဂဟူ၍ အရေးပါသည့် ကျမ်းဂန်လာနည်းလမ်း နှစ်ရပ်ရှိသည်။ ယင်းကျမ်းဂန် နည်းလမ်းနှစ်ရပ်ကို ဗုဒ္ဓဝါဒလက်တွေ့ကျင့်စဉ်၌ ပန်းတိုင်သို့ ရောက်ရန် မကြာခဏအသုံးပြုသည်။ ယင်းနည်းလမ်းများကို ပါဠိတော်နှင့် အဋ္ဌကထာကျမ်းတို့၌ စနစ်တကျမှန်တမ်းတင်ထားသည်။

ယင်းဖော်ပြချက်၌ ပဋိစ္စသမုပ္ပာဒဟူသည် ပဋိစ္စ-နှင့် သမုပ္ပာဒ-ဟူသော ပုဒ်နှစ်ခုပေါင်းဖြစ်သည်။ ဤ၌ ပဋိစ္စဟူသည် အကြောင်းပြု၍ သမုပ္ပာဒဟူသည် ဖြစ်ပေါ်လာခြင်းဟု အဓိပ္ပာယ်ရသည်။ ပရမတ္ထတရားလေးပါးနှင့် ယင်းခေါင်းစဉ်များကို ရှင်းပြပြီးဖြစ်သော်လည်း ဤလေ့လာမှု၌ အကျိုးတရား၊ အကြောင်းတရားနှင့် ယင်းတို့၏ဆက်နွယ်မှုအကြောင်းကို မရှင်းပြရသေးချေ။ ပဋိစ္စသမုပ္ပာဒဒေသနာသည် ကြောင်းကျိုးဆက်နွယ်မှု၏ အရေးပါပုံကို အသေးစိတ်ရှင်းပြသော တရားများအနက် တစ်ခုဖြစ်သည်။ ပဋိစ္စသမုပ္ပာဒနည်းလမ်းသည် အထူးအကြောင်းတရားတို့၏ပြုပြင်ခံဓမ္မ သို့မဟုတ် စေတသိက်

[၁၀၈] Collins, 97.

တရားများကို ဖော်ပြသည်။ ပါဠိတော်စာပေအရ ဗုဒ္ဓရှင်တော်မြတ်သည် ပဋိစ္စသမုပ္ပာဒ်ဖြစ်စဉ်ကို နားလည်ပြီးနောက် ဗောဓိဉာဏ်ကို ရနိုင်ခဲ့သည်။ ပဋိစ္စသမုပ္ပာဒ်ဒေသနာ၌ အခြေခံအားဖြင့် ဒွါဒသင်္ဂ (အင်္ဂါဆယ့်နှစ်ချက်)နှင့် ဒွေမူလ (ရင်းမြစ်နှစ်ခု)တို့ကို အသုံးပြုထားသည်[၁၀၉]။

ဤနည်းလမ်းသည် အခြေခံအားဖြင့် အကြောင်းတရားတစ်ခုမရှိဘဲ အကျိုးတရားတစ်ရပ်မဖြစ်နိုင်၊ အကျိုးတရားတစ်ခုသည်ပင် အကြောင်းတရားတစ်ခုကြောင့် ဖြစ်ပေါ်ရသည်။ အမှန်စင်စစ် အကျိုးတရားအပေါင်းအစုတစ်ခုနှင့် သက်ဆိုင်သည့် အကြောင်းတရားအပေါင်းအစုတစ်ရပ် ရှိမြဲဖြစ်သည်။ ပဋိစ္စသမုပ္ပာဒ်၏ အကျဉ်းချုပ်အခြေခံမှာ တစ်စုံတစ်ခုဖြစ်ပေါ်လာခဲ့သော် ယင်း၏အကျိုးတရားတစ်စုံတစ်ခု ရှိရမည်ဟုဖြစ်သည်။ အကယ်၍ ယင်းအကြောင်းတရား ပြတ်စဲခဲ့သော် နောက်အကျိုးတရားတစ်ခု ဖြစ်ပေါ်လာတော့မည်မဟုတ်။ **ဘိက္ခုဗောဓိ**၏ အဘိဓမ္မတ္ထသင်္ဂဟ အင်္ဂလိပ်ဘာသာပြန်ကျမ်းလာ ပါဠိဘာသာဖော်ပြချက်တစ်ရပ်မှာ 'ဣမသ္မိံ သတိ ဣဒံ ဟောတိ၊ ဣမဿ ဥပ္ပာဒါ ဣဒံ ဥပ္ပဇ္ဇတိ၊ ဣမသိံ အသတိ ဣဒံ န ဟောတိ (ဤအကြောင်းတရားရှိသော် ထိုအကျိုးတရားရှိ၏၊ ဤတရားဖြစ်ခြင်းကြောင့် ထိုတရားဖြစ်ပေါ်၏၊ ဤတရားမရှိသော် ထိုတရားမဖြစ်။)' ပါဠိတော်၌ **ပဋိစ္စသမုပ္ပာဒ**အခြေခံကို ပုံစံကျ ဖော်ပြထားသည်။ ယင်းဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည်-

> အဝိဇ္ဇာ ပစ္စယာ သင်္ခါရာ၊ သင်္ခါရပစ္စယာ ဝိညာဏံ၊ ဝိညာဏပစ္စယာ နာမရူပံ၊ နာမရူပပစ္စယာ သဠာယတနံ၊ သဠာတန ပစ္စယာ ဖဿော၊ ဖဿပစ္စယာ ဝေဒနာ၊ ဝေဒနာပစ္စယာ တဏှာ၊ တဏှာပစ္စယာ ဥပါဒါနံ၊ ဥပါဒနပစ္စယာ ဘဝေါ၊ ဘဝပစ္စယာ ဇာတိ၊ ဇာတိပစ္စယာ ဇရာမရဏာသောကပရဒေဝဒုက္ခဒေါမနဿုပါယာသာ သမ္ဘဝန္တိ။ ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ[၁၁၀]။
> မသိမှုအဝိဇ္ဇာကြောင့် ကံသင်္ခါရတို့ဖြစ်၏၊ ကံသင်္ခါရကြောင့် စိတ်ဝိညာဏ်ဖြစ်ပေါ်၏၊ စိတ်ဝိညာဏ်ကြောင့် နာမ်ရုပ်ဖြစ်ပေါ်၏၊ နာမ်ရုပ်ကြောင့် အာယတန ခြောက်ပါးဖြစ်ပေါ်၏၊ အာယတနခြောက်ပါးကြောင့် ထိတွေ့မှု ဖဿဖြစ်ပေါ်၏၊ ဖဿကြောင့် ခံစားမှုဝေဒနာဖြစ်ပေါ်၏၊ ဝေဒနာကြောင့် တပ်မက်မှုတဏှာ ဖြစ်ပေါ်၏၊ တဏှာကြောင့် စွဲလမ်းမှုဖြစ်ပေါ်၏၊ စွဲလမ်းမှုကြောင့် ဘဝတည်ရှိမှုဖြစ်ပေါ်၏၊ ဘဝကြောင့် တစ်ဖန်ဘဝသစ်မွေးဖွားမှု ဖြစ်ပေါ်၏၊ ဘဝသစ်မွေးဖွားမှုကြောင့် အိုခြင်း သေခြင်း စိုးရိမ်ရခြင်း ပူဆွေးရခြင်း ကိုယ်ဆင်းရဲခြင်း စိတ်ဆင်းရဲခြင်း ပြင်းစွာပူပန်ခြင်းတို့ ဖြစ်ပါ၏။ ယင်းသို့လျှင် ဤဒုက္ခအစုအဝေးသည် ဖြစ်ပေါ်ရ၏[၁၁၁]။

အမှန်သော် ပဋိစ္စသမုပ္ပာဒသည် ကြောင်းကျိုးဖြစ်စဉ်အတွက်ရော ဘဝလည်ပတ်မှု (ဝဋ္ဋ) အတွက်ပါ အလွန်လိုအပ်သော အဆောက်အအုံဖြစ်သည်။ စေတသိက်ဟူသော အကြောင်းတရားသည် မွေးသေစက်ဝန်းကို မပြတ်စဲအောင် ခံဆောင်ထားသည်။ ပဋိစ္စသမုပ္ပာဒ၌ အင်္ဂါ ဆယ့်နှစ်ရပ်ပါရှိ၏။ ယင်းတို့မှာ အတိတ်ဘဝ အကြောင်း နှစ်ခု၊ ပစ္စုပ္ပန်ဘဝ အကြောင်းတရား ရှစ်ခု နှင့် အနာဂတ်အကြောင်းတရား နှစ်ခုတို့ဖြစ်သည်။ ယင်းဆယ့်နှစ်မျိုးတွင် အဝိဇ္ဇာနှင့် သင်္ခါရတို့သည် အတိတ်ဖြစ်စဉ်၌ ပါဝင်သည်။ ဝိညာဏ၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ၊ တဏှာ၊ ဥပါဒါန၊ ဘဝ ဟူသော အင်္ဂါ ရှစ်ခုမှာ ပစ္စုပ္ပန်ဖြစ်စဉ်၌ ပါဝင်သည်။ နောက်ဆုံးနှစ်ခုဖြစ်သည့် ဇာတိနှင့် ဇရာမရဏတို့မှာ အနာဂတ်ဖြစ်စဉ်၌ ပါဝင်သည်။ ပဋိစ္စသမုပ္ပာဒတွင် အလွန်အရေးပါသည့် ရင်းမြစ်တရားနှစ်ပါးမှာ အဝိဇ္ဇာနှင့်တဏှာတို့ဖြစ်သည်။ အဝိဇ္ဇာတဏှာဝသေန ဒွေ မူလာနိ စ ဝေဒိတဗ္ဗာနိ (အဝိဇ္ဇာ တဏှာ၏အစွမ်းဖြင့် ရင်းမြစ်တရားနှစ်ပါးတို့ကိုလည်း သိအပ်ကုန်၏)[၁၁၂]။

ပဋိစ္စသမုပ္ပာဒဒေသနာတော်အရ မွေးခြင်းသေခြင်းအပါအဝင် ဒုက္ခအစုဝေးအလုံးစုံမှာ ယင်းအရေးအပါဆုံး ရင်းမြစ်နှစ်ရပ်ဖြစ်သည်။ ယင်းရင်းမြစ်နှစ်ခုသည် သက်ရှိသတ္တဝါအားလုံးကို ဘဝတစ်ခုပြီးတစ်ခု ဖြစ်ပေါ်အောင် ဖန်တီးနိုင်စွမ်းရှိသည်။ ပဋိစ္စသမုပ္ပာဒဒေသနာ၏ အဓိကအပိုင်းသည် ဖြစ်တည်မှုတစ်ခုရှိပါက ယင်း၏အကြောင်းတရားရှိသည်ပြီး အသစ်ဖြစ်တည်မှုလည်း ရှိလိမ့်ဦးမည်ဟုဖြစ်သည်။ အတိတ်၊ ပစ္စုပ္ပန်နှင့် အနာဂတ် အကြောင်းတရားများမှာ အချင်းချင်း ဆက်နွယ်ကြသည်။ အပြန်အလှန်အားဖြင့် တစ်စုံတစ်ခု ပိုမိုအတိအကျဆိုမူ အဝိဇ္ဇာနှင့် တဏှာ ချုပ်ပျောက်သော် နောက်ထပ်ဖြစ်ပေါ်ရန် ရှိတော့မည်မဟုတ်ချေ။ တဏှာနှင့် အဝိဇ္ဇာဟူသော စေတသိက်တရားတို့ မရှိတော့လျှင် ဘဝသစ်နှင့် သေခြင်း

---

[၁၀၉] *Mahavagga Pali, Vinaya Pitaka, Khuddaka-Nikaya,* 1.
[၁၁၀] Ibid, 1.
[၁၁၁] Ac-Ab, 294-395.
[၁၁၂] Ab-S, 134; Ac-Ab, 302.

မရှိတော့ပြီဟု ဆိုလိုခြင်းဖြစ်သည်။ ယင်းသို့အားဖြင့် တွေးခေါ်မြော်မြင်မှုစနစ်သည် နိဗ္ဗာန်ရောက်ကြောင်းနည်းလမ်းကို ညွှန်ပြရန် မည်သို့မည်ပုံ အသုံးချထားကြောင်း နားလည်နိုင်သည်။

အခြားကျမ်းဂန်လာ အရေးပါသည့် နည်းလမ်းမှာ ဝိသုဒ္ဓိမဂ္ဂ (စင်ကြယ်မှုလမ်းစဉ်) ဖြစ်သည်။ ဤနည်းလမ်းကို ဗုဒ္ဓဘာသာ ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်မှု အတိအကျဆိုမှု သတိပဋ္ဌာန်ကမ္မဋ္ဌာန်း၌ နိဗ္ဗာန်ဟူသော ပန်းတိုင်ကိုရောက်ရန် မကြာခဏ အသုံးပြုလေ့ရှိသည်။ ဗုဒ္ဓဝါဒတွင် ယင်းနည်းလမ်းကို အထူးပြုပြဆိုခြင်းမှာ စိတ္တဝိသုဒ္ဓိဆိုင်ရာ စိတ်အလွန်သန့်ရှင်းမှုအတွက် ထူးခြားသွင်ပြင်ကိုဖော်ပြသော တိုးတက်သည့် လမ်းစဉ်အဆင့်ကို ရှာဖွေရန်ဖြစ်သည်။ ဤနည်းလမ်း၏ ပန်းတိုင်မှာ အဓိကအားဖြင့် ဒုက္ခမှအလုံးစုံမှလွတ်မြောက်မှုအဖြစ် အဓိပ္ပာယ်ဖွင့်ဆိုထားသည့် နိဗ္ဗာန်ကို သိမြင်ရန်အတွက် သတိဖွံ့ဖြိုးတိုးတက်မှုမှတစ်ဆင့် စိတ်ကိုဖြူစင်အောင်လုပ်ရန် ဖြစ်သည်။ အခန်း ၅ တွင် သတိပဋ္ဌာန်ကမ္မဋ္ဌာန်းအကြောင်း ဆွေးနွေးမည်ဖြစ်သည်။

ဤလေ့လာချက်သည် အထူးသဖြင့် ပါဠိကျမ်းဂန်လာ လက်ခံနိုင်ဖွယ်ရှိသော အဓိပ္ပာယ်ဖွင့်ဆိုမှုများနှင့် ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူပညာရှင်တို့၏ ကျမ်းစာတို့၌ တွေ့ရသော အငြင်းပွားဖွယ် အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့် ပတ်သက်သည်။ ထို့ပြင် ဤလေ့လာချက်သည် ကနဦးအနေဖြင့် နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုချက်အမျိုးမျိုးအပေါ် တွေးခေါ်မြော်မြင်မှုဆိုင်ရာ ခြုံငုံလေ့လာချက်တစ်ရပ်ကို ဖော်ပြပြီး နိဗ္ဗာန်အား မှန်ကန်သည့် တွေ့ကြုံသိရှိမှုကို နားလည်မည့် လက်တွေ့နည်းလမ်းကို ရှာဖွေသည်။ ရှေ့တွင် ဖော်ပြပြီးသည့်အတိုင်း ဘဝ (ဖြစ်တည်မှု)၊ ဝိဘဝ (ဖြစ်တည်မှုမရှိခြင်း)၊ နာမ်ရုပ်၏ မနှစ်မြို့ဖွယ်မှ လွတ်မြောက်မှုသဘောတရား ယူဆချက်အပါအဝင် သဘာဝဓမ္မအား သီအိုအရခွဲခြမ်းစိတ်ဖြာရုံမျှဖြင့် နိဗ္ဗာန်၏ အဓိပ္ပာယ် မှန်ကိုဖော်ထုတ်ရန် မလုံလောက်ချေ။ စာဆိုနှင့်လက်တွေ့နှစ်မျိုးလုံးကို ထပ်တူညီမျှအသုံးချရန် လိုအပ်သည်။ အကောင်းမြင်ရော မကောင်းမြင်ပါ ပညာရည်အဆင့်မြင့် အဓိပ္ပာယ်ဖွင့်ဆိုမှုများကိုလည်း ညှိနှိုင်းထားပြီး နိဗ္ဗာန်အကြောင်းကို အဓိပ္ပာယ်ဖွင့်သည့် ၎င်းတို့၏ကျမ်းစာများကို ခွဲခြမ်းစိတ်ဖြာခြင်းဖြင့် နိဗ္ဗာန်အယူအဆအပေါ် ရှင်းလင်းစွာ နားလည်မှုဆီသို့ ဆိုက်ရောက်နိုင်မည်ဖြစ်သည်။

ဝဝဝဝဝဝ

## အခန်း ၃

## ဘဝ (ဖြစ်တည်မှု)နှင့် ဝိဘဝ (ဖြစ်တည်မှုမရှိခြင်း)

**ဘဝ (ဖြစ်တည်မှု) ဟူသည် အဘယ်နည်း**

ဤအခန်း၌ ဖြစ်စဉ်အရ နိဗ္ဗာန်၏ချုပ်ငြိမ်းမှုတွင်ပါဝင်သော ဘဝနှင့်သေခြင်းတို့အပေါ် ဗုဒ္ဓဝါဒရှုမြင်သုံးသပ်ပုံကို အဓိက ဖော်ပြမည်ဖြစ်သည်။ ဘဝနှင့်သေခြင်းဖြစ်စဉ်ကို နားလည်ရန်မှာ နိဗ္ဗာန်အဓိပ္ပာယ်ကို ရှင်းလင်းသည့် ဤလေ့လာချက်၌ အခြေခံအားဖြင့် အရေးပါသောအချက်ဖြစ်သည်။ ဗုဒ္ဓဝါဒကျမ်းဂန်များ၌ အသက်ရှင်ခြင်းနှင့် သေခြင်းဖြစ်စဉ်ကို သိရန် အလိုအပ်ဆုံး အချက်နှစ်ရပ်ရှိသည်။ သို့မဟုတ်လျှင် ဘဝ၏အားနည်းချက် အားသာချက်တို့ကို အမှန်အတိုင်း နားလည်နိုင်မည် မဟုတ်ချေ။ ယင်းအချက်နှစ်ရပ်မှာ ၁) ဘဝ၏သဘာဝနှင့် ၂) သေခြင်း၏သဘာဝတို့ဖြစ်သည်။ ဗုဒ္ဓဝါဒ အလို အရ သေခြင်းသည် ဘဝဆုံးခန်းတိုင်သွားသည်ဟုမဆိုလိုဘဲ အရဟတ္တမဂ်ဉာဏ်ကို မရသေးမူ နောက်ဘဝတစ်ခု၏ အစ ဖြစ်သည်။ ဗုဒ္ဓကျမ်းဂန်များ၌ သက်ရှိဖြစ်စဉ် သို့မဟုတ် ဘဝဆက်လက်၍ဖြစ်ပေါ်ခြင်းကို ဘဝ(ဖြစ်တည်မှု) ဟုခေါ်သည်။ ယင်းကို သင်္ခတ(ပြုပြင်ခံ) တရားအဖြစ်လည်း နားလည်သည်။ နိဗ္ဗာန်သည် ယင်း၏ဆန့်ကျင်ဘက်အဓိပ္ပာယ် အသင်္ခတ (မပြုပြင်အပ်သောသဘော) ဖြစ်သည်။

ဘဝဟူသော ဝေါဟာရသည် စဉ်ဆက်မပြတ် မွေးသေစက်ဝန်းနှင့် ဆက်စပ်နေသည့် ဘဝဖြစ်စဉ်ကိုဆိုလိုပြီး နိဗ္ဗာန် သည် ဘဝဖြစ်စဉ်နှင့် ယင်း၏အကျိုးဆက်ဖြစ်သော မွေးသေစက်ဝန်းမှ လွတ်မြောက်သည်။ ဘဝနှင့်ပတ်သက်၍ မြန်မာ ဗုဒ္ဓဝါဒီတို့ သံသရာဒုက္ခ သို့မဟုတ် မြန်မာလို သံရာဆင်းရဲဟူသောစကားကို မကြာခဏ ပြောဆိုလေ့ရှိကြသည်။ ယင်း ကား ဘဝစက်ဝန်းကို ဆိုလိုခြင်းဖြစ်သည်။ မြန်မာအစဉ်အလာ၌ ထင်ရှားသည့် ဆိုရိုးတစ်ခုရှိသည် 'ဘဝဟူသည် သံသရာ တည်း။ ဘဝသံသရာမှာနေရသရွေ့ ဒုက္ခမျိုးစုံနှင့် မကောင်းသည့်အရာများစွာနှင့် ကြုံတွေ့ရလိမ့်မည်။ ဘဝသံသရာစက်ဝန်း ၌ မရှိတော့လျှင် ကြောက်ဖွယ်မရှိတော့ချေ'ဟုဖြစ်သည်။ ဤဖော်ပြချက်၌ ဘဝမရှိခြင်းဟူသည်ကို ထောက်တည်ရာ နိဗ္ဗာန် အဖြစ် ယူဆသည်။ သို့တစေ နိဗ္ဗာန်တည်ရှိမှုသည် ဘဝမရှိခြင်းအဓိပ္ပာယ်နှင့် ခြားနားသည်။

ဘဝတည်ရှိခြင်း ဘဝမတည်ရှိခြင်းဟူသော ဝေါဟာရများနှင့်ပတ်သက်၍ ဤလေ့လာမှုသည် ရှေးဦးစွာ ဘဝ(ဖြစ် တည်မှု) အယူအဆကို လေ့လာမည်ဖြစ်သည်။ ဖော်ပြပြီးဖြစ်သည့်အတိုင်း နိဗ္ဗာန်သို့ရောက်ရှိပြီးပုဂ္ဂိုလ်များသည် မွေးသေ ဘဝစက်ဝန်း၌ မရှိတော့ချေ သို့မဟုတ် ဘဝသံသရာဖြစ်စဉ်၌ မတည်ရှိတော့ချေ။ နိဗ္ဗာန်ကို အဆုံးစွန် ပျော်ရွှင်ငြိမ်းချမ်းမှု ၏အထွတ်အထိပ် (သန္တိသုခ)ဟုယူဆသည်။ တေသံ (သင်္ခါရာနံ) ဝူပသမော သုခေါ (ထိုသင်္ခါရ ဘဝဖြစ်တည်မှု မရှိတော့ ခြင်းသည် ငြိမ်းချမ်းမှုအစစ်အမှန်ဖြစ်၏)[၁၁၃]။ မွေးသေဖြစ်စဉ်ကို ဖော်ပြသည့် ဗုဒ္ဓဝါဒဆိုင်ရာ ဘုံဌာနအကြောင်း နားလည် ခြင်းမရှိဘဲ ဤလေ့လာချက်သည် ပြီးပြည့်စုံလိမ့်မည်မဟုတ်ချေ။ မွေးသေအကြောင်းရှင်းလင်းချက်သည် နိဗ္ဗာန်၏ရှင်းလင်း သော ပုံသဏ္ဍာန်ကို ဖော်ဆောင်ပေးသည်။

အမှန်သော် ဘဝဖြစ်တည်မှုသဘာဝသည် ဒုက္ခရုပ်သွင်ကို ပီပြင်စွာ သရုပ်ဖော်သည်။ ဤနေရာ၌ ဒုက္ခဟူသည် ဘဝ၌ အလိုမရှိအပ်သော ဆင်းရဲဝေဒနာကို ဆိုလိုသည်။ ဥမာအားဖြင့် ချစ်ခင်သူတစ်ယောက်နှင့် ခွဲခွာကွေကွင်းရခြင်းသည် မနှစ်သက်အပ်သော ဆင်းရဲဝေဒနာတစ်ရပ်ဖြစ်နိုင်သည်။ သေခြင်းသဘာဝသည် ဒုက္ခကို များစွာဖြစ်စေသည်။ ချစ်မြတ် နိုးသည့် ခွဲခွာသွားသူနှင့် ကွေကွင်းခြင်းကြောင့် အသက်ရှင်နေရခြင်းသည် ဒုက္ခနှင့်ကျန်ရစ်သည်။ သံယုတ္တနိကာယ်၊ အာသီ ဝိသောပမသုတ္တန်အရ ဘဝဟူသည် အန္တရာယ်နှင့်ဆက်စပ်နေပြီး **မာရ**ဟူသော သေခြင်းတရားနှင့် မလွဲမသွေ ရင်ဆိုင်ရ မည်ဖြစ်သည်။ ကံကောင်းစွာဖြင့် သက်ရှိသတ္တဝါများအတွက် တစ်ခုတည်းသောမျှော်လင့်ချက်ရှိသည်။ ယင်းကား သေခြင်း တရားမှ လွတ်မြောက်သည့် နိဗ္ဗာန်ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်က နိဗ္ဗာန်ဟူသည်ကို အန္တရာယ်အားလုံးနှင့် သေခြင်းမှ လွတ်မြောက်သောတရားအဖြစ် ဖော်ပြခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ်၏ ဟောကြားချက်မှာ အောက်ပါအတိုင်း ဖြစ်သည်-

> 'ဩရိမံ တီရံ သာသင်္ကံ သပ္ပဋိဘယ'န္တိ ခေါ ဘိက္ခဝေ သက္ကာယဿေတံ အဓိဝစနံ။ ပါရိမံ တီရံ ခေမံ အပ္ပဋိဘယန္တိ ခေါ ဘိက္ခဝေ နိဗ္ဗာနဿေတံ အဓိဝစနံ[၁၁၄]။

---

[၁၁၃] Ma-P-D, 129.

[၁၁၄] Sa-N Vol. II, 383.

အန္တရာယ်ထူပြောပြီး ကြောက်ဖွယ် ဤဘက်ကမ်း (ဘဝဖြစ်တည်မှု) ဟူသည် ခန္ဓာကိုယ်အား သူငါအဖြစ်စွဲယူခြင်း၏ အမည်တည်း။ လုံခြုံပြီး အန္တရာယ်ကင်းသည့် ဟိုဘက်ကမ်း (နိဗ္ဗာန်) ဟူသည် နိဗ္ဗာန်၏အမည်တည်း[၁၁၅]။

အထက်ပါဖော်ပြချက်၌ နိဗ္ဗာန်ဟူသည် သေခြင်းကင်းမှုကို တိုက်ရိုက်ရည်ညွှန်းသည်။ အရေးပါသော နားလည်သင့်သည့် အချက်တစ်ရပ်မှာ သေခြင်းနှင့် သေခြင်းကင်းသည့် သဘာဝအခြေအနေနှစ်ရပ်အကြား ဆက်သွယ်မှုမည်သို့ တည်ရှိသည်၊ ယင်းအရာနှစ်ခု မည်သို့ ပြောင်းလဲသည်ဟူသော အချက်ဖြစ်သည်။ သေခြင်းတရားကို သက်ရှိတို့ ပိုင်ဆိုင်ပြီး သေခြင်းကင်းသည့်တရားကို ဗောဓိဉာဏ်ကိုရရှိပြီးသူတို့ ပိုင်ဆိုင်သည်။ ဖော်ပြပါစကားရပ်၌ မွေးခြင်းနှင့်သေခြင်းသဘာဝကို စုံစမ်းလေ့လာရန်မှာ ဤလေ့လာမှု၏ အဓိကအရေးပါသောအချက်ဖြစ်သည်။ ထို့ကြောင့် နိဗ္ဗာန်သဘာဝကို ခွဲစိတ်ဖြာမှုမပြုမီ လောကီလူသားတို့၏အခြေအနေနှင့် ၎င်းတို့နေထိုင်သည့် ဘုံဌာနတို့အကြောင်းကို ရှင်းပြရမည်ဖြစ်သည်။

ဗုဒ္ဓဝါဒအလိုအရ သက်ရှိသက်မဲ့တို့အပါအဝင် အရာခပ်သိမ်းသည် ပျက်စီးခြင်းသဘာဝရှိသကဲ့သို့ ပြုပြင်ခံသဘာဝလည်းရှိသည်။ ပျက်စီးခြင်းသဘာဝနှင့် ပြုပြင်ခံသဘာဝရှိသည့် လူသားတစ်ယောက်သည် လွတ်လပ်မှုနည်းသည်။ ပျက်စီးခြင်းသဘာဝနှင့် ပြုပြင်ခံသဘာဝတို့ကို ဖြေရှင်းသူသည် လွတ်လပ်မှုပိုများသည်။ ဆိုလိုသည်မှာ ဘဝဖြစ်တည်မှုမရှိသော် ဒုက္ခလုံးဝမရှိဟုဖြစ်သည်။ အကြောင်းမူ ဒုက္ခသည် ဘဝဟုခေါ်သော နာမ်ရုပ်သဘာဝဖြစ်စဉ်နှင့် ဆက်စပ်နေသောကြောင့်ဖြစ်သည်။ ဤဖော်ပြချက်၌ ဘဝမှလွတ်မြောက်မှုနှင့် ဒုက္ခမှလွတ်မြောက်မှုအတွက် နိဗ္ဗာန်လိုသည်။ ဘဝဟူသည်တွင် ကာမဘဝ၊ ရူပဘဝနှင့် အရူပဘဝဟု သုံးမျိုးပါဝင်သည်။ အဘိဓမ္မတ္ထသင်္ဂဟကျမ်းဖော်ပြချက်မှာ 'ဒုက္ခံ တေဘူမကံ ဝဋ္ဋံ၊ တဏှာ သမုဒယော ဘဝေ။ နိရောဓော နာမ နိဗ္ဗာနံ၊ မဂ္ဂေါ လောကုတ္တရော မတော (ဘုံသုံးမျိုး၌ ဘဝလည်ပတ်ဖြစ်ရခြင်းသည် ဆင်းရဲ၏။ တဏှာသည် ယင်းလည်ပတ်မှု၏ ရင်းမြစ်ဖြစ်၏။ လည်ပတ်မှု ပြတ်စဲခြင်းကား နိဗ္ဗာန်တည်း။ နိဗ္ဗာန်ရောက်ကြောင်း လမ်းစဉ်ကား လောကုတ္တရာတည်း)'[၁၁၆] ဟူ၍ဖြစ်သည်။

ဗုဒ္ဓဝါဒစကြဝဠာအယူအဆတွင် နိဗ္ဗာန်သည် ဘဝဖြစ်စဉ်၌ မပါဝင်သောကြောင့် ဝိဘဝ (ဖြစ်တည်မှုမရှိခြင်း) အဖြစ်ယူဆသည်။ ဤ၌ ဘဝဟူသည် မွေးသေဖြစ်စဉ်ကို ဆိုလိုသည်။ သုံးဆယ့်တစ်ဘုံ၌ ပါဝင်ခြင်းမရှိတော့သော မည်သည့်သတ္တဝါမကိုမဆို ဝိဘဝ (ဖြစ်တည်မှုမရှိခြင်း) ၌ပါဝင်သူဟု ခေါ်သည်။ သို့တစေ နိဗ္ဗာန်သည် ဘဝပြတ်စဲသွားခြင်းကို မဆိုလိုပြန်ချေ၊ အကြောင်းမူ ယင်းသည် သုံးဆယ့်တစ်ဘုံ၌ မပါဝင်သော ထူးကဲမြင့်မြတ်သည့် အခြေအနေအဖြစ်ဖြင့် အမှန်တကယ် တည်ရှိသောကြောင့်ဖြစ်သည်။ သို့ဖြစ်၍ ဖြစ်တည်မှု (ဘဝ)အမြင်နှင့် မွေးသေပြတ်စဲမှု (နိဗ္ဗာန်) အမြင်တို့သည် ဤလေ့လာမှုခေါင်းစဉ်၏ ရှင်းလင်းမှုအတွက် အသုံးဝင်သည်။ သို့ရာတွင် 'အကယ်၍ သက်ရှိတို့အပါအဝင် အရာအားလုံးအိုခြင်းသေခြင်းသဘောရှိသည်ဆိုလျှင် ဘဝဖြစ်တည်လာသူမှာ မည်သူနည်း' ဟု စောကြောနိုင်သည်။

ဘဝဟူသည်နှင့်ပတ်သက်၍ အတိတ်အချိန် ယခင်ဘဝများတွင် ပြုလုပ်ခဲ့သော ကံ၏အကျိုးဆက်တည်ရှိနေသေးသရွေ့ဘဝဆက်လက်ဖြစ်တည်နေမည်ဖြစ်ပြီး တစ်ဘဝပြီးတစ်ဘဝ ပြောင်းနေမည်ဖြစ်သည်။ ယင်းကို ဘဝသံသရာဟုခေါ်သည်။ ပါဠိ ကမ္မ၊ သက္ကတ ကာရ်မ (အလုပ်)သည် သက်ရှိဖြစ်စဉ် လှုပ်ရှားလည်ပတ်ရာတွင် အရေးပါသော အခန်းမှပါဝင်သည်။ ဘဝဟူရာ၌ အခြေခံအားဖြင့် ကောင်းကံနှင့်သက်ဆိုင်သော ဘဝကောင်း (သုဂတိ)နှင့် မကောင်းကံနှင့်သက်ဆိုင်သော ဘဝဆိုး(ဒုဂ္ဂတိ)ဟု လားရာဂတိနှစ်မျိုးရှိသည်။ ယင်းနှစ်မျိုးကို နတ်ဘုံ(ဒေဝလောက)နှင့် ငရဲဘုံ(နိရယလောက) ဟုခေါ်နိုင်သည်။ ကမ္ဘာ့ဘာသာတရားဆိုင်ရာ ကျမ်းစာများ၏ရှုထောင့်မှဖြစ်စေ သို့မဟုတ် နှုတ်အစဉ်အလာရှုထောင့်မှပင်ဖြစ်စေ ဘာသာတရားအားလုံးနီးပါးမျှ နတ်ဘုံနှင့်ငရဲဘုံတို့ကို ဖော်ပြကြသည်။ ယင်းယူဆချက်ကို သက်ဆိုင်ရာဘာသာတရားတို့၏ရှုထောင့်ကို အခြေပြုလျက် နည်းမျိုးစုံဖြင့် တင်ပြကြသည်။ ဥပမာဆိုသော် ခရစ်ယန်နှင့် အစ္စလာမ်ယုံကြည်မှုတို့၌ ကောင်းကင်ဘုံနှင့်ငရဲဘုံမှာ ထာဝရ(ရောက်ပြီးလျှင်ပြန်မရွေ့)ဖြစ်ပြီး ဗုဒ္ဓဝါဒ၌မူ ထာဝရမဟုတ်ချေ။ ထို့ပြင် နတ်ဘုံဟူသည်မှာ အထူးသဖြင့် သူတော်ကောင်းတို့၏ နေရာဖြစ်ပြီး ငရဲမှာ လူမိုက်တို့၏ နေရာဖြစ်သည်။ သူတော်ကောင်းဟူသည် ကောင်းသောအလုပ်ကို လုပ်သူများဖြစ်ပြီး လူမိုက်ဟူသည် မကောင်းမှုဒုစရိုက်ကို ကျူးလွန်သူများဖြစ်သည်[၁၁၇]။

ဝင်စတန်ကိန်း (Winston King) နှင့် မဲလ်ဖို့ဒ်စပီရို (Melford Spiro) တို့အလိုအရ ကမ္မဗုဒ္ဓဝါဒနှင့် နိဗ္ဗာနဗုဒ္ဓဝါဒဟု ဗုဒ္ဓဝါဒပုံစံ နှစ်မျိုးရှိသည်။ ကမ္မဗုဒ္ဓဝါဒီတို့က ကောင်းသောအလုပ်သည် ဘဝကောင်းသို့ရောက်ရှိစေသည်ဟု ယုံကြည်ပြီး နိဗ္ဗာနဗုဒ္ဓဝါဒီတို့ကမူ ကမ္မဌာန်းဘာဝနာရှုမှတ်ခြင်းသည် ဘဝသံသရာမှ လွတ်မြောက်စေသည်ဟု ယုံကြည်ကြသည်[၁၁၈]။

---

[၁၁၅] Bhikkhu Bodhi, *The Connected Discourse of the Buddha*,1239.

[၁၁၆] Ab-S, 129.

[၁၁၇] K. Sri Dhammananda, *The Buddhist Concept of Heaven and Hell* (Malaysia: Buddhist Missionary Society, 2000), 1-4.

[၁၁၈] Harvey B. Aronson, "The relationship of the Karmic to Nirvanic in Theravada Buddhism." *Journal of Religious Ethics 7* (1979), 28.

သို့ရာတွင် ဤကျမ်းပြုသူ၏အလိုမှ တွေးခေါ်မြော်မြင်မှုနှင့် လက်တွေ့ကျင့်စဉ်နှင့်အညီ ၁) ကမ္မဗုဒ္ဓဝါဒ ၂) ဈာနဗုဒ္ဓ ၃) နိဗ္ဗာနဗုဒ္ဓဝါဒဟု ဗုဒ္ဓဝါဒပုံစံ သုံးမျိုးရှိသင့်သည်။ ကမ္မဗုဒ္ဓဝါဒီတို့က လူ့ဘုံနှင့်နတ်ဘုံကဲ့သို့သော သုဂတိဘဝတွင် ပြန်လည်မွေးဖွားနိုင်ရန် မကောင်းမှုကို ရှောင်ကြဉ်ပြီး ကောင်းမှုကို ပြုလုပ်ရန် ကြိုးပမ်းကြသည်။ ဈာနဗုဒ္ဓဝါဒီတို့က ဗြဟ္မလောကဟုခေါ်သည့် ဗြဟ္မာ့ဘုံကဲ့သို့သော ငြိမ်းချမ်းသည့်ဘုံဌာန၌ မွေးဖွားရန် သမထကမ္မဋ္ဌာန်းကို အားထုတ်ကြသည်။ ဈာနဗုဒ္ဓဝါဒကို ကျင့်သုံးသူများသည် ရူပ အရူပဟူသော ဗြဟ္မာ့ဘုံတို့၌ ပြန်လည်မွေးဖွားခွင့်ရရှိခြင်းကို မှန်ကန်ကောင်းမြတ်သော မင်္ဂလာအဖြစ် ထင်မှတ်ကြသည်။

သို့ရာတွင် နိဗ္ဗာနဗုဒ္ဓဝါဒီတို့ကမူ ကမ္မနှင့် ဈာနဗုဒ္ဓဝါဒီတို့၏ ယူဆချက်အပေါ် အားနည်းချက်ကို မြင်ကြသည်။ ၎င်းတို့ ခံစားရသည့်သုခမှာ အမှန်ပင် တန်ဖိုးရှိသည်မှာမှန်၏၊ သို့တစေ ယင်းသုခတို့၌ အားနည်းချက်များစွာ ရှိနေသည်။ အကြောင်းမူ အကယ်၍ ၎င်းတို့အနေဖြင့် အတိုင်းအဆမဲ့ ပျော်ရွှင်လိုမှုဆန္ဒနှင့် မသိမှုအဝိဇ္ဇာ ဆိုလိုသည်မှာ အဝိဇ္ဇာအဖော်သဟဲပြုသည့် တဏှာကြောင့် အကုသိုလ်ကို ပြုမိခြင်းဖြင့် မှားယွင်းစွာဖြစ်ဘိမူ ယင်းတို့၏ မကောင်းမှုသည် သာယာကောင်းမွန်သည့်ဘဝတို့၌ ပျော်ရွှင်ခံစားခွင့် ပေးလိမ့်မည်မဟုတ်တော့သောကြောင့်ဖြစ်သည်။ ကံမကောင်းစွာဖြင့် ၎င်းတို့၏ အကုသိုလ်မှုများသည် ငရဲ သို့မဟုတ် တိရစ္ဆာန်နှင့် ပြိတ္တာတို့အပါအဝင် အခြားမကောင်းသောဘဝတို့၌ ပြန်လည်မွေးဖွားခြင်းသို့ ဦးတည်သွားသည်။ ထို့ပြင် နတ်ပြည်ချမ်းသာ၌ ပျော်ရွှင်မှုမှာ အမှန်တကယ်ထူးခြားဆန်းကြယ်သော်လည်း အိုခြင်း သေခြင်း နာခြင်းနှင့်မူ မကင်းလွတ်နိုင်ချေ။ ယင်းအားနည်းချက်တို့ကို ကြည့်လျက် နိဗ္ဗာနဗုဒ္ဓဝါဒီတို့သည် သုံးဆယ့်တစ်ဘုံ၌ တည်ရှိသည့် ဒုက္ခဟူသော မနှစ်သက်ဖွယ် ဘဝသံသရာဆင်းရဲမှ လွတ်မြောက်မှုကို ရရှိရန် ကြိုးပမ်းကြသည်။

**သက်ရှိတို့အတွက် ဘုံဌာနအယူအဆ**

ဗုဒ္ဓဝါဒစကြဝဠာအယူအဆသည် စိတ်ပညာနှင့် ခန္ဓာဗေဒဆိုင်ရာ ဘဝအတွေးအမြင်နှင့် ဆက်နွယ်မှုရှိသည်။ သို့ရာတွင် ဗုဒ္ဓဝါဒအယူအဆသည် မမြင်နိုင်သောသတ္တဝါတို့သည် စိတ်တွင်သာတည်ရှိ၏ဟူသောအယူအဆကို ငြင်းဆိုသည်။ နိဗ္ဗာန်အကြောင်း မည်သို့ဆိုနိုင်သနည်း။ နိဗ္ဗာန်သည်လည်း စိတ်ထဲမှာပင် တည်ရှိသည်ဟု ဆိုနိုင်ပါသလော။ မမြင်နိုင်သောသက်ရှိများနှင့် ပတ်သက်သည့် အတွေ့အကြုံမရှိသူများအဖို့ သံသယဖြစ်ဖွယ်များစွာရှိသည်။ သို့ဖြစ်၍ ဗုဒ္ဓဝါဒစကြဝဠာအယူအဆကိုလေ့လာရန်နှင့် သက်ရှိအားလုံး၏ ဘဝဖြစ်တည်မှုနှင့် စကြဝဠာတို့ ဆက်နွယ်ပတ်သက်ပုံ အရေးပါမှုကို နားလည်ရန်လိုသည်။ ဗုဒ္ဓဝါဒစကြဝဠာအယူအဆအရ သက်ရှိတို့၏ဘဝကို အခြေခံအားဖြင့် ဘုံဌာနသုံးမျိုး ခွဲခြားနိုင်သည်။ ယင်းတို့မှာ -

၁) ကာမဘုံ၊ ကာမသုဂတိ ခုနစ်ဘုံနှင့် အပါယ်လေးဘုံ
၂) ရူပဘုံ၊ ရုပ်သဏ္ဌာန်နှင့် နာမ်ရှိ ရူပဆယ့်ခြောက်ဘုံ
၃) အရူပဘုံ၊ ရုပ်သဏ္ဌာန်မဲ့ နာမ်သာရှိ အရူပလေးဘုံ တို့ဖြစ်သည်[၁၁၉]။

အထက်ပါဖော်ပြချက်မှာ ဤသုတေသနပြုမှုအပေါ် နောက်ထပ်အသေးစိတ်ဖော်ပြမှုအတွက် ဗုဒ္ဓဝါဒစကြဝဠာအယူအဆအနှစ်ချုပ်ဖြစ်သည်။ အချို့မှာ နတ်ဘုံ ငရဲဘုံကဲ့သို့သော ဘုံဌာနများနှင့် နိဗ္ဗာန်တို့ကို မျက်စိဖြင့်မတွေ့မြင်နိုင်သောကြောင့် ယင်းအစစ်အမှန်တရားများမှာ စိတ်ထဲတွင်သာရှိသည်ဟု ယူဆကြသည်။ ဤအချက်၌ ဗုဒ္ဓဝါဒအတွင်းမှ ဘဝတည်ရှိမှုယူဆချက် အခြေခံကို ရှင်းပြသင့်သည်။ ရှေးဦးစွာ သမ္မုတိသစ္စာနှင့် ပရမတ္ထသစ္စာနှစ်မျိုးတို့၏ ခြားနားချက်ကို နားလည်အောင် ကြိုးပမ်းရမည်ဖြစ်သည်။

သမ္မုတိသစ္စာဟူသည်ကို နေ့စဉ်ဘဝ ပေါင်းသင်းဆက်ဆံရေး၌ ယေဘုယျအသုံးပြုသည့် အမှန်တရားအဖြစ် ယူဆသည်။ သမ္မုတိသစ္စာကို အသုံးပြုလျက် ခေါ်ဝေါ်ပြောဆိုမှုပုံစံများစွာရှိသည်။ မိန်းမ၊ ယောက်ျား၊ ခန္ဓာကိုယ်၊ အိပ်ရာ၊ ထိုင်ခုံ စသည်အားလုံးမှာ သမ္မုတိသစ္စာ၏ ဥပမာများဖြစ်ကြသည်။ ယင်းတို့အားလုံးမှာ စိတ်၊ ဖဿ၊ ပထဝီ၊ အာပေါဟူသော အမည်နာမများကဲ့သို့ အစစ်အမှန်တည်ရှိတရားများ မဟုတ်ကြချေ။ သို့ဖြစ်၍ ယင်းအမည်များနှင့် ယင်းတို့ဖော်ပြသည့် အရာများကို ခေါ်ဝေါ်သုံးစွဲရုံမျှသာ အရေးပါသဖြင့် သမ္မုတိသစ္စာ အများသုံးအတွက်မှန်ကန်သော ပုံစံများဟုခေါ်သည်[၁၂၀]။

ပရမတ္ထသစ္စာဟူသည် ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏဟူသော ခန္ဓာငါးပါးကဲ့သို့သော ဓမ္မသဘာဝတို့၏ အနှစ်သာရကို ဖော်ပြရန်အသုံးပြုသော အမှန်တရားဖြစ်သည်။ မဖောက်ပြန်သော အမှန်တရားဟူသည် ယင်းသဘာဝတရားတို့ကို ရည်ညွှန်းသည်။ ပရမတ္ထသစ္စာဟူသည် စုပေါင်းအမည်တစ်ခုမျှသာမဟုတ်ဘဲ ဗုဒ္ဓဝါဒကျမ်းဂန်များအရ အမှန်တကယ်

---

၁၁၉ Ac-Ab, 72-73.

၁၂၀ Ledi Sayadaw, *The Manulas of Buddhism* (Malaysia: SBVMS Publication, 1994), 188.

တည်ရှိသော အရာများကို ရည်ရွယ်ခြင်းဖြစ်သည်။ ဤ၌ လယ်တီဆရာတော်က 'သမ္မုတိသစ္စာသည် မှားယွင်းမှုကို တားဆီးပြီး ပရမတ္ထသစ္စာသည် စိတ်ကူးယဉ်မှားယွင်းမှုကို ကာကွယ်သည်'ဟု ညွှန်ပြခဲ့သည်[၁၂၁]။ ယင်းအမှန်တရားနှစ်မျိုးနှင့် ပတ်သက်၍ သက်ရှိတို့တည်ရှိမှုနှင့် နိဗ္ဗာန်တည်ရှိမှုသည် ယင်းခေါင်းစဉ်နှစ်မျိုးအောက်တွင် အသီးသီးပါဝင်ကြသည်။

ဗုဒ္ဓဝါဒစာပေအရ သမ္မုတိသစ္စာနှင့် ပရမတ္ထသစ္စာ အမှန်တရားနှစ်ခုသည် ပါဠိတော်ကျမ်းဂန်များ၌ တိုက်ရိုက်မလာရှိဘဲ အဋ္ဌကထာ ဋီကာကျမ်းများ၌သာ တွေ့ရသည်[၁၂၂]။ သို့ရာတွင် အဋ္ဌကထာကျမ်းများ၌ဖော်ပြသည့် နီတတ္ထ (တိုက်ရိုက်အဓိပ္ပာယ်)နှင့် နေယျတ္ထ(သွယ်ဝိုက် သို့မဟုတ် တင်စား) အဓိပ္ပာယ်ဟူသော အမှန်တရားများမှာ လက်တွေ့အသုံးဝင်လှသည်[၁၂၃]။ သို့ရာတွင် ဗုဒ္ဓရှင်တော်မြတ်သည် မိမိ၏တရားတော်များ၌ ပရမတ္ထသစ္စာနှင့်ပတ်သက်သော ဓမ္မအနှစ်သာရကို နားလည်နိုင်စေရန် ပရိသတ်အား တရားဒေသနာ ဟောကြားတော်မူသောအခါ သမ္မုတိသစ္စာကို အသုံးပြုသည်သာ ဖြစ်သည်။ ဤအချက်နှင့်ပတ်သက်၍ 'သမ္မုတိသစ္စမောက္ခမေ၀ ပရမတ္ထသစ္စာဓိဂမော ဟောတိ (သမ္မုတိသစ္စာကိုအမှီပြု၍သာလျှင် ပရမတ္ထသစ္စာကို ထိုးထွင်း၍ သိမြင်နိုင်၏)' ဟုဖော်ပြသည်[၁၂၄]။

သမ္မုတိသစ္စာအမြင်ရှုထောင့်မှ သက်ရှိတို့သည် အမှန်ပင် တည်ရှိသည်။ သို့ရာတွင် တစ်စုံတစ်ရာကို တည်ရှိ၏ဟုဆိုနိုင်ရန် ယင်းကို တစ်နည်းနည်းဖြင့် သက်သေပြရန် လိုအပ်သည်။ ဗုဒ္ဓဝါဒပညာရှင်များသည် 'တည်ရှိခြင်း' ဟူသည် 'အကြောင်းကြောင့် ဖြစ်ခြင်း' 'ပြုပြင်ခံရခြင်း' 'ဖန်တီးခံရခြင်း' 'တစ်စုံတစ်ခုကို အမှီသဟဲပြုပြင်း' ဟု နားလည်ရန် ကြိုးပမ်းခဲ့ကြသည်[၁၂၅]။ ယင်းသည် သက်ရှိတို့တည်ရှိမှုကို အသိအမှတ်ပြုရန် ဗုဒ္ဓဝါဒအတွေးအမြင် အခြေခံဖြစ်သည်။ သို့ရာတွင် ယင်းယူဆချက်ကို သမ္မုတိသစ္စာအတွက်သာ အသုံးပြုပြီး ပရမတ္ထသစ္စာအတွက် အသုံးမပြုချေ။

ဤဖော်ပြချက်၌ ဘ၀တည်ရှိမှု အယူအဆများသည် သက်ရှိများနှင့် မတ (သေခြင်း) အမတ (မသေခြင်း)တို့နှင့် သက်ဆိုင်သဖြင့် သမ္မုတိသစ္စာနှင့် ပိုမိုပတ်သက်သည်။ သေခြင်းသဘာ၀သည် သက်ရှိတို့၏ ရှောင်လွှဲမရသောအရာ ဖြစ်သည်။ သက်ရှိမျိုးကွဲ များစွာရှိသော်ငြားလည်း ဒိဋ္ဌသတ္တ (မြင်ကောင်းသတ္တဝါ)နှင့် အဒိဋ္ဌသတ္တ (မမြင်ကောင်းသတ္တဝါ) ဟု အုပ်စုနှစ်ခု ခွဲခြားနိုင်သည်။ ဗုဒ္ဓဝါဒစကြဝဠာအယူအဆသည် သုံးဆယ့်တစ်ဘုံကို အခြေခံသည့် သက်ရှိပုံစံအမျိုးမျိုးကို အသေးစိတ်ဖော်ပြရန် ကြိုးပမ်းခြင်းဖြစ်သည်။ ဗုဒ္ဓဝါဒအစဉ်အလာတွင် မြင်ကောင်းမမြင်ကောင်းသော သက်ရှိတို့ပါဝင်သည့် ဖော်ပြပြီး ဘုံဌာနသုံးမျိုးကို အသုံးပြုလေ့ရှိသည်။ သို့တစေ သုံးဆယ့်တစ်ဘုံကို ဤကျမ်း၌ အသုံးပြုရာတွင် သက်ရှိ၊ သေခြင်းနှင့် သေခြင်းမဲ့အခြေအနေတို့၏ ပုံသဏ္ဍာန်ကို စိတ်ပညာအမြင်ဖြင့်ဖော်ပြမှု ပိုမိုရှင်းလင်းလိမ့်မည်ဖြစ်သည်။ အဘိဓမ္မတ္ထသင်္ဂဟပါဠိကျမ်းနှင့်အညီ သုံးဆယ့်တစ်ဘုံရှိ ပုဂ္ဂိုလ်အသီးသီးနှင့် နိဗ္ဗာန်တို့ ဆက်နွယ်နေပုံကို သရုပ်ဖော်နိုင်ရန် အောက်ပါ ဇယားပုံစံကို ဖော်ပြပါသည်။

ဇယား ၁

**ထေရဝါဒဗုဒ္ဓဝါဒအလို နိဗ္ဗာန်နှင့် သုံးဆယ့်တစ်ဘုံ**



[၁၂၁] Ibid, 189.

[၁၂၂] Di-N-A Vol. 1, 306; Sa-N-A Vol. 1, 72; An-N-A Vol. 1, 74; and It-A, 78.

[၁၂၃] Baddanta Nyanatiloka-thera, 147.

[၁၂၄] Ne-A, 100.

[၁၂၅] Cheng, 19.

၃၁။ နေဝသညာနာသညာယတန
၃၀။ အာကိဉ္စညာယတန
၂၉။ ဝိညာဏဉ္စာယတန
၂၈။ အာကာသာနဉ္စာယတန

၂၇။ အကနိဋ္ဌာ
၂၆။ သုဒဿီ
၂၅။ သုဒဿာ
၂၄။ အတပ္ပာ
၂၃။ အဝိဟာ
၂၂။ အသညသတ္တာ
၂၁။ ဝေဟပ္ဖလာ

၁၈။ သုဘကိဏှာ　၁၉။ အပ္ပမာဏသုဘာ　၂၀။ ပရိတ္တသုဘာ
၁၅။ အာဘဿရာ　၁၆။ အပ္ပမာဏာဘာ　၁၇။ ပရိတ္တာဘာ
၁၄။ မဟာဗြဟ္မာ　၁၃။ ဗြဟ္မပုရောဟိတာ　၁၂။ ဗြဟ္မပါရိသဇ္ဇာ

၁၁။ ပရနိမ္မိတဝသဝတ္တိ
၁၀။ နိမ္မာနရတိ
၉။ တုသိတာ
၈။ ယာမာ
၇။ တာဝတိံသာ
၆။ စာတုမဟာရာဇိကာ

၅။ လူ့ဘုံ

၄။ အသူရကာယ်
၃။ ပြိတ္တာ
၂။ တိရစ္ဆာန်
၁။ ငရဲ

**မှတ်ချက်**။ ။ အဘိဓမ္မာကျမ်းဂန်များအရ ဤစကြဝဠာအတွင်းမှ သုံးဆယ့်တစ်ဘုံနှင့် ဤလောက၏ အပြင်ဘက်ရှိ နိဗ္ဗာန်အခြေအနေကို လောကီအကြောင်းတရား၏ လွှမ်းမိုးမှုမရှိဘဲ ထူးကဲမြင့်မြတ်မှုသဘာဝ သက်သက်အဖြစ် ကောင်းစွာ မြင်နိုင်သည်။ ဤသို့ဖြင့် ထူးကဲမြင့်မြတ်သောစိတ်ကို အဘိဓမ္မာတွင် လောကုတ္တရာစိတ်ဟု အမည်နာမပြုသည်။ နိဗ္ဗာန် (သန္တိသဘာဝ)ကို လောကုတ္တရာစိတ်ဖြင့် သိမြင်နိုင်သည်။ အထက်ပါဇယား၌ ဤစကြဝဠာ၌ အသီးသီး အဆင့်ရှစ်ဆင့်ရှိသည်။ အောက်ခြေမှ အထက်သို့ ပထမအဆင့်ကို ဒုက္ခခံစားရသည့် ဒုဂ္ဂတိဘုံအဆင့်အဖြစ် သတ်မှတ်သည်။ ဒုတိယအဆင့်ကို သုဂတိဘူမိ၌ ပါဝင်သည့် လူ့ဘုံအဖြစ် အမည်ပြုသည်။ အမှန်သော် လူ့ဘုံမှစ၍ အထက်ဘုံအားလုံးကို သုဂတိဘူမိဟု ခေါ်သည်။ တတိယအဆင့်ကို ဒေဝဘူမိ (နတ်ပြည် ၆ ထပ်) ဟု ခေါ်သည်။ ထိုအတူပင် စတုတ္ထအဆင့်၊ ပဉ္စမအဆင့်၊ ဆဋ္ဌမနှင့် သတ္တမအဆင့်တို့ကို ရူပဗြဟ္မာဘူမိ (ရူပ ၁၆ ဘုံ)ဟု ခေါ်သည်။ အဋ္ဌမအဆင့်ကို အရူပဗြဟ္မာဘူမိ (အရူပ ၄ ဘုံ)ဟု ခေါ်သည်။ ဒုတိယအဆင့်မှ အဋ္ဌမအဆင့်ထိ ဘုံဌာနများ၌ မွေးဖွားသူများအနက် ဒွိဟိတ်နှင့် အပါယ်ဘုံပုဂ္ဂိုလ်

မဟုတ်သူများမှာ နိဗ္ဗာန်ကို ဤမျက်မှောက်ဘဝ၌ ရနိုင်ခြေရှိသည်။ သို့ရာတွင် အောက်ဆုံးအဆင့် အပါယ်ဘုံဟုခေါ်သည့် ဒုဂ္ဂတိဘုံ၌ မွေးဖွားသူများမှာ ဤမျက်မှောက်ဘဝ၌ နိဗ္ဗာန်ကိုသိမြင်ရန် အခွင့်အလမ်းမရှိချေ။ သို့တစေ ယင်းတို့သည် နောင်ဘဝတွင် ရနိုင်ရန်ဖြစ်နိုင်ခြေရှိသည်။ အမှန်စင်စစ် နိဗ္ဗာန်သည် ဤစကြဝဠာရှိဘုံအဆင့်အားလုံး၏ ဟိုဘက်တွင်ရှိသည်။ အကြောင်းမူ ယင်းသည် မွေးသေမရှိသောကြောင့်တည်း။ နိဗ္ဗာန်ကို ယင်းဘုံဌာနအားလုံး၏ အထက်တွင် တွေ့မြင်ရသော်လည်း ယင်းဘုံအဆင့်အားလုံး၏ အပေါ်၌ရှိသော ဘုံဌာနတစ်ခုအဖြစ် မယူဆချေ။ အမှန်ကား နိဗ္ဗာန်သည် ရုပ်ပိုင်းအရရော စိတ်ပိုင်းအရပါ သုံးဆယ့်တစ်ဘုံမှ လွတ်သောအရာဖြစ်သည်။ သို့ဖြင့် နိဗ္ဗာန်ကို ထူးကဲမြင့်မြတ်သော တရားဓမ္မအဖြစ် ဖော်ပြခြင်းဖြစ်သည်[၁၂၆]။

အထက်ပါ သုံးဆယ့်တစ်ဘုံအကြောင်း ရှင်းပြချက်မှာ ထေရဝါဒအဘိဓမ္မာကျမ်းဂန်များကို အခြေပြု၍ အသေးစိတ်ဖော်ပြခြင်းဖြစ်သည်။ မဟာယာနကျမ်းဂန်အချို့လည်း ဘဝအမျိုးအစားများကို ဖော်ကြသည်။ သို့ရာတွင် စကြဝဠာတည်ဆောက်ပုံနှင့် ဘုံဌာနအရေအတွက်ဖြစ်စဉ်မှာ ထေရဝါဒနှင့် ကွဲပြားသည်။ မဟာယာနဗုဒ္ဓဝါဒတွင် ဘုံဌာနကို လေးဆယ့်တစ်ဘုံ ဖော်ပြသည်[၁၂၇]။ သို့ရာတွင် ဗုဒ္ဓဝါဒအစဉ်အလာနှစ်ခုလုံးသည် သက်ရှိသတ္တဝါအားလုံးသည် ဘဝကိုတပ်မက်မှုတဏှာကြောင့် ဘဝသံသရာတွင် ကြိမ်ဖန်များစွာ ကျင်လည်ရသည်ဟူသောအမြင်ကို လက်ခံကြသည်။ နောက်ဆုံး ၎င်းတို့အနေဖြင့် ဘဝကို မတပ်မက်သောအခါတွင် နိဗ္ဗာန်ကိုရရှိကြလိမ့်မည်။

သတ္တဝါတို့သည် အဘယ်ကြောင့် ရည်ရွယ်ချက်မရှိဘဲ ယင်းဘဝသံသရာတွင် လည်နေကြရသနည်း။ အကြောင်းမှာ ကမ္မနိယာမ၏ နှိုးဆွမှုကြောင့်ဖြစ်သည်။ သတ္တဝါတို့သည် ယခင်ဘဝတွေကရော ဤပစ္စုပ္ပန်ဘဝတွင်ပါ ကိုယ်နှုတ်နှလုံးအားဖြင့် ကောင်းမှုမကောင်းမှုတို့ကို ပြုလုပ်ပြီးဖြစ်ကြသည်။ သတ္တဝါတို့သည် ပဋိစ္စသမုပ္ပါဒ (ကြောင်းကျိုးဖြစ်စဉ်) ဒေသနာတော်အရ တဏှာနှင့်အဝိဇ္ဇာကြောင့် ထိုထိုဘဝတွင် မရပ်မနား မွေးဖွားကြရသည်။ အမှန်စင်စစ် သတ္တဝါတစ်ယောက် ကွယ်လွန်သောအခါ ၎င်းအား နောက်ဘုံဌာနတစ်ခု၌ ပြန်လည်မွေးဖွားရန် ကမ္မ(ကိုယ်နှုတ်နှလုံးအားဖြင့် ပြုလုပ်ပြီးဖြစ်သည့် ကောင်းမှုမကောင်းမှု) စွမ်းအားက တွန်းအားပေးသည်။

အထက်တွင် ဖော်ပြပြီးဖြစ်သည့်အတိုင်း ဘုံဘဝယူဆချက်နှင့်ပတ်သက်၍ ဘဝပုံစံများသည် ကြောင်းကျိုးဖြစ်စဉ်၊ ပြုပြင်စီရင်အပ်သော အကျိုးဆက်၊ အားလုံး တစ်ခုအပေါ်တစ်ခု တည်မှီမှုတို့နှင့် ဆက်နွယ်သည်။ ဘဝနှင့်သေခြင်းသည် တစ်ခုနှင့်တစ်ခု ဆက်စပ်နေသောကြောင့် ဤဘဝသတ္တဝါများနှင့် နောက်ဘဝသတ္တဝါများအကြား ကြောင်းကျိုးဆက်နွယ်မှုကို စုံစမ်းလေ့လာရန်လိုသည်။ ဗုဒ္ဓဝါဒတွင် ဤဘဝမှ နောင်ဘဝသို့ ကူးပြောင်းသွားခြင်းကို ဂတိဟုခေါ်သည်။ ယင်းသည် သွားခြင်း သို့မဟုတ် ကူးပြောင်းသွားခြင်းဟု အဓိပ္ပာယ်ရ၏။ ကူးပြောင်းသွားခြင်းဟူသည် အတ္တလိပ်ပြာကောင် ကူးပြောင်းသွားခြင်းမဟုတ်ဘဲ ဘဝကွင်းဆက်သာဖြစ်သည်။ ဂတိဟူသည် ပုထုဇ္ဇနဂတိ (သာမန်ပုထုဇဉ်တစ်ယောက်၏ သွားရာဂတိ)နှင့် အရိယဂတိ (အရိယာပုဂ္ဂိုလ်တို့၏ဂတိ)ဟု အခြေခံအားဖြင့် နှစ်မျိုးရှိသည်။ ပုထုဇ္ဇနကိုလည်း ကလျာဏပုထုဇ္ဇန (ကျွတ်ထိုက်ပုထုဇ္ဇဉ်)နှင့် အန္ဓပုထုဇ္ဇန (မကျွတ်ထိုက်ပုထုဇဉ်)ဟု နှစ်မျိုးခွဲပြန်သည်။ ဗုဒ္ဓဝါဒအလိုအရ ဗောဓိဉာဏ်ကို အပြည့်အဝမရရှိသေးသော ပုဂ္ဂိုလ်များသည် ယင်းသုံးဆယ့်တစ်ဘုံအနက် တစ်ခုခုသို့ သွားရောက်ရလိမ့်မည်ဖြစ်ပြီး အပြည့်အဝ ဗောဓိဉာဏ်ကိုရရှိသော ပုဂ္ဂိုလ်များမှာမူ ဤဘဝပြီးနောက် နိဗ္ဗာန်သို့ ဝင်ရောက်မည်ဖြစ်သည်။

ဤစိတ်ပိုင်းဘဝဖော်ပြချက်တွင် ပုထုဇဉ်ပုဂ္ဂိုလ်များသည် ယင်းသုံးဆယ့်တစ်ဘုံတွင် ၎င်းတို့၏သွားရာဂတိမှာ မသေချာချေ။ ရဟန္တာပုဂ္ဂိုလ်များမှတစ်ပါး မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရရှိပြီးသူများ သို့မဟုတ် အသိဉာဏ်ရှစ်ဆင့်တွင် ပထမဆုံးသောတာပတ္တိမဂ်ဉာဏ်ကို ရရှိပြီးပုဂ္ဂိုလ်များကား အရိယဘူမိဟုခေါ်သည့် သုဂတိဘုံသို့ရောက်ရန် သေချာသည်။ သို့ရာတွင် ဗောဓိဉာဏ်ကို ရရှိပြီးသူများမှာ ဤဘဝမှကွယ်လွန်ပြီးနောက် နိဗ္ဗာန်သို့ရောက်မည်ဖြစ်သည်။ ဤအချက်၌ လယ်တီဆရာတော်က အောက်ပါအတိုင်း ဖော်ပြသည် -

> မိမိအလိုရှိသည့် မည်သည့်ဘဝမျိုးကိုမဆို မကူးပြောင်းနိုင်။ မိမိ၏ အတိတ်ကံပစ်ချသည့်အတိုင်း သုံးဆယ့် တစ်ဘုံအတွင်း တစ်ခုခုသို့ကျရောက်ရ၏။ ဥပမာဆိုသော် အုန်းသီး သို့ဟုတ် ထန်းသီးကြွေကျသောအခါ မည်သည့်နေရာတွင် ကျလိမ့်မည်ဟု ကြိုတင်မဆိုနိုင်သကဲ့သို့တည်း။ ထိုအတူပင် ပုထုဇဉ်တစ်ယောက် သေလွန်ပြီးနောက် ၎င်း၏ ဘဝသစ်သည် မည်သည့်နေရာတွင် ဖြစ်မည်ဆိုသည်ကို ကြိုတင်၍မပြောနိုင်ချေ။ ဘဝကိုရရှိကြသည့် သတ္တဝါ

[၁၂၆] The Table is based on Ab-S, 73-74 and its commentary: Ab-T, 161-164.

[၁၂၇] Vasubandhu *Abhidharmakosabhasyam* Vol. II, 365-366.

တိုင်းသည် ရှောင်လွှဲမရဘဲ သေခြင်းသဘာဝဆိုးကို စောင့်နေကြရပြီး သေလွန်ပြီးနောက်၌လည်း ဘဝတစ်ခုသို့ ပျက်စီး၍ကျရောက်မည် သေချာ၏[၁၂၈]။

ပုထုဇဉ်ပုဂ္ဂိုလ်တို့သည် ၎င်းတို့၏ပြုမူလုပ်ဆောင်ချက်များနှင့်အညီ သုံးဆယ့်တစ်ဘုံအတွင်း တစ်ခုတွင် ပြန်လည်မွေးဖွားရမည်ဖြစ်သည်။ သို့ရာတွင် သံယုတ္တနိကာယ်၊ နခသိခသုတ်အရမူ သတ္တဝါတို့သည် များသောအားဖြင့် အပါယ်လေးဘုံ၌ မွေးဖွားကြသည်။ အကြောင်းမူ သတ္တဝါအများစုမှာ ကောင်းမှုထက် မကောင်းမှုကို အပြုများကြသောကြောင့်ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်က သက်ရှိသတ္တဝါတို့၏ ဖြစ်ရာဘဝအခြေအနေကို လက်သည်းခွံပေါ်၌ သဲအချို့ကိုတင်ပြပြီး ဥပမာပြုခဲ့သည်။ ဗုဒ္ဓက အပါယ်လေးဘုံ၌ မွေးဖွားသော သတ္တဝါတို့သည် လူ့ပြည်နှင့် နတ်ဗြဟ္မာပြည်တို့၌ မွေးဖွားသော သတ္တဝါတို့ထက် များပြားကြောင်း ညွှန်ပြခဲ့သည်။ လက်သည်းခွံပေါ်မှ အနည်းငယ်မျှသောသဲပွင့်သည် စကြဝဠာအားလုံးရှိသဲပွင့်များထက် နည်းပါးသကဲ့သို့တည်း။ အကြောင်းမူ ဝိနိပါတနဂတိဆိုးကြောင့် ဆိုလိုသည်မှာ ပျက်စီးခြင်း သေလွန်ပြီးနောက်ဘဝအမျိုးမျိုးတွင် ဖြစ်နိုင်ခြေများခြင်းကြောင့် ဖြစ်သည်[၁၂၉]။

အဘိဓမ္မတ္ထသင်္ဂဟကျမ်း၌ ယင်းကျမ်းပြုဆရာက ပုဂ္ဂိုလ်အသီးသီးနှင့် ယင်းတို့ဖြစ်နိုင်ခြေရှိသည့် ဘဝများအကြား ဆက်စပ်မှုကို ဖော်ပြခဲ့သည်။ ဗုဒ္ဓဝါဒကျမ်းဂန်များသည် ပုဂ္ဂိုလ်တစ်ယောက် မည်သည့်ဘုံအဆင့် မည်သည့်ဘုံမျိုးကို သွားနိုင်သည်ဆိုသည်ကို ထိုပုဂ္ဂိုလ်ပိုင်ဆိုင်သည့် စိတ်ကိုအခြေပြု၍ အတိအကျဖော်ပြကြသည်။ အဘိဓမ္မတ္ထသင်္ဂဟကျမ်းအလိုအရ မိမိလုပ်ဆောင်ချက် ကောင်းကံမကောင်းကံ သို့မဟုတ် ကမ္မဋ္ဌာန်ဘာဝနာပွားများခြင်းဖြင့်ရရှိသည့် ဉာဏ်ထူး မဂ်ဉာဏ် ဖိုလ်ဉာဏ်တို့နှင့်အညီ အနာဂတ်ဘဝတစ်ခုသို့ ဦးတည်သော ပုဂ္ဂိုလ်ဆယ့်နှစ်မျိုးရှိသည်။

ဇယား ၂

## ပုဂ္ဂိုလ် ဆယ့်နှစ်ယောက်နှင့် ၎င်းတို့၏ နိဗ္ဗာန်နှင့်ဆက်သွယ်မှု

(၁၂)    ဒု    သု    နတ်ပြည် ၆    ရူပ ၁၆    အရူပ ၄    နိဗ္ဗာန

ပုဂ္ဂိုလ်    အပ    လူ    စာတု ကြွင်းနတ် ၅    ရူပ ၁၀    အသည    သုဒ္ဓါ    က    ခ    ဂ    ဃ    င    စ

[၁၂၈] Ledi Sayadaw, *The Manuals of Buddhism*, 7-8.
[၁၂၉] Sa-N Vol. II, 120.

| | | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| ဒုအဟိတ် | + | | | | | | | | | | | + |
| သုအဟိတ် | | + | + | | | | | | | | | + |
| ဒွိဟိတ် | | + | + | + | | | | | | | | + |
| တိဟိတ် | | + | + | + | + | | + | | | | | + |
| သောမဂ် | | + | + | + | + | | | | | | + | |
| သောဖိုလ် | | + | + | + | + | | + | | | | + | |
| သကမဂ် | | + | + | + | + | | + | | | + | | |
| သကဖိုလ် | | + | + | + | + | | + | | | + | | |
| နာမဂ် | | + | + | + | + | | + | | + | | | |
| နာဖိုလ် | | + | + | + | + | + | + | | + | | | |
| ရမဂ် | | + | + | + | + | + | + | + | | | | |
| ရဖိုလ် | | + | + | + | + | + | + | + | | | | |

**အတိုကောက်**

ဒုအဟိတ် = ဒုဂ္ဂတိအဟိတ်ပုဂ္ဂိုလ် (အပါယ်လေးဘုံရှိ အဟိတ်ပုဂ္ဂိုလ်)။
သုအဟိတ် = သုဂတိ အဟိတ်ပုဂ္ဂိုလ် (ကာမဘုံရှိအဟိတ်ပုဂ္ဂိုလ်)။
ဒွိဟိတ် = ဒွိဟိတ်ပုဂ္ဂိုလ် (အလောဘ၊ အဒေါသဟိတ်နှစ်ခုရှိပုဂ္ဂိုလ်)။
တိဟိတ် = တိဟိတ်ပုဂ္ဂိုလ် (အလောဘ၊ အဒေါသ၊ အမောဟ ဟိတ်သုံးပါးရှိပုဂ္ဂိုလ်)။
သောမဂ် = သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်။
သောဖိုလ် = သောတာပတ္တိဖလဋ္ဌာန်ပုဂ္ဂိုလ်။
သကမဂ် = သကဒါဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်။
သကဖိုလ် = သကဒါဂါမိဖလဋ္ဌာန်ပုဂ္ဂိုလ်။
နာမဂ် = အနာဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်။
နာဖိုလ် = အနာဂါမိဖလဋ္ဌာန်ပုဂ္ဂိုလ်။
ရမဂ် = အရဟတ္တမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်။
ရဖိုလ် = အရဟတ္တ ဖလဋ္ဌာန်ပုဂ္ဂိုလ်။
ဒု = ဒုဂ္ဂတိဘူမိ (ဒုက္ခခံစားရသောဘုံ)။
သု = သုဂတိဘူမိ (သုခခံစားရသောဘုံ)။
အပ = အပါယ (အပါယ်လေးဘုံ)။ မနု= မနုဿဘုံ (လူ့ဘုံ)။
စာတု = စာတုမဟာရာဇိကဘုံ (ပထမဆုံးနတ်ဘုံ)။
ကြွင်းနတ် ၅ = ကျန်နတ်ပြည်ငါးထပ်။
ရူပ ၁၀ = အသညသတ်ဘုံနှင့် သုဒ္ဓါဝါသငါးဘုံမှတစ်ပါးသော ဗြဟ္မာ ၁၀ ဘုံ။
အသည = အသညသတ္တဘုံ
သုဒ္ဓါ = သုဒ္ဓဝါသ ငါးဘုံ။
အရူပ ၄ = အရူပလေးဘုံ။

**ဒုတိယဇယားမှ အတိုကောက်**

က ရဟန္တာပုဂ္ဂိုလ်၊ ဗောဓိဉာဏ်ကို ပြီးပြည့်စုံစွာရပြီးသူ၊ ဤဘဝကုန်ဆုံးလျှင် နိဗ္ဗာန်သို့ရောက်လိမ့်မည်။
ခ အနာဂါမိပုဂ္ဂိုလ်၊ ယခုဘဝနောက် ဒုတိယဘဝတွင် နိဗ္ဗာန်ရောက်မည့်ပုဂ္ဂိုလ်၊ သို့မဟုတ် ဤဘဝမှာပင် ကြိုးမီ နိဗ္ဗာန်ရောက်မည့်ပုဂ္ဂိုလ် (ဤသည်မှာ ဖြစ်နိုင်ခြေကို ဆိုလိုသည်)။

ဂ သကဒါဂါမ်ပုဂ္ဂိုလ်၊ ဒုတိယဘဝပြီးနောက် နိဗ္ဗာန်ရောက်မည့်ပုဂ္ဂိုလ်၊ သို့မဟုတ် ဤဘဝမှာပင် နိဗ္ဗာန်ရောက်မည့် ပုဂ္ဂိုလ် (ဖြစ်နိုင်ခြေကို ဆိုလိုသည်)။
ဃ သောတာပန်ပုဂ္ဂိုလ်၊ တစ်ဘဝမှ ခုနစ်ဘဝအတွင်း နိဗ္ဗာန်ရောက်မည့်ပုဂ္ဂိုလ်၊ အလယ်အလတ်တန်းစားပုဂ္ဂိုလ်များမှာ ခုနစ်ဘဝ နေသည်၊ သို့မဟုတ် ဤဘဝမှာပင် နိဗ္ဗာန်ရောက်မည် (ဖြစ်နိုင်ခြေကို ဆိုလိုသည်)။
င ကလျာဏပုထုဇဉ် (ပုထုဇဉ်သူတော်ကောင်း)၊ မိမိ၏ ကြိုးစားအားထုတ်မှုအလျောက် ဤဘဝမှာဖြစ်စေ၊ အဆုံးမထင် အနာဂတ်ဘဝတစ်ချိန်တွင်ဖြစ်စေ နိဗ္ဗာန်ကို ရနိုင်ခြေရှိသူ (ဖြစ်နိုင်ခြေကို ဆိုလိုသည်)။
စ ကျန်ပုဂ္ဂိုလ်သုံးမျိုးမှာ ဤဘဝတွင် နိဗ္ဗာန်ရောက်နိုင်ခွင့်မရှိချေ။ အနာဂတ်ဘဝတစ်ချိန်တွင်သာ ရနိုင်ခြေရှိသည်[၁၃၀]။

**ဗုဒ္ဓဝါဒ စကြဝဠာ အယူအဆ**

ဗုဒ္ဓဝါဒဆိုင်ရာ စကြဝဠာယူဆချက်နှင့်ပတ်သက်၍ ဗုဒ္ဓသည် ဗုဒ္ဓဝါဒစကြဝဠာအကြောင်းကို ဟောကြားခဲ့ မဟောကြားခဲ့၊ ဗုဒ္ဓစာပေတို့၌ဖော်ပြသည့် ဘုံဌာနများသည် အမှန်တကယ်တည်ရှိမရှိဟူသော အငြင်းပွားဖွယ် မေးခွန်းအချို့ ဖြစ်ပေါ်လာသည်။ ဗုဒ္ဓဝါဒစွယ်စုံကျမ်း (The Encyclopaedia of Buddhism) အတွဲ ၉ တည်းဖြတ်သူ ဇောတိယ ဓိရသေကေရ (Jotia Dhirasekera) အမည်ရှိပုဂ္ဂိုလ်က ဒီဃနိကာယ်လာ ပြဟ္မဇာလသုတ်နှင့် စကြဝဠာသည် မြဲသလော မမြဲဘူးလောဟု မြတ်ဗုဒ္ဓအားမေးမြန်းသူ အရှင်မာလုကျပုတ္တအား ဗုဒ္ဓမိန့်ကြားချက်တို့ကိုကိုးကား၍ ရှေးအကျဆုံး ဗုဒ္ဓဘာသာစာပေတွင် စကြဝဠာနှင့်ပတ်သက်၍ တွေးခေါ်မြော်မြင်မှုကို ဗုဒ္ဓရှင်တော်မြတ်အနေဖြင့် သဘောတူခဲ့ပုံမရဟု ထောက်ပြခဲ့သည်။ ဤ၌ ဗုဒ္ဓဝါဒအတွေးအမြင်သည် ယင်းအကြံပြုဖော်ပြချက်ကို ဂရုတစိုက်ဖော်ပြကြသည်[၁၃၁]။ ဗုဒ္ဓဝါဒ စကြဝဠာအယူအဆ ဖော်ပြချက်များအရ မေးခွန်းများကိုဖြေကြားရန် နည်းလမ်းလေးမျိုးရှိသည်။ ယင်းတို့မှာ ၁) တိုက်ရိုက်ပြန်ကြား၍ ဖြေဆိုရသောမေးခွန်း (ဧကံသဗျာကရဏပဉှာ) ၂) ခွဲခြမ်းစိတ်ဖြာ သို့မဟုတ် ရှင်းလင်း၍ဖြေဆိုရသော မေးခွန်း (ဝိဘဇ္ဇဗျာကရဏပဉှာ) ၃) တန်ပြန်မေးခွန်းထုတ်၍ ဖြေကြားရသောမေးခွန်း (ပဋိပုစ္ဆာဗျာကရဏပဉှာ) ၄) မဖြေဘဲထား (ငြင်းဆို)ရသော မေးခွန်း (ဌာပနီယပဉှာ) တို့ဖြစ်သည်[၁၃၂]။

ပထမဆုံးမေးခွန်းမှာ 'ခန္ဓငါးပါး (ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ) တို့သည် မြဲသလော သို့တည်းမဟုတ် မမြဲဘူးလော' ဟူသကဲ့သို့သော ကိစ္စမျိုးနှင့်ပတ်သက်သည်။ ဒုတိယမှာ 'မမြဲသောဓာတ်သဘာဝသည် ရုပ်လော' ဟူသော နာမ်ရုပ်ယူဆချက်ကဲ့သို့သော မေးခွန်းမျိုးဖြစ်သည်။ တတိယမှာ 'အရာခပ်သိမ်းကို ပကတိမျက်စိဖြင့် ခွဲခြမ်းစိတ်ဖြာ သို့မဟုတ် သိမြင်သလော' ဟူသည်၌ကဲ့သို့ ခွဲခြမ်းစိတ်ဖြာရမည့် ယူဆချက်များနှင့်ပတ်သက်သော မေးခွန်းဖြစ်သည်။ နောက်ဆုံးမှာ 'စကြဝဠာသည် ထာဝရတည်မြဲသလော -- မတည်မြဲဘူးလော -- အဆုံးရှိသလော -- မရှိဘူးလော -- နှစ်မျိုးလုံး ဟုတ်သလော -- နှစ်မျိုးလုံးမဟုတ်ဘူးလော၊ အတ္တသည် ခန္ဓာကိုယ်နှင့် တူသလော၊ အတ္တသည် အရာတစ်မျိုးဖြစ်ပြီး ခန္ဓာကိုယ် က အခြားတစ်မျိုးလော၊ တထာဂတ (ဗုဒ္ဓ) သည် ကွယ်လွန်ပြီးနောက် တည်ရှိသလော သို့တည်းမဟုတ် မတည်ရှိလော သို့တည်းမဟုတ် တည်ရှိမတည်ရှိနှစ်မျိုးလုံးဟုတ်သလော သို့တည်းမဟုတ် တည်ရှိမတည်ရှိနှစ်မျိုးလုံး မဟုတ်ဘူးလော' စသည်နှင့် သက်ဆိုင်သော မေးခွန်းမျိုးဖြစ်သည်။ ယင်းအခြေအနေများအရ ဗုဒ္ဓရှင်တော်မြတ်သည် အရှင်မာလုကျပုတ္တ၏မေးခွန်းများကို ဖြေကြားခြင်းမပြုခဲ့ပေ။ သို့ဖြစ်မူ 'အဘယ်ကြောင့် ဗုဒ္ဓရှင်တော်မြတ်သည် ယင်းမေးခွန်းများကို မဖြေကြားဘဲ ဘေးဖယ်ထားခဲ့ပါသနည်း'ဟု စိတ်ထဲ၌ တွေးမိနိုင်သည်။ အကြောင်းမှာ ယင်းမေးခွန်းများကိုဖြေကြားရန် အကြောင်းနောက်ခံမရှိသောကြောင့်ဖြစ်သည်။ ဗုဒ္ဓဘုရားရှင်တို့မည်သည် အကြောင်းနောက်ခံမရှိဘဲ မြွက်ကြားတော်မူခြင်း မရှိချေ[၁၃၃]။

ဗုဒ္ဓရှင်တော်မြတ်သည် အရှင်မာလုကျပုတ္တ၏ အမေးကိုမဖြေကြားခဲ့သော်လည်း ဗုဒ္ဓဝါဒစကြဝဠာနှင့် ကမ္ဘာလောက အကြောင်း မြွက်ကြားတော်ခဲ့သည်သာဖြစ်သည်။ ဘဝတည်ရှိခြင်းနှင့် ဘဝမတည်ရှိခြင်းအကြောင်းကိုလည်း နာယူသူတို့ အကျိုးရှိမည်ဆိုလျှင် အခါအားလျော်စွာ ဟောကြားတော်မူသည်။ သို့ရာတွင် ဗုဒ္ဓရှင်တော်မြတ်သည် စကြဝဠာအကြောင်းနှင့် ယင်းစကြဝဠာမည်သို့ စတင်ပေါ်ပေါက်ခဲ့သည်ဟူသည်ကို မြွက်ကြားတော်မူသောအခါတွင် အနီးစပ်ဆုံးအကြောင်း (ပဒဋ္ဌာန)အမြင်နှင့် ဖြစ်နိုင်ခဲအကြောင်းတရားများ သို့မဟုတ် ကမ္ဘာလောကအစမထင် (အနာဒိကလောက) အယူအဆတို့ကို ဂရုတစိုက် ခွဲခြမ်းဟောကြားခဲ့သည်။ သို့တစေ ဗုဒ္ဓရှင်တော်မြတ်သည် ကမ္ဘာလောကနှင့် စကြဝဠာအကြောင်း ဟော

---

[၁၃၀] Ab-S, 68-70; Ab-T, 156-161; Ab-S-N, 241-255.

[၁၃၁] Jotiya Dhirasekera, ed., *Encyclopaedia of Buddhism*, Vol. IV (Sri Lanka: The Department of Government, 1979), 257-259.

[၁၃၂] Q-Mi 88-89.

[၁၃၃] *Milindapanha Pali, Khuddaka-Nikaya* (Rangoon, Burma: Department of Reigious Affairs, 1991), 146-147; Q-Mi, 88-89.

ကြားရန် ငြင်းဆိုခဲ့သည်ဟု အများကထင်မှတ်ကြသည်။ အကြောင်းမူ ရှေးအကျဆုံး ဗုဒ္ဓဝါဒစာပေ၌ စကြဝဠာဆိုင်ရာ တွေးခေါ်မြော်မြင်မှုကို ဗုဒ္ဓရှင်တော်မြတ် သဘောတူခဲ့ပုံမရသောကြောင့်ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ်သည် စကြဝဠာအကြောင်းကို အဘယ်ကြောင့်မဟောကြားခဲ့သနည်းဟူသည်နှင့်ပတ်သက်၍ စဉ်းစားရန် အဓိကအကြောင်း နှစ်ရပ်ရှိသည်။ အကြောင်းတစ်ရပ်မှာ ဗုဒ္ဓဝါဒစာပေတို့မှာ စကြဝဠာတည်ဆောက်ပုံစနစ်ကို ဦးစားပေးဖော်ပြခြင်းမပြုဘဲ ဖွဲ့စည်းတည်ဆောက်ထားသောကြောင့်ဖြစ်သည်။ ဒုတိယအကြောင်းတရားမှာ ဗုဒ္ဓရှင်တော်မြတ်သည် အရှင်မာလုကျပုတ္တမထေရ်က 'ကမ္ဘာလောကသည် ထာဝရတည်မြဲသလော၊ မတည်မြဲဘူးလော'စသော မေးခွန်းများကို မေးမြန်းသောအခါ ယင်းသို့သော ကမ္ဘာလောက၏တည်မြဲမှု သို့မဟုတ် အဆုံးမရှိမှုဟူသော စကြဝဠာဆိုင်ရာမေးခွန်းများကို ဖြေကြားရန်ငြင်းဆိုခဲ့သောကြောင့်ဖြစ်သည်[၁၃၄]။ အကယ်၍ အရှင်မာလုကျပုတ္တအား ဗုဒ္ဓရှင်တော်မြတ်၏ ယင်းဟောကြားချက်ကိုသာ ဆင်ခြင်ကြည့်မည်ဆိုပါက ဗုဒ္ဓဘာသာစာပေသည် ကမ္ဘာလောကတည်ဆောက်ပုံနှင့် စကြဝဠာအကြောင်း စူးစမ်းလေ့လာရန် သဘောတူပုံမရဟု မှားယွင်းစွာအဓိပ္ပာယ်ကောက်ယူနိုင်သည်။ အမှန်သော် ဗုဒ္ဓရှင်တော်မြတ်သည် သုံးဆယ့်တစ်ဘုံဖြင့် ရှင်းလင်းဖော်ပြသည့် ဗုဒ္ဓဝါဒစကြဝဠာအယူအဆကို မိမိ၏ဟောကြားချက်များ၌ မသိကျိုးကျွံပြုတော်မမူခဲ့ချေ။

ဗုဒ္ဓရှင်တော်မြတ်သည် စကြဝဠာအကြောင်း ထုတ်ဖော်ဟောကြားခဲ့သည်ဟူသောအချက်ကို ထောက်ခံသည့် သာဓကအချို့တွေ့ရသည်။ ဒီဃနိကာယ်၊ အဂ္ဂညသုတ်ပါဠိတော်၌ အောက်ပါဟောကြားချက်ဖြင့် သက်ရှိသတ္တဝါများနှင့်တကွ ကမ္ဘာလောကသည် ရှေးဦးမိုးရွာသွန်းခြင်းကြောင့် စတင်ဖြစ်တည်ပုံ တိုးတက်လာပုံ တည်မြဲနေပုံနှင့် မီး ရေနှင့် လေတို့ကြောင့် ပျက်စီးရပုံတို့ကို ဖော်ပြခဲ့သည် -

ဝါသေဋ္ဌ၊ ကာလရှည်ကြာလတ်သော် ဤကမ္ဘာလောက ပျက်စီးသည့် အချိန်သည်ရှိ၏။ လောကပျက်စီးဆဲအချိန်၌ သတ္တဝါတို့သည် များသောအားဖြင့် အာဘဿရာဗြဟ္မာ့ဘုံ၌ မွေးဖွားကြ၏။ ယင်းဘုံ၌ ၎င်းတို့သည် (ဈာန်) စိတ်ဖြင့်ပြီးကုန်၏။ ပီတိကိုစားသုံးကုန်၏။ ကိုယ်ရောင်ကိုယ်ဝါဖြင့် ထွန်းလင်းကုန်၏။ ကောင်းကင်၌ ကျက်စားကုန်၏။ တင့်တယ်ခမ်းနားစွာ နေထိုင်ကြ၏။ သက်တမ်း အလွန်ရှည်စွာနေထိုင်ကြ၏။ ကာလရှည်ကြာလတ်သော် ဤကမ္ဘာလောက ဖြစ်တည်လာသော အချိန်သည်ရှိ၏။ လောကဖြစ်တည်ဆဲအချိန်၌ သတ္တဝါတို့သည် အာဘဿရာဘုံမှစုတေ၍ များသောအားဖြင့် ဤလူ့ဘုံ၌ မွေးဖွားလာကုန်၏။ ဤလူ့ဘုံ၌ ၎င်းတို့သည် (ဥပစာရဈာန်) စိတ်ဖြင့်ပြီးကုန်၏။ ပီတိကို စားသုံးကုန်၏။ ကိုယ်ရောင်ကိုယ်ဝါဖြင့် ထွန်းလင်းကုန်၏။ ကောင်းကင်၌ ကျက်စားကုန်၏။ တင့်တယ်ခမ်းနားစွာ နေထိုင်ကြ၏။ သက်တမ်း အလွန်ရှည်စွာနေထိုင်ကြ၏။ --- အလိုလောဘများသော သတ္တဝါတစ်ယောက်က 'ဤအရာကား မည်သည့်အရာနည်း' ဟုဆို၍ မြေဆီကို လက်ဖြင့်ယူ၍ စားမြည်း၏။ ယင်းသို့ပြုခြင်းဖြင့် ထိုသတ္တဝါသည် အရသာကို သိသွားလျက် ထိုအရသာကို တပ်မက်မှုဖြစ်၏။ --- ယင်းသို့စားသုံးကြသဖြင့် ၎င်းတို့၏ ကိုယ်ရောင်ကိုယ်ဝါသည် ကွယ်၏။ ၎င်းတို့၏ ကိုယ်ရောင်ကိုယ်ဝါကွယ်သော် လနှင့်နေတို့ပေါ်ထွန်းလာ၏။ ညဉ့်နှင့်နေ့တို့ ခွဲခြားဖြစ်ပေါ်လာ၏။ လနှင့်လခွဲတို့ဖြစ်ပေါ်လာ၏။ နှစ်နှင့်ဥတုရာသီတို့ ဖြစ်ပေါ်လာ၏။ ဤမျှသောအပိုင်းအခြားဖြင့် ကမ္ဘာလောကသည် တစ်ဖန်ဖြစ်ပေါ်၏[၁၃၅]။

အထက်ပါဖော်ပြချက်ကို အခြေခံလျက် ဗုဒ္ဓရှင်တော်မြတ်သည် ဗုဒ္ဓဝါဒစကြဝဠာနှင့် ယင်း၏မူလဘူတအကြောင်းကို မြွက်ကြားခဲ့သည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ဗုဒ္ဓရှင်တော်မြတ်သည် စကြဝဠာနှင့် ယင်းသည် သဘာဝဖြစ်စဉ်အားဖြင့် ရှေးဦးပထမ မည်သို့ဖြစ်ပေါ်လာခဲ့ကြောင်း မြွက်ကြားခဲ့သည်မှာ ထင်ရှားသည်။ စကြဝဠာသည် ကမ္ဘာလောကပုံစံမျိုးစုံနှင့် သက်ရှိသတ္တဝါမျိုးစုံ ပါဝင်ကြောင်းယုံကြည်ကြသော်လည်း စကြဝဠာသည် ရံဖန်ရံခါ ပြောင်းလဲသည်။ ယင်းနောက် စကြဝဠာဖြစ်စဉ်အား တိုးတက်မှုနှင့် ဆုတ်ယုတ်မှုသက်တမ်းကာလစက်ဝန်းအဖြစ် နားလည်ရသည်။ ကမ္ဘာ့ခေတ်တစ်ခု၏ စက်ဝန်းသည် ကပ္ပဟုခေါ်သည့် ကာလသက်တမ်းအနေဖြင့် မရေတွက်နိုင်အောင် ကြာညောင်းသည်။

ဗုဒ္ဓစာပေကျမ်းဂန်တို့၌ အန္တရကပ်၊ အသင်္ချေယျကပ်နှင့် မဟာကပ်ဟု ကပ်ကာလသုံးမျိုးပြဆို၏။ အန္တရကပ်ဟူသည် လူ့သက်တမ်း ဆယ်နှစ်မှစ၍ နှစ်ထောင်ပေါင်းများစွာအထိမြင့်ပြီး တစ်ဖန်ဆယ်နှစ်တမ်းသို့ကျဆင်းသည့် အကြားကာလဖြစ်၏။ အန္တရကပ်သက်တမ်းပေါင်း နှစ်ဆယ်သည် အသင်္ချေယျကပ်တစ်ခုဖြစ်ပြီး အသင်္ချေကပ်လေးခု

---

[၁၃၄] Di-N Vol. III, 69-70; Di-N-NT, 409-410.
[၁၃၅] Di-N  Vol. III, 69-70; Di-N-NT, 409-410.

သည် မဟာကပ်တစ်ခုဖြစ်၏။ မဟာကပ်တစ်ခု၏ ရှည်ကြာချိန်မှာ ဗုဒ္ဓဟောကြားချက်အရ လူတစ်ယောက်သည် တစ်ယူဇနာ (၇ မိုင် ၈ ဖာလုံခန့်) အမြင့်အကျယ်ရှိသည့် နှမ်းဖတ်ကျောက်တောင်ကို နှစ်တစ်ရာစီကြာမှ ပိုးသား အဝတ်ဖြင့် ပွတ်တိုက်သဖြင့် ထိုကျောက်တောင်ကြီး ကုန်ဆုံးသွားသည့် အချိန်ထက်ပင် ပို၍ကြာ၏[၁၃၆]။

မဟာကပ်တစ်ခု၏သက်တမ်းကို ယင်းသို့ရေတွက်ခြင်းမှာ အဘိဓမ္မကျမ်းဂန်များနှင့်အညီလည်း ဖြစ်သည်။ အမှန်အားဖြင့် မဟာကပ်တစ်ခု၏ သက်တမ်းအပိုင်းအခြားမှာ မည်သူမျှရေတွက်၍ မရနိုင်အောင်ရှည်ကြာသည်။ အကြောင်းမူ ကမ္ဘာလောက၏သက်တမ်းမှာ ရေတွက်မရနိုင်လောက်အောင် ရှည်ကြာသောကြောင့် ဖြစ်သည်။

စကြဝဠာ ဖြစ်တည်ခြင်း ပျက်စီးခြင်းဖြစ်စဉ်စက်ဝန်းသည် သက်တမ်းလေးမျိုးနှင့် ပတ်သက်သည်။ ယင်းတို့မှာ ပျက်စီးဆဲကာလ (သံဝဋ္ဋ)၊ ပျက်စီးပြီးအတိုင်း မဖြစ်တည်ဘဲ တည်နေသည့်ကာလ (သံဝဋ္ဋဋ္ဌာယီ)၊ ဖြစ်တည်ဆဲကာလ (ဝိဝဋ္ဋ)၊ ဖြစ်တည်ပြီးတိုင်း မပျက်စီးဘဲတည်နေသည့်ကာလ (ဝိဝဋ္ဋဋ္ဌာယီ) တို့ဖြစ်သည်။ ယင်းကမ္ဘာလောကလေးမျိုးအနက် ပျက်စီးဆဲကာလသည် မီးရေလေတို့ကြောင့် ကမ္ဘာလောကပျက်စီးချိန်တွင် စတင်သည်။ ပျက်စီးဆဲကာလ၌ သတ္တဝါအားလုံးနီးပါး ငရဲနှင့် အခြားကမ္ဘာလောကမှ လွတ်မြောက်ပြီး လူ့ဘုံတွင်း မွေးဖွားကြသည်။ ၎င်းတို့ရရှိသည့် ဈာန်စိတ်အလိုက် အချို့မှာ ပထမဈာန်ဘုံ၊ အချို့ဒုတိယဈာန်ဘုံနှင့် အချို့တတိယဈာန်ဘုံတို့၌ မွေးဖွားကြသည်။ ယင်းနောက် ၎င်းတို့သည် နောက်ဆုံးတွင် မီးရေလေတို့ကြောင့် မပျက်စီးနိုင်သည့် စတုတ္ထဈာန်ဘုံ၌ မွေးဖွားနိုင်သည်အထိ သမထကမ္မဋ္ဌာန်းမှ တစ်ဆင့်အဆင့်မြင့်သမာဓိကို ရရှိနိုင်ကြသည်[၁၃၇]။

သို့ရာတွင် အဘိဓမ္မကောသကျမ်းအလိုအရ အကုသိုလ်ကံ အကျိုးပေးမကုန်ဆုံးသေးသူ ဆိုလိုသည်မှာ ငရဲပြစ်ဒဏ်ကျမှုပမာဏမပြီးဆုံးသေးသူ ငရဲဘုံသားအချို့မှာ အခြားစကြဝဠာတစ်ခု၌ တည်ရှိသည့် ငရဲဘုံသို့ ရွှေ့ပြောင်းသွားသည်ဟုဆိုသည်[၁၃၈]။ ကမ္ဘာလောက ပျက်သုံးမှုဖြစ်စဉ်သည် သဘာဝဖြစ်စဉ်အဆင့်အမျိုးမျိုးဖြင့် ကမ္ဘာလောကတစ်ခုပြီးတစ်ခု ဖြစ်သည်။ ဤ၌ ဗုဒ္ဓဝါဒတွင် အငြင်းပွားဖွယ်တစ်ရပ်ဖြစ်ပုံရသည့် တွေးခေါ်မြော်မြင်မှုအရမဟုတ်ဘဲ ပါဠိတော်ကျမ်းဂန်ဆိုင်ရာ အယူအဆတစ်ရပ်ရှိသည်။ ယင်းယူချက်မှာ ဤစကြဝဠာကမ္ဘာမိုးမြေ အစမထင်သကဲ့သို့ သက်အားလုံး၏အစကိုလည်း မသိနိုင်ချေ။ ဤသည်မှာ ထိုအစတစ်ခုမတိုင်မီ အခြားအစတစ်ခုရှိခဲ့ပြီး ယင်းမတိုင်ခင်လည်း အခြားအစတစ်ခုရှိသည် စသည်ဖြင့် ဆိုလိုခြင်းဖြစ်သည်။ ယင်းကို 'အစမထင်'ဟု ခေါ်ဆိုသည်။ ယင်းအယူအဆသည် ပဋိစ္စသမုပ္ပါဒ်နှင့် တိုက်ရိုက်ဆက်နွယ်သည်။ ကမ္ဘာလောကဖြစ်စဉ် သို့မဟုတ် သက်ရှိလောကဖြစ်စဉ်နှင့် သတ္တဝါတစ်ခုမည်သို့ စတင်ဖြစ်ပေါ်လာသည်ဟူသည်မှာ ဤကမ္ဘာလောကကို အခြေပြု၍ဆိုခြင်းသာဖြစ်သည်။ သို့တစေ စကြဝဠာသည် လူသားတို့နားလည်နိုင်စွမ်း၏ တစ်ဖက်တွင်ရှိလောက်အောင် ကျယ်ပြောနက်ရှိုင်းသည်ဟု ယုံကြည်ရသည်။ လူသားတို့အသိဉာဏ် သို့မဟုတ် လူသာတို့၏ သိပ္ပံပညာဖြင့် ထိုးထွင်းနိုင်မှု၏ဟိုဖက်တွင် များပြားလှသော ကမ္ဘာလောက သို့မဟုတ် စကြဝဠာတို့ရှိသည်။

ပဋိစ္စသမုပ္ပါဒဒေသနာတော်အရ သတ္တဝါတို့သည် အဝိဇ္ဇာနှင့်တဏှာကြောင့် ဘဝသံသရာတွင် လှည့်လည်နေကြရသည်။ ဗုဒ္ဓရှင်တော်မြတ်က အဝိဇ္ဇာနှင့် တဏှာတွန်းအားကြောင့် သတ္တဝါတို့ ဘဝသံသရာ၌ ကျင်လည်ရပုံကို အောက်ပါအတိုင်း မြွက်ကြားခဲ့သည် 'ရဟန်းတို့၊ ဤသံသရာသည် မမြင်နိုင်အပ်သော အစတရားရှိ၏။ အဝိဇ္ဇာဖြင့် တားဆီးထားပြီး တဏှာဖြင့် မြှေးယှက်ထားခြင်း၌ ဦးတည်ရာမဲ့ကျင်လည်နေကြရကုန်သော သတ္တဝါတို့၏ ပထမဆုံးသောအစကို မသိမြင်နိုင်ချေ'[၁၃၉]။ အထက်ပါဟောကြာချက်ကို ဖတ်ရခြင်း၌ စကြဝဠာဖြစ်စဉ် အစမထင်ကြောင်း ဗုဒ္ဓရှင်တော်မြတ် အထူးပြုဟောကြားခဲ့ကြောင်း နားလည်နိုင်သည်။ ဤဖော်ပြချက်၌ ကမ္ဘာလောကကို ဖန်ဆင်းခြင်းအယူအဆ၊ ကမ္ဘာလောက ဘယ်လို ဘာကြောင့် စတင်ခဲ့သည်၊ စကြဝဠာကို ဘယ်သူဖန်ဆင်းခဲ့သည်ဟူသည်ကို ဖော်ပြခြင်းထက် ဒုက္ခလောကမှ လွတ်မြောက်မှုဖြစ်စဉ်ကိုသာ ဗုဒ္ဓရှင်တော်မြတ် အဓိကညွှန်းလိုခြင်းဖြစ်သည်။ သို့တစေ ဗုဒ္ဓသည် တပည့်အပေါင်းအား သွားရောက်လိုသည့်နေရာသို့ ရောက်နိုင်ခွင့်ပိုမိုရရှိစေရေးအတွက် ကိုယ်ကျင့်တရားကို သွန်သင်နိုင်ရန် သတ္တဝါတို့၏ ဘဝများကို ဖော်ပြခဲ့သည်။

**ကမ္ဘာလောကစတင်ပုံ ယူဆချက်နှစ်ရပ်**

---

[၁၃၆] Sa-N, 389-390;Ac-Ab, 198.

[၁၃၇] Ab-B-T, 322-330.

[၁၃၈] Ab-S, 78-79.

[၁၃၉] *Nidana-vagga Sanyutta Pali, Samuktta-Nikaya* (Rangoon, Burma: Department of Religious Affairs, 1991), 387;Sa-N-NT Vol, I, 651

ကမ္ဘာလောက သို့မဟုတ် စကြဝဠာ ပထမဆုံး မည်သို့စတင်ခဲ့သည်ဟူသော အချက်နှင့်ပတ်သက်၍ ခပ်ဆင်ဆင်တူသည့် ယူဆချက်နှစ်ရပ်ရှိသည်။ ယင်းတို့မှာ သိပ္ပံပညာရှင်တို့၏ ယူဆချက်နှင့် ဗုဒ္ဓဝါဒီတို့၏ ယူဆချက်ဖြစ်သည်။ ယင်းနှစ်ရပ်မှာ နီးကပ်စွာ ဆက်နွယ်မှုရှိသည်။ ပထမအနေဖြင့် ယင်းယူဆချက်နှစ်ရပ်သည် ထာဝရဘုရား (ဖန်ဆင်းရှင်) သည် အစစ်အမှန်တရား၏ အခြေခံမူလဘူတဖြစ်သည်ဟူသောအဆိုကို ငြင်းဆိုသည်။ ဒုတိယအနေဖြင့် ယူဆချက်နှစ်ရပ်လုံးသည် ကမ္ဘာလောက သို့မဟုတ် စကြဝဠာသည် သဘာဝဖြစ်စဉ်အရ ပေါ်ပေါက်လာသည်ဟု ညွှန်ပြသည်။ နောက်ဆုံးအနေဖြင့် ဤကမ္ဘာလောကပေါ်ပေါက်လာရန် ထာဝရဘုရား၏ဩဇာ သို့မဟုတ် ဖန်ဆင်းခြင်း တစ်စုံတစ်ရာမရှိဘဲ သဘာဝဖြစ်စဉ်အရသာ အလိုအလျောက် ဖြစ်ပေါ်လာသည်။

ကမ္ဘာလောကမည်သို့ဖြစ်ပေါ်လာသည်ဟူသော ယူဆချက်နှင့်ပတ်သက်၍ သိပ္ပံပညာရှင်များစွာတို့က ရုပ်ပိုင်းဘဝဆင့်ကဲဖြစ်စဉ်၊ ဓာတုဆင့်ကဲဖြစ်စဉ်၊ ခန္ဓာဗေဒဆင့်ကဲဖြစ်စဉ် သို့မဟုတ် စကြဝဠာဆင့်ကဲဖြစ်စဉ်တို့ကြောင့် မူလဘူတအခြေခံတရားတစ်ခုသည်ပင် ရှုပ်ထွေးဆန်းပြားသည့် သတ္တဝါများအဖြစ်သို့ တိုးတက်ဖြစ်ထွန်းလာနိုင်သည်ကို သက်သေပြပြီးဖြစ်ကြောင်း ဖော်ပြကြသည်။ သို့ရာတွင် ဗုဒ္ဓဝါဒကမူ ရူပဗေဒနည်းအားဖြင့် ကမ္ဘာလောကဖြစ်တည်မှုအကြောင်း သက်သေမပြခဲ့သော်လည်း သီအိုရီအားဖြင့် အချို့ယူဆချက်များကို အမှန်ပင်ဖော်ပြခဲ့သည်။ သို့ရာတွင် ဗုဒ္ဓဝါဒီတို့၏ ကမ္ဘာလောကဖြစ်တည်ပုံအကြောင်းသည် သိပ္ပံပညာရှင်တို့၏ ယူဆချက်နှင့် အလွန်နီးစပ်သည်။ သိပ္ပံပညာရှင်တို့၏ ယူဆချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

> သိပ္ပံပညာရှင်များစွာတို့သည် ကမ္ဘာမြေအား မဟာဓာတ်ခွဲစမ်းသပ်ပြုလုပ်ရာတွင် (လွန်ခဲ့သော နှစ်သန်းပေါင်း လေးထောင်အလွန်က) ကာဘွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်နှင့် နိုင်ထရိုဂျင်ဓာတ်တို့သည် ရှုပ်ထွေးဆန်းကြယ်သည့် မော်လီကျူးများအဖြစ် ပေါင်းစပ်ဖြစ်တည်သွားကြသည်။ ယင်းဖြစ်စဉ်တွင် တစ်ခုသောပေါင်းစပ်မှုသည် 'ဇီဝအသက်' ဟုခေါ်သည့် စိတ်ဝင်စားဖွယ်အကောင်းဆုံးသော ဖြစ်စဉ်အဖြစ် အစပျိုးခဲ့ဖွယ်ရှိသည်။ ရုပ်အခြေခံမှာ မီသိန်း၊ အမိုးနီးယားနှင့် ကာဘွန်ဒိုင်အောက်ဆိုက်ကဲ့သို့သော ရိုးရိုးဓာတုပေါင်းစပ်မှုများမှ ဖွဲ့စည်းသွားခဲ့သည့် ပရိုတိန်းခေါ် ပေါ်လီမာ (polymer) ဒြပ်ပေါင်းတစ်ခု ဖြစ်နိုင်သည်။ အသက်ဇီဝသည် ယင်းသို့စတင်ခဲ့ပြီး ယင်းဓာတ်ပေါင်းသည် နှစ်ကာလ ကြာသော် လူသားဖြစ်လာသည်အထိ နောက်ထပ်ပြောင်းလဲသွားသည်။ ပေါ်လီမာသည် နှစ်သန်းပေါင်းအနည်းငယ် ပိုရှေးကျနိုင်သော်လည်း လူသားတို့မှာ ဤစကြဝဠာ၌ (လွန်ခဲ့သောနှစ်ပေါင်း တစ်သိန်းခန့်ကမှ) အသစ်ရောက် ရှိလာသူများဖြစ်ကြသည်[၁၄၀]။

အခါအားလျော်စွာ ဆင့်ကဲပြောင်းလဲမှုဖြစ်စဉ်တစ်မျိုးသည် ကမ္ဘာမြေပေါ်၌ ဖြစ်ပေါ်လာလေ့ရှိသည်။ ဤစကြဝဠာတွင် ကမ္ဘာမြေအပေါ်ယံလွှာ ဖြစ်ပေါ်ပြီးနောက် စကြဝဠာဆိုင်ရာ ပြောင်းလဲမှုဖြစ်စဉ် ပေါ်လာသည်။ သိပ္ပံဆိုင်ရာ အယူအဆအရ ယင်းပြောင်းလဲမှုဖြစ်စဉ်ကို 'မဟာပေါက်ကွဲမှု (Big Bang)' သီအိုရီဟုခေါ်သည်။ မဟာပေါက်ကွဲမှုသီအိုရီဖြင့် ရှုမြင်ခြင်းသည် ဗုဒ္ဓဝါဒအတွေးအမြင်နှင့် တူညီကြောင်းတွေ့ရသည်။ ဗုဒ္ဓဘာသာကျမ်းဂန်တို့၌ နောက်ဆုံးတွင် ကမ္ဘာလောကသည် အလွန်ပူပြင်းလာပြီး တစ်ချိန်တည်းနီးပါးလောက်တွင် နေခုနစ်စင်းတစ်စင်းပြီးတစ်စင်း ပေါ်ထွက်လာလျက် ကမ္ဘာလောကပေါက်ကွဲတော့မည့် အခြေအနေမျိုးဖြစ်သွားကြောင်းဖော်ပြသည်။ ယင်းနောက်တွင် ယင်းအပူရှိန်သည် ကမ္ဘာမြေကို လောင်ကျွမ်းပစ်လိုက်သည်[၁၄၁]။ သိပ္ပံပညာရှင်တို့သည် မဟာပေါက်ကွဲမှုဖြစ်စဉ်သည် နှစ်ပေါင်း ၁၃ ဘီလီယံ ခန့်က ဖြစ်ပျက်ကြောင်း ခန့်မှန်းယုံကြည်ကြသည်။ နှစ်ကာလများစွာကြာသော် စကြဝဠာမျက်နှာပြင်ပေါ်၌ ပြောင်းလဲမှု အစီအရီဖြစ်ပေါ်လာသည်။ ယင်းပြောင်းလဲမှုများအနက် အသေးမွှားဆုံးဆင့်ကဲဖြစ်စဉ်၊ ဓာတုဆင့်ကဲဖြစ်စဉ်၊ ရုပ်ပိုင်း ဆင့်ကဲဖြစ်စဉ်နှင့် စိတ်ပိုင်းဆင့်ကဲဖြစ်စဉ်တို့ပါဝင်သည်။ သိပ္ပံပညာရှင်များစွာတို့သည် လူသားတို့၏ မူလဘူတသည် ရုပ်ပိုင်းနှင့်စိတ်ပိုင်းဆင့်ကဲဖြစ်စဉ်ဟူသော တစ်ပြိုင်နက်ဖြစ်ပေါ်သည့် ခြားနားသည့် ဖြစ်စဉ်နှစ်ရပ်၏ ရလဒ်ဖြစ်ကြောင်း ယုံကြည်ကြသည်။ အမှန်ပင် ရုပ်ပိုင်းဆင့်ကဲဖြစ်စဉ်သည် လူသားတို့နှင့်ပတ်သက်သောအခါ ဆန်းပြားထွေပြားပြီး ဝေဖန် ဆွေးနွေးဖွယ်ဖြစ်သည်[၁၄၂]။ သို့တစေ ထာဝရဘုရားရှိယူဆသူတို့က စကြဝဠာနှင့် သက်ရှိအားလုံးသည် ထာဝရဘုရား သခင်၏ဆန္ဒအရ ဤကမ္ဘာလောကစတင် ဖြစ်တည်ခဲ့သည်ဟူသောယူဆချက်ကို စွဲကိုင်ပြောဆိုနေကြဆဲဖြစ်သည်။ သို့ရာတွင် ဗုဒ္ဓဝါဒီ

[၁၄၀] Ibid, 46.

[၁၄၁] Ab-B-T, 321.

[၁၄၂] Francis R Xavier, " Creation in Evolution", in *Indian Theological* Studies, Vol. XXXVIII. No. 1., 47-54.

များနှင့် သိပ္ပံပညာရှင်များသည် စကြဝဠာနှင့် သက်ရှိများသည် သဘာဝဖြစ်စဉ် သိပ္ပံဝေါဟာရအားဖြင့်ဆိုမူ 'သဘာဝရွေးချယ်မှု (natural selection)'ကြောင့် ဖြစ်ပေါ်ခဲ့ကြောင်း ယုံကြည်ကြသည်။

ဤဖော်ပြချက်၌ ဗုဒ္ဓဘာသာဝင်တို့သည် စကြဝဠာအစသီအိုရီနှင့်ပတ်သက်၍ သိပ္ပံပညာရှင်များကဲ့သို့ အသည်းအသန် မပြောဆိုကြပေ။ အကြောင်းမူ (စကြဝဠာ) အစမရှိ၊ သက်ရှိသက်မဲ့လောကအပါအဝင် အရာခပ်သိမ်းကို ဖန်ဆင်းသည့်ပုဂ္ဂိုလ်မရှိဟု ယုံကြည်ကြသောကြောင့်ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်တို့သည် စမ်းသပ်မှုဖြင့် စကြဝဠာ၏အဦးအစ အကြောင်းအချက်အလက်များကို မပေးကြသော်လည်း ၎င်းတို့သည် ဒေသနာတော်နှင့်ညီသည့် သိပ္ပံပညာရှင်တို့၏ ဖော်ပြချက်များကို လက်ခံကြသည်။ ဤနေရာတွင် သိပ္ပံပညာရှင်များသည် စကြဝဠာ၏အစအယူအဆကို အောက်ပါအတိုင်း ဖော်ပြကြသည် -

> ပစ္စုပ္ပန်ဖြစ်ရပ်များသည် အတိတ်ဖြစ်ရပ်ကြောင့်ဖြစ်ပြီး တစ်ဖန် ယင်းဖြစ်ရပ်များသည်လည်း ယင်းမတိုင်မီ အတိတ်ဖြစ်ရပ်များကြောင့်ဖြစ်သည်ဟူသော အယူအဆနှင့် ကျွမ်းဝင်ဖူးကြ၏။ အတိတ်ကာများဆီသို့ နောက်ပြန်သွားသော ကြောင်းကျိုးဖြစ်စဉ်ကွင်းဆက်တစ်ခုရှိ၏။ သို့တစေ ယင်းကွင်းဆက်တွင် အစရှိသည်ဆိုပါစို့၊ ပထမဆုံးသော ဖြစ်ရပ်တစ်ခု ရှိသည်ဆိုပါစို့။ ယင်းအစဆုံးဖြစ်ရပ်သည် မည်သည့်အတွက်ကြောင့်ဖြစ်ရသနည်း။ ယင်းသည် သိပ္ပံပညာရှင်အများစု ဖြေကြားလိုသော မေးခွန်းတစ်ခုမဟုတ်ခဲ့ချေ။ ၎င်းတို့သည် ရုရှားသိပ္ပံပညာရှင်များ(ဆိုသ)ကဲ့သို့ စကြဝဠာသည်အစမရှိဟု ငြင်းဆို၍ဖြစ်စေ၊ စကြဝဠာ၏မူလဘူတသည် သိပ္ပံပညာရှင်တို့၏ နယ်ပယ်အတွင်းမရှိဘဲ သဘာဝလွန် သို့မဟုတ် ဘာသာတရား၏နယ်ပယ်အတွင်း၌ရှိကြောင်း ဆုပ်ကိုင်၍ဖြစ်စေ ယင်းမေးခွန်းကို ရှောင်ကွင်းရန် ကြိုးပမ်းခဲ့ကြ၏။ ကျွန်ုပ်၏အလိုအရမူ ယင်းသည် မည်သည့်သိပ္ပံရှင်အစစ်အမှန် တစ်ယောက်မဆို ရယူသင့်သော အခြေအနေတစ်ရပ်မဟုတ်ချေ။ အကယ်၍ သိပ္ပံနိယာမများကို စကြဝဠာ၏မူလအစ၌သာ ရပ်ဆိုင်းထားမည်ဆိုလျှင် ယင်းနိယာမများသည် အခြားအချိန်များတွင်လည်း အသုံးမကျဖြစ်သွားနိုင်သည်မဟုတ်လော။ နိယာမတစ်ခုသည် အကယ်၍ တစ်ချိန်တွင်သာ မှန်မည်ဆိုပါက နိယာမမဟုတ်ချေ။ ကျွန်ုပ်တို့အနေဖြင့် စကြဝဠာ၏အစကို သိပ္ပံအခြေခံဖြင့် နားလည်အောင်ကြိုးပမ်းရမည်။ ယင်းသည် ကျွန်ုပ်တို့စွမ်းရည်၏ တစ်ဖက်တွင်ရှိသည့်တိုင် အနည်းဆုံးတော့ ကြိုးပမ်းမှုပြုရမည်။ ပင်ရိုစီ (Penrose) နှင့် ကျွန်ုပ်တို့ သက်သေပြခဲ့သည့် သီအိုရမ်များက စကြဝဠာသည် အစတစ်ခုရှိရမည်ဟု ဖော်ပြနေချိန်တွင် ယင်းသီအိုရမ်များသည် ထိုအစ၏သဘာဝနှင့်ပတ်သက်သည့် သတင်းအချက်များစွာ မပေးနိုင်ခဲ့ပေ။ ယင်းသီအိုရမ်များက စကြဝဠာသည် စကြဝဠာတစ်ခုလုံးနှင့် စကြဝဠာအတွင်းရှိအရာအားလုံး အလုံးစုံသိပ်သည်းမှတ်တစ်ခုဆီသို့ ကျုံ့သွားခဲ့သည့် မဟာပေါက်ကွဲမှုမှ စတင်ခဲ့ကြောင်း ညွှန်ပြခဲ့၏။ ယင်းသိပ်သည်းမှုတွင် အိုင်စတိုင်း၏ အထွေထွေ ရီလေးတီဗီတီသီအိုရီ (ကြောင်းကျိုးဖြစ်စဉ် နိယာမ) ပျက်စီးသွားသဖြင့် စကြဝဠာ၏မူလဘူတသည် သိပ္ပံစက်ကွင်း၏တစ်ဘက်တွင် ကျန်ရစ်သည်မှာ ထင်ရှား၏[၁၄၃]။

စကြဝဠာ၏မူလအစ ခွဲခြမ်းစိတ်ဖြာမှုနှင့်ဆိုင်သော သီအိုရီတစ်ရပ်ဖြင့် မည်သည့်သိပ္ပံပညာရှင်တစ်ယောက်မျှ ပေါ်မလာသေးသဖြင့် စကြဝဠာ၏မူလအစနှင့်ပတ်သက်၍ စုံစမ်းဆင်ခြင်မှုကို မရမကလုပ်နေခြင်းကို စွန့်ပစ်မှု ပို၍သင့်လျော်သည်။ သို့တစေ ဆင့်ကဲပြောင်းလဲမှုဖြစ်စဉ်မှာ စကြဝဠာမည်သို့စတင်ပြီး 'သဘာဝရွေးချယ်မှု (natural selection)'ကြောင့် ယင်းသည် မည်သို့ပြောင်းလဲခဲ့ကြောင်း ရှင်းပြရန် စံနမူပြု သီအိုရီတစ်ရပ်ဖြစ်ကြောင်း ယေဘုယျအားဖြင့် ဆိုကြသည်[၁၄၄]။

## ဒုဂ္ဂတိဘုံ တည်ရှိခြင်း

မြင်ကောင်း မမြင်ကောင်းဘဝများတည်ရှိမှုနှင့် ပတ်သက်၍ ဆင်းရဲဒုက္ခခံစားရသည့် သတ္တဝါတို့မွေးဖွားရာ ဘုံဌာနများမှာ အပါယ်လေးဘုံဟုထင်ရှားပြီး မကောင်းသော ဘဝသက်တမ်းအတွက် တည်နေရာ ဒုဂ္ဂတိဘုံဟုလည်းခေါ်တွင်သည်။ ငရဲ၊ ပြိတ္တာ၊ အသုရာနှင့် တိရစ္ဆာန်တို့မှာ ယင်းအပါယ်ဘုံများဖြစ်ကြသည်။ ဗုဒ္ဓဝါဒစကြဝဠာဗေဒအရ အပါယ်လေးဘုံမှာ ဗုဒ္ဓဝါဒီများအဖို့ မလိုလားအပ်သော ဘုံဌာများဖြစ်သည်။ အပါယဟူသောစကားလုံးသည် **အပ**(မရှိ) **အယ**(ချမ်းသာ ခြင်း)ဟူသော စကားလုံးနှစ်ခု တွဲစပ်ပုဒ်ဖြစ်သည်။ ထို့ကြောင့် အပါယဟူသည် စာပေနည်းအရ ချမ်းသာမဲ့ခြင်းဟု အဓိပ္ပာယ်ရသည်။ တစ်ချိန်လုံး နာကျင်ခံခက်ခြင်းရှိသည့် ဘဝဘုံဌာနများကို သိမ်းရုံး၍ခေါ်ဝေါ်ခြင်းဖြစ်သည်။ သို့ဖြစ်၍ အပါယ်လေး

[၁၄၃] Stephen Hawking, *The Universe in a Nutshell* (New York: Bantam Books, 2001), 79.
[၁၄၄] Francis P. Xavier, 69.

ဘုံ၌ မွေးဖွားသူများမှာ ချမ်းသာသုခမရှိချေ။ အမှန်စင်စစ် တစ်စုံတစ်ယောက်သည် လောက၏ ဒုက္ခသဘာဝကို စစ်မှန်စွာ မြင်ဘိမူ (လောကမှ)လွတ်မြောက်မှု ဗုဒ္ဓဝါဒရှုထောင့်မှ နိဗ္ဗာန်ကိုရောက်ရန် စိတ်အားထက်သန်လိမ့်မည်ဖြစ်သည်[၁၄၅]။

ဗုဒ္ဓဝါဒလာ အပါယ်လေးဘုံအနက် ငရဲဘုံသည် အလိုမရှိအပ်ဆုံးသော ဘုံဌာနဖြစ်သည်။ နိရယ(သက္ကတ = နရက) ဟူသည် စာပေနည်းအားဖြင့် ချမ်းသာကင်းဆိတ်ခြင်း သို့မဟုတ် ပျက်စီး၍ကျရောက်သည့်နေရာဟု အဓိပ္ပာယ်ရသည်။ အဓိကငရဲဘုံအစုတွင် ငရဲကြီးရှစ်ခုရှိပြီး ငရဲငယ်လေးဆယ်ရှိသည်။ ယင်းသို့ဖြစ်ရခြင်းမှာ မဇ္ဈိမနိကာယ်၊ ဒေဝဒူတသုတ်နှင့် သင်္ဂြိုဟ်ဘာသာဋီကာကျမ်းတို့အရ ငရဲကြီးတစ်ခုစီတွင် ငရဲငယ်ငါးခုစီပါဝင်သောကြောင့်ဖြစ်သည်။ ယင်းငရဲဘုံတို့သည် လူ့ဘုံအောက် စကြဝဠာတစ်နေရာတွင် တည်ရှိကြသည်။ ငရဲဘုံသားများသည် ၎င်းတို့၏ ဒုက္ခကိုခံစားရာ၌ ရပ်နားခြင်းမရှိဘဲ ငရဲဘုံဌာနတွင် ဒလစပ်ခံစားကြရသည်။ အပြင်းထန်ဆုံးဆင်းရဲဒုက္ခမှလည်း နားခွင့်မရှိကြချေ။ ၎င်းတို့သည် အတိတ်ဘဝများ၌ ၎င်းတို့ပြုလုပ်ခဲ့သော အကုသိုလ်ကံအရ ဒုက္ခခံစားကြရခြင်းဖြစ်သည်။ ယင်းသို့သော ဆင်းရဲဒုက္ခများ အကြောင်းကို သိမြင်ကြခြင်း၌ ဗုဒ္ဓဝါဒီတို့သည် အပါယ်ဘုံတို့၌ မွေးဖွားရမည်းကို အလွန်ကြောက်လန့်ကြသည်။ သို့ဖြစ်၍ ၎င်းတို့အနေဖြင့် စိတ်ဓာတ်အရ ဒါန (အလှူဒါနပြုခြင်း)၊ သီလ (ကိုယ်ကျင့်တရား)နှင့် ပညာ (အသိဉာဏ်)တို့ကို ကျင့်ကြံခြင်းဖြင့် လွတ်မြောက်မှုအတွက် ရည်ရွယ်ကြသည်။ သို့တစေ အခြားဘာသာတရားတို့နှင့်မတူဘဲ ဗုဒ္ဓဝါဒသည် မည်သည့်အရာမျှ ထာဝရတည်မြဲမှုမရှိသဖြင့် ငရဲဘုံ၌ဒုက္ခခံစားနေရသူများမှာ ထာဝရခံစားရလိမ့်မည်မဟုတ်ချေ။ သို့သော် ငရဲဘုံဌာနတစ်ခုခု၌ ခံစားကြရသူများအဖို့မှာ အလွန်နှိပ်စက်ခံရမှုကို ခံနိုင်သော်လည်း အသက်မသေနိုင်သောကြောင့် အလွန်ကြောက်မက်ဖွယ်ကောင်းသည်[၁၄၆]။

> ငရဲဘုံတွင် မည်မျှဆင်းရဲသနည်း။ မဇ္ဈိမနိကာယ်၊ ဒေဝဒူတသုတ်၌ မှတ်တမ်းတစ်ရပ်ရှိသည်။ ဥပမာထုတ်ပြရမူ - ထို (ငရဲထိန်း)တို့သည် လောလောပူသော သံငုတ်ကို လက်၌စိုက်နှက်ကုန်၏. . နှစ်ခုမြောက်လက်၌ စိုက်နှက်ကုန်၏။ . . ခြေ၌ စိုက်နှက်ကုန်၏။ . . နှစ်ခုမြောက်ခြေ၌ စိုက်နှက်ကုန်၏။ ထို (ငရဲထိန်း)တို့သည် လောလောပူသော သံငုတ်ကို ရင်လယ်၌ စိုက်နှက်ကုန်၏။ ထိုငရဲကျသူသည် ဆင်းရဲကုန် ပြင်းထန်ကုန် ကြမ်းတမ်းကုန် ကျင်နာကုန်သော ဝေဒနာတို့ကို ခံစားရ၏။ ထိုမကောင်းမှုကံ မကုန်သေးသမျှ မသေ[၁၄၇]။

ယင်းသုတ္တန်တွင် ငရဲဘုံများ၏ ဆင်းရဲဒုက္ခအကြောင်းကို အသေးစိတ် ဖော်ပြထားသည်။ သို့ဖြစ်၍ ငရဲဘုံများ၌မည်မျှ ဒုက္ခခံစားရသည်ဟူသည်ကို နောက်ထပ်လေ့လာသင်ကြားလိုပါက ယင်းသုတ္တန်ကို လေ့လာနိုင်သည်။ ယင်းသုတ္တန်လာ အကြောင်းအရာတို့မှာ အမှန်ပင်ထိတ်လန့် ကြောက်ရွံ့ဖွယ်ကောင်းလှသည်။ သတ္တဝါတို့သည် ၎င်းတို့၏ငရဲဘဝတွင် ခံရသည့် ထိတ်လန့်ဖွယ် ဆင်းရဲဒုက္ခများအကြောင်းကို သိနားလည်ကြခြင်း၌ ဗုဒ္ဓဝါဒီတို့သည် နိဗ္ဗာန်သို့ ဆိုက်ရောက်လိုကြသည်။ သို့တစေ ထိုသတ္တဝါများမှာ နောက်ဆုံး၌ ၎င်းတို့၏ မကောင်းမှု အကုသိုလ်ကံအကျိုးဆက်ကုန်ဆုံးပါက ယင်းထိတ်ရွံ့ဖွယ် ဒုက္ခလောကမှ လွတ်မြောက်ခွင့် ရှိကြလိမ့်မည်ဖြစ်သည်။

ငရဲကြီးရှစ်ထပ်အနက် အဝီစိသည် အောက်ဆုံးငရဲဖြစ်ပြီး ကြောက်ဖွယ်အကောင်းဆုံးဖြစ်သည်။ ဗုဒ္ဓဝါဒအလိုအရ ဂရုကံဟုခေါ်သည့် အပြင်းထန်ဆုံးအကုသိုလ်မှုကို ကျူးလွန်သူများသည် အဝီစိငရဲ၌ ခံစားကြရသည်။ ဂရုကံအား ပိုမိုကောင်းမွန်သည့်ဘဝတစ်ခု၌ မွေးဖွားရေးအတွက် အခြေအနေပြောင်းလဲအောင် အခြားမည်သည့်ကံဖြင့်မျှ အစားမထိုးနိုင်ချေ။ ကြီးမားသည့်ပြစ်မှု (ပဉ္စာနန္တရိယကံ) ငါးမျိုးကို စေတနာနှင့်တကွကျူးလွန်သူများအား အဝီစိငရဲမှ လွတ်မြောက်ရန် မည်သည့်ကုသိုလ်ကံမျှ မကူညီနိုင်ချေ။ ပဉ္စာနန္တရိယကံငါးမျိုးမှာ အဖသတ်ခြင်း၊ အမိသတ်ခြင်း၊ ရဟန္တာသတ်ခြင်း၊ ဗုဒ္ဓရှင်တော်မြတ်အား ဒဏ်ရာအနာတရဖြစ်အောင် လုပ်ခြင်း၊ သံဃာသင်းကွဲအောင်လုပ်ခြင်း တို့ဖြစ်သည်။ ဥပမာ ဗုဒ္ဓရှင်တော်မြတ်၏ ညီအစ်ကိုတစ်ဝမ်းကွဲတော်စပ်သူ ဒေဝဒတ်၏ဖြစ်ရပ်ကို သတိရသင့်သည်။ ဒေဝဒတ်သည် ဗုဒ္ဓရှင်တော်မြတ်အား ဒဏ်ရာအောင်ပြုခြင်း၊ သံဃာသင်းကွဲခြင်းဟူသော အနန္တရိယကံနှစ်မျိုးကို ကျူးလွန်ခဲ့သဖြင့် ၎င်း၏စျာန်တန်ခိုးများ ကွယ်ပျောက်သွားပြီး အဝီစိငရဲ၌ မွေးဖွားရသည်[၁၄၈]။

---

[၁၄၅] Ab-B-T, 281-283.

[၁၄၆] Ibid, 283-291.

[၁၄၇] Bhikkhu Nanamolli and Bhikkhu Bodhi, trans., *The Middle Length Discourses of the Buddha*: *A New Translation of the Majjhima Nikaya* (Boston: Wisdom Publications, 1995), 1032.

[၁၄၈] Ac-Ab, 202.

တိရစ္ဆာန်များသည်လည်း အပါယ်ဘုံ၌ ပါဝင်ပြီး ပြိတ္တာနှင့် အသူရာတို့ကိုလည်း အပါယ်လေးဘုံ၌ ထည့်သွင်းသည်။ ယင်းဘုံတို့သည် အကုသိုလ်ကံကြောင့် အမှန်ပင် အဆုံးမဲ့ ထိတ်လန့်ဖွယ်ဘုံဌာနများ ဖြစ်ကြသည်။ တိရစ္ဆာန်ဟူသည် အလျားလိုက်သွားလာသော သတ္တဝါများကို ဆိုလိုသည်။ တိရစ္ဆာန်များသည် ဤကမ္ဘာမြေပေါ်မှာ သို့မဟုတ် ရေထဲမှာ သို့မဟုတ် ကောင်းကင်မှာပင်ဖြစ်စေ နေရာတိုင်းမှာ နေနိုင်ကြသည်။ မကောင်းမှုကို ကျူးလွန်သည့် လူသားများသည် ယင်းမကောင်းမှု အကုသိုလ်ကံကြောင့် သေပြီးနောက်တွင် တိရစ္ဆာန်လောက၌ မွေးဖွားနိုင်ကြောင်း ယုံကြည်ကြသည်။ တစ်စုံတစ်ယောက်သည် တိရစ္ဆာန်လောက၌ မွေးဖွားပြီးဆိုသောအခါ ယင်းလောကမှ လွတ်မြောက်ရန် ခဲယဉ်းသည်။ အကြောင်းမှာ တိရစ္ဆာန်များအနေဖြင့် ကုသိုလ်ကောင်းမှုပြုရန် အခွင့်အလမ်း များစွာနည်းပါးပြီး အချင်းချင်းညှာတာ ကြင်နာမှုကင်းမဲ့လျက် အားကြီးသူက အားနည်းသူအား နှိပ်စက်ကြသောကြောင့်ဖြစ်သည်။ ၎င်းတို့သည် အထူးသဖြင့် လူသားတို့နှင့်နှိုင်းစာလျှင် ကုသိုလ်ကောင်းမှုပြုရန် အခွင့်အလမ်း အမှန်ပင် နည်းပါးကြသည်။ ဗုဒ္ဓဝါဒအလိုအရ ကောင်းသောအလုပ်သည်သာလျှင် ဒုက္ခလောကမှ လွတ်မြောက်စေနိုင်သည်[၁၄၉]။

ပေတဟူသောဝေါဟာရသည် အစိမ်းသူရဲ ပြိတ္တာကိုဆိုလိုသည်။ 'ခွဲခွာသူများ သို့မဟုတ် သေသူများ၏ဝိညာဉ်'ဟုလည်း အဓိပ္ပာယ်ရသည်။ 'ဆာလောင်မွတ်သိပ်သည့် တစ္ဆေများ'ဟုလည်း ဘာသာပြန်ကြသည်။ ပြိတ္တာများသည် အတိတ်ဘဝအကုသိုလ်ကံကြောင့် ကြီးမားသည့် ဆာလောင်မွတ်သိပ်ခြင်းဖြင့် နှိပ်စက်ခံနေရသော သတ္တဝါများဖြစ်သည်။ ၎င်းတို့အနေဖြင့် ကုသိုလ်အမျှပေးဝေ၍ လူသားတို့ထံမှ အကူအညီမရမချင်း ကံကြောင့်ဖြစ်သော ဆင်းရဲဒုက္ခမှ သက်သာရာမရနိုင်ပေ။ ပြိတ္တာတို့မှာ ဘုံဌာနသီးခြားမရှိပေ။ ၎င်းတို့သည် လူ့ဘုံဌာနတွင် နေထိုင်ကြသော်လည်း သာမန်အားဖြင့် လူသားတို့က ၎င်းတို့ကို မမြင်နိုင်ကြပေ။ သစ်တော၊ လွင်ပြင်၊ သုသာန် သို့မဟုတ် သမုဒ္ဒရာတို့တွင် နေထိုင်ကြသည်။ ပုံစံအမျိုးမျိုးရှိပြီး အစားအစာမျိုးစုံ ဥပမာ လူတို့စွန့်ပစ်အစားအစာများ၊ အညစ်အကြေးများ၊ နှပ်၊ ပြည် စသည်ကို စားသောက်ကြသည်။ အချို့မှာ အစားအသောက်များစွာ စားသောက်ကြရသော်လည်း ဆာလောင်မွတ်သိပ်မှုမှ သက်သာရာမရနိုင်ဘဲရှိကြသည်။ သို့ဖြစ်၍ ၎င်းတို့ကို ဆာလောင်မွတ်သိပ်တစ္ဆေများဟု ခေါ်ဝေါ်ခြင်းဖြစ်သည်။ ၎င်းတို့သည် မိမိကိုယ်တိုင်ဖော်ပြလိုခြင်းမရှိလျှင် လူသားတို့က မမြင်နိုင်ကြပေ။ ခြွင်းချက်မှာ ဒိဗ္ဗစက္ခုအဘိညာဏ်ရသူ တန်ခိုးရှင်များသည် အချို့မရွေး တိစ္ဆေများကို မြင်နိုင်စွမ်းရှိသည်[၁၅၀]။ မဇ္ဈိမနိကာယ်၊ ဒေဝဒူတသုတ်တော်အရ သေမင်းဟုထင်ရှားသော ယမမင်းသည် ပြိတ္တာဘုံတွင် နေထိုင်သူဖြစ်သည်။ ယမမင်းကား ပြိတ္တာတို့၏ ဘုရင်အဖြစ်လည်း ထင်ရှားသည်[၁၅၁]။

ဗုဒ္ဓဝါဒအလိုအရ အသူရာဟူသည်လည်း နိမ့်ကျသည့် လောကတွင်နေထိုင်ကြလျက် ကြောက်ရွံ့ထိတ်လန့်ဖွယ် မကောင်းသော သတ္တဝါများဖြစ်ကြသည်။ ၎င်းတို့၏ ဘုံဌာနကိုလည်း အပါယ်လေးဘုံ၌ ထည့်သွင်းသည်။ အသူရကာယ ဟူသော ဝေါဟာရကို နတ်ဘီလူး နတ်ဆိုးများဟု ဘာသာပြန်လေ့ရှိကြသည်။ အချို့အသူရာများသည် မကောင်းသော ရည်ရွယ်ချက်ဖြင့် ၎င်းတို့၏တန်ခိုးကို အသုံးပြုကြသည်။ တစ်ခါတစ်ရံ အပါယ်ဘုံကို သုံးဘုံအနေဖြင့် ရေတွက်သောအခါ အသူရာတို့ကို ပေတဘုံ၌ ထည့်သွင်းကြသည်။ ပါဠိစာပေတို့၌ တစ်ခါတစ်ရံတွင် အပါယ်သုံးဘုံအဖြစ်ဖော်ပြပြီး ယင်းသို့ဖော်ပြသောအခါ အသူရာတို့ကို ပေတဘုံ၌ ထည့်သွင်းကြသည်။ အသူရာအမျိုးမျိုးရှိသည်။ အချို့အသူရာများမှာ မြစ်တွင်နေထိုင်ကြသည်။ အချို့မှာ သမုဒ္ဒရာ အချို့ တောတောင်များတွင် နေထိုင်ကြသည်။ သို့တစေ မြင်းမိုရ်တောင်ခြေ၌ နေထိုင်ကြသော အသူရာများမှာမူ ဗုဒ္ဓဝါဒ၌ အသူရာများအဖြစ် ပို၍အသိများသည်။ အကြောင်းမူ ယင်းအသူရာများသည် တာဝတိံသာနတ်ပြည်ရှိ သိကြားမင်းအား စစ်ထိုးဖူးသောကြောင့်ဖြစ်သည်။ ထေရဝါဒဗုဒ္ဓစာပေအရ တာဝတိံသာနတ်တို့က အသူရာတို့ကို တာဝတိံသာနတ်ပြည်မှ မြင်းမိုရ်တောင်အောက်ခြေသို့ မောင်းမချနိုင်မီအထိ အသူရာတို့သည် တာဝတိံသာနတ်ပြည်အား ပိုင်ဆိုင်ဖူးသည်။ သို့ဖြစ်၍ အသူရာတို့သည် အမှန်အားဖြင့် နတ်တို့နှင့်တူပုံရသော်လည်း ၎င်းတို့ကို နတ်အဖြစ်မယူဆကြချေ။ ထို့ကြောင့် ဖော်ပြပြီးသတ္တဝါတို့အား အပါယ်ဘုံ၌ ထည့်သွင်းကြခြင်းဖြစ်သည်[၁၅၂]။ ဗုဒ္ဓ၏ဟောကြားချက်အရ ငရဲဘုံ၌ ဆင်းရဲဒုက္ခများစွာကို သိမြင်ကြခြင်း၌ ပထမတွင် သတ္တဝါတို့သည် မိမိကိုယ်တိုင် သက်သောင့်သက်သာ ပျော်ရွှင်နိုင်စေရန် နတ်လောက၌ မွေးဖွားလိုကြပြီး ယင်းနောက်၌ နိဗ္ဗာန်သို့ ရောက်ရှိလိုကြသည်။

**သုဂတိဘုံ တည်ရှိခြင်း**

---

[၁၄၉] Ab-B-T, 292.

[၁၅၀] Ibid, 292-293.

[၁၅၁] Ma-N-NT, 1029-1033.

[၁၅၂] Ab-B-T, 292-293.

လူ့ဘုံနှင့် နတ်ပြည်လောကကို သုဂတိဘုံအဖြစ် ရေတွက်သည်။ **သုဂတိ** ဟူသည် ပျော်ရွှင်ဖွယ်ဘဝသက်တမ်း (ကောင်းသော လားရာ) ဖြစ်ပြီး **ဘူမိ** ဟူသည် ဘုံဌာနဖြစ်သည်။ လူ့ဘုံသည် ကာမသုဂတိ ခုနစ်ဘုံ၌ ပါဝင်သည်။ လူသားတို့သည် အပါယ်ဘုံသားများနှင့် နှိုင်းစာသော် များစွာသော ပျော်ရွှင်ခံစားမှုတို့ကို ပိုင်ဆိုင်ကြသည်။ အမှန်သော် လူ့ဘုံသည် သုခနှင့်ဒုက္ခ ရောနေသော ဘုံဌာနဖြစ်သည်။ ဗုဒ္ဓဝါဒီတို့သည် စကြဝဠာဘုံဌာနတွင် ဒုက္ခကိုမည်သို့ရှောင်ရမည်၊ အခါအားလျော်စွာ နှစ်သက်ပျော်ရွှင်မှုကို မည်သို့ရနိုင်သည်ဟူသော မိမိတို့၏ အခြေအနေကို သိနားလည်ကြသည်။ တစ်ဖန် ၎င်းတို့သည် လောကီပျော်ရွှင်မှုနှင့် လောကုတ္တရာပျော်ရွှင်မှု (နိဗ္ဗာန်ချမ်းသာ)ကို ရနိုင်ခွင့်ရှိကြသည်။ ထို့ပြင်လည်း ၎င်းတို့သည် စိတ်ပိုင်းဘဝ ပွားများကျင့်ကြံခြင်း (ဘာဝနာ)၊ စိတ်ထဲ၌ စွဲမြဲထားခြင်း (ပဏိဟိတ)နှင့် ခိုင်မြဲသော ဆုံးဖြတ်ချက် (အဓိဋ္ဌာန) တို့ဖြင့် ဗုဒ္ဓအဖြစ်ကိုပင် ရရှိနိုင်ကြသည်။ လူ့လောကသည် ကောင်းမှုကုသိုလ်ကို လေ့ကျင့်အားထုတ်ရန် အခွင့်အလမ်းများစွာရှိသောကြောင့် အလိုရှိရာဘုံဌာနတိုင်းသို့ သွားရောက်ရန် တံခါးနှင့် ပမာတူသည်။ ဗုဒ္ဓဝါဒရှုထောင့်မှ နတ်ပြည်ဟူသည် ပျော်ရွှင်နှစ်သက်ဖွယ်ဘုံဌာနဖြစ်သည်[၁၅၃]။

နတ်ဘုံသားများသည် သမုဒ္ဒရာအထက် သို့မဟုတ် လူ့ဘုံအထက်နေရာတို့တွင် ဖြစ်ဖွယ်ရှိသည့် မြင်းမိုရ်တောင်၏ တစ်စိတ်တစ်ဒေသတွင်ရှိသော ဘုံဌာနကိုယ်စီ၌ နေထိုင်ကြသည်။ မြင်းမိုရ်တောင်ကို တောင်ခုနစ်ခုဖြင့် ပတ်ရံထားသည်။ နတ်မင်းကြီးလေးယောက်တို့နေထိုင်ရာဘုံဌာနအပါအဝင် ကာမနတ်ဘုံများဟုခေါ်သည့် အဆင့်မြင့်နတ်ဘုံ ခြောက်မျိုးရှိသည်။ နတ်ဘုံသားတို့သည် လူ့ဘုံသားတို့ထက် ပိုမိုသက်တမ်းရှည်ပြီး ကာမစည်းစိမ်လည်း ပို၍များပြားသည်။ သို့တစေ ယင်းနတ်တို့ပိုင်ဆိုင်သည့်အရာအားလုံးလည်း မတည်မြဲသောအရာများဖြစ်ကြသည်။ နတ်ပြည်ဘုံများအနက် အနိမ့်ဆုံးမှာ စာတုမဟာရာဇိကဟုခေါ်သည့် နတ်မင်းကြီးလေးယောက်နေထိုင်သည့် ဘုံဖြစ်သည်။ ယင်းသည် အဆိုပါနတ်မင်းကြီးလေးယောက်တို့ ၎င်းတို့၏ အစေအပါးများနှင့်အတူ နေထိုင်သည့် နေရာဖြစ်သည်။ ထေရဝါဒအစဉ်အလာအရ ယင်းနတ်မင်းကြီးလေးယောက်တို့၏ သက်တမ်းသည် နတ်သက်တမ်းအားဖြင့် ၅၀၀ (နတ်သက်နှစ်) ဖြစ်သည်[၁၅၄]။

ဝိဘင်းအဋ္ဌကထာတွင် စာတုမဟာရာဇိကနတ်တို့၏ တစ်ရက်သည် လူသားတို့၏နှစ်ငါးဆယ်နှင့် ညီမျှကြောင်း အဋ္ဌကထာဆရာကဖော်ပြသည်။ ဒုတိယဖြစ်သည့် တာဝတိံသာနတ်ဘုံတွင် နတ်တို့၏ တစ်ရက်သည် လူ့သက်တမ်း နှစ်ပေါင်းတစ်ရာဖြစ်သည်။ တတိယ ယာမာဘုံတွင် နှစ်ရာ၊ တုသိတာဘုံတွင် နှစ်ပေါင်းလေးရာ စသည်ဖြစ်သည်။ ဗုဒ္ဓဝါဒီတို့က ဗုဒ္ဓဖြစ်လာမည့် ဘုရားလောင်းသည် တုသိတာနတ်ဘုံ၌ နေထိုင်လျက်ရှိသည်ဟု ယုံကြည်ကြသည်။ ယင်းသို့ဖြင့် နတ်ပြည်ခြောက်ထပ်၏ သက်တမ်းကို ခြားနားစွာ ရေတွက်သည်။ ဥပမာအားဖြင့် စာတုမဟာရာဇ် နတ်သက်မှာ နှစ် ၅၀၀ ဖြစ်သဖြင့် နတ်မင်းကြီးလေးယောက်တို့၏ သက်တမ်းသည် လူတို့၏သက်တမ်းအားဖြင့် နှစ်ပေါင်း ၉ သန်းနှင့် ညီမျှသည်။ (နတ် ၁ ရက် = လူ နှစ်ငါးဆယ်။ ၁ နှစ် = ၃၆၀ ရက်။ နတ် ၅၀၀ နှစ် = လူ နှစ်ပေါင်း ၉,၀၀၀,၀၀၀)[၁၅၅]။

နတ်တို့နှင့်ပတ်သက်၍ ဩပပါတိကသတ္တဟုထင်ရှားပြီး အမှန်ပင်တန်ခိုးရှိသော သတ္တဝါအဖြစ် ယုံကြည်ကြသည်။ ဩပပါတိက ဟူသည် စာပေအရ 'ကိုယ်ထင်ရှား မွေးဖွားသူ' ဟုအဓိပ္ပာယ်ရပြီး သတ္တဟူသည် သက်ရှိသတ္တဝါဖြစ်သည်။ ယင်းသတ္တဝါတို့သည် ယင်းတို့၏ဘုံဌာန၌ မိဘဟူသောအကြောင်းတရား တစ်နည်း အမိဝမ်း၌ကိန်းခြင်းမရှိဘဲ မွေးဖွားသောသတ္တဝါများဖြစ်ကြောင်း ဆိုလိုသည်။ ဗုဒ္ဓဝါဒကျမ်းဂန်တို့၌ မှတ်တမ်းတင်ထားချက်အရ ယင်းသို့သော မွေးဖွားခြင်းမျိုးမှာ နတ်ပြည်ခြောက်ထပ်လုံး၌ ထင်ရှားသည်။ ယေဘုယျအားဖြင့် အမိဝမ်း၌ သန္ဓေနေ၍မွေးဖွားခြင်း (ဇလာဗုဇ)၊ ဥမှမွေးဖွားခြင်း (အဏ္ဍဇ)၊ အစိုဓာတ်မှမွေးဖွားခြင်း (သံသေဒဇ)နှင့် ကိုယ်ထင်ရှားမွေးဖွားခြင်း (ဩပပါတိက)ဟူ မွေးဖွားနည်း လေးမျိုးရှိသည်[၁၅၆]။ နတ်ဘုံသားတို့သည် နတ်ပြည်တွင် သတ္တဝါများအဖြစ် ချက်ချင်းမွေးဖွားကြသောကြောင့် နတ်သားတို့မှာ အသက်နှစ်ဆယ်အရွယ်၊ နတ်သမီးတို့မှာ အသက်ဆယ့်ခြောက်နှစ်အရွယ်ဖြင့် မွေးဖွားကြသည်။ ယင်း သို့မွေးဖွားခြင်းမှာ နတ်ပြည်ခြောက်ထပ်ရှိ နတ်ဘုံများအားလုံး တူညီကြသည်။ ၎င်းတို့ကိုယ်တိုင် ဖြည့်ကျင့်ခဲ့သော ကုသိုလ်ကံကြောင့် အရာခပ်သိမ်းမှာ ထူးခြားဆန်းပြားကြသည်။ ၎င်းတို့သည် အရာခပ်သိမ်း ငြီးငွေ့ဖွယ်မရှိဘဲ ကြီးကျယ်သည့် ပျော်ရွှင်မှုများရှိကြလျက် ကိုယ်ပိုင်နတ်ဘုံဗိမာန်များတွင် နတ်အစားအစာ နတ်တို့၏ကာမဂုဏ်စည်းစိမ်၊ နှစ်သက်ဖွယ် ဥယျာဉ်များဖြင့် စံစားကြရသည်[၁၅၇]။

---

[၁၅၃] Ibid, 294.

[၁၅၄] Ibid, 294-295.

[၁၅၅] Ac-Ab, 196-197.

[၁၅၆] Ibid, 256.

[၁၅၇] Ab-B-T, 295-296.

အခြားဘာသာတရားများကဲ့သို့ပင် ဗုဒ္ဓဝါဒသည်လည်း နတ်ဘုံ၌နေထိုင်သူများကို ဘာသာတရားရှုထောင့်မှ နှစ်သက်ဖွယ်အကောင်းဆုံးသတ္တဝါများ အဖြစ်ဖော်ပြကြသည်။ သို့ရာတွင် ယင်းသတ္တဝါများကို လူသားတို့အနေဖြင့် မမြင်နိုင်သေးဘဲရှိသည်။ ယင်းနတ်ဘုံသားများလည်း အခြားသတ္တဝါများနည်းတူပင် ဘဝ၏အခြေအနေများမှ မလွတ်ကင်းနိုင်ချေ။ အကယ်၍ ဘဝတစ်ခု၏အစသည် မွေးဖွားခြင်းနှင့် စတင်ခဲ့မည်ဆိုလျှင် ယင်းဘဝတစ်ခု၏အဆုံးသည် သေခြင်းဖြင့်အဆုံးသတ်သည်။ သေခြင်းသဘာဝသည် သတ္တဝါအားလုံးတို့အတွက် မနှစ်သက်အပ်သော အခြေအနေဖြစ်သည်မှာ ထင်ရှားသည်။ ဝိုကြွေးခြင်း၊ မြည်တမ်းခြင်း၊ ဆွေးမြေ့ခြင်းနှင့် ကွဲကွာခြင်းကား သေခြင်း၏အကျိုးဆက်တို့ဖြစ်သည်။ နတ်ဘုံဘဝသည်လည်း သေခြင်းဒုက္ခနှင့် ဖွဲ့ချည်ထားပြီး ပြန်လည်မွေးဖွားမှု မသေချာသဖြင့် ယင်းနတ်ဘဝ၌လည်း အားရဖွယ်မရှိနိုင်ကြောင်း သိမြင်ကြသဖြင့် နိဗ္ဗာန်အလိုရှိသူ ဗုဒ္ဓဝါဒီတို့မှာ နိဗ္ဗာန်သို့သာ ရောက်ရှိလိုကြသည်။ သို့ဖြစ်၍ ဗုဒ္ဓဝါဒီတို့အနေဖြင့် နတ်ဘုံသားတို့သည် အိုခြင်း၊ နာခြင်းနှင့် သေခြင်းမှ မလွတ်မြောက်နိုင်ကြသဖြင့် နတ်ဘုံဘဝကိုလည်း စိတ်မဝင်စားဘဲရှိကြသည်။

သို့တစေ ဗုဒ္ဓဝါဒီတို့သည် စကြာဝဠာဖွဲ့တည်ပုံနှင့် ဘုံဌာနအကြောင်းကို ရံဖန်ရံခါ ပြောဟောကြသည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ဗုဒ္ဓဝါဒကျမ်းဂန်များ၌ ကမ္ဘာမြေပေါ်မှာ၊ ငရဲမှာ သို့မဟုတ် နတ်ဘုံဗိမာန်များမှာ ထူးခြားဆန်းပြားပြီး ဉာဏ်မမီနိုင်သော သတ္တဝါများ နေထိုင်လျက်ရှိကြကြောင်း ဖော်ပြသည်။ ထို့ပြင် ဗုဒ္ဓဝါဒသည် ဟိန္ဒူဝါဒကဲ့သို့ပင် ဗြဟ္မာဘုံတည်ရှိမှုကို လက်ခံသော်လည်း ယင်းသည် အခြားရှုထောင့်တစ်မျိုးနှင့် ပတ်သက်သည်။ ရူပဗြဟ္မာများနှင့် အရူပဗြဟ္မာများမှာ ဈာန်တရားကို အားထုတ်သူများအတွက်ဖြစ်သည်။ ဈာန်တရားကို ရရှိသူများသည် ၎င်းတို့ရရှိသည့်ဈာန်အလိုက် ရူပဗြဟ္မာဘုံမှာဖြစ်စေ၊ အရူပဗြဟ္မာဘုံမှာဖြစ်စေ မွေးဖွားလိမ့်မည်ဖြစ်သည်။ ဗုဒ္ဓဝါဒဂိုဏ်းကွဲများအလိုအရ ယင်းဘုံဌာနတို့၌ နေထိုင်ကြသူများလည်း လောဘနယ်ပယ်အတွင်း၌ပင် ရှိကြဆဲဖြစ်သည်။ သို့တစေ ယင်းဘုံတို့၌ နေထိုင်ကြသူများမှာ ဈာန်သမာပတ်တို့၏အစွမ်းကြောင့် ကာလကြာမြင့်စွာ ကာမဂုဏ်အာရုံမှ ကင်းဝေးနေကြသဖြင့် ယင်းရူပဘုံတို့ကို ကာမဘုံဟု မခေါ်ကြချေ။ ရူပဘုံကို ပထမဈာန်မှ စတုတ္ထဈာန်တိုင်အောင်သော ဈာန်တို့ကိုအခြေပြု၍ လေးမျိုးခွဲခြားထားသည်။ ဈာန်ဘုံတိုင်းတွင် သုံးဘုံစီပါရှိပြီး စတုတ္ထဈာန်၌မူ ငါးဘုံပါဝင်သည်။ ဗုဒ္ဓဝါဒရှုထောင့်အရ ဗြဟ္မာတို့သည် ၎င်းတို့ရရှိသော ပထမဈာန်မှသည် ရှစ်ခုမြောက် (နေဝသညာနာသညာယတန) ဈာန်တိုင်အောင် ဈာန်အဆင့်အတန်းအလိုက်ဖြစ်သည့် ဘုံဌာများတွင် နေထိုင်ကြသည်[၁၅၈]။

အနန္တစကြာဝဠာတွင် သတ္တဝါအချို့မှာ အမှန်ပင် စိတ်ကူးယဉ်တွေးတောမှု၏ တစ်ဖက်တွင်ရှိသည်။ လူတို့သည် များသောအားဖြင့် သက်ရှိသတ္တဝါတို့ကို ရုပ်သွင် ပုံသဏ္ဌာန်ရှိအနေဖြင့်သာ စဉ်းစားမိကြသည်။ အကြောင်းမူ သတ္တဝါအများစုမှာ အရွယ်အစားအမျိုးမျိုးနှင့် ပုံသဏ္ဌာန်အမျိုးမျိုးရှိကြသောကြောင့်ဖြစ်သည်။ သို့တစေ ယခုဖော်ပြမည့် ဗြဟ္မာတို့မှာ ပုံသဏ္ဌာန်မရှိသဖြင့် ၎င်းတို့ကို အရူပဗြဟ္မာဟုခေါ်သည်။ အဆိုပါ ရုပ်သွင်မဲ့ အရူပဗြဟ္မာ့ဘုံ လေးမျိုးရှိသည်။ ယင်းတို့မှာ အကာသာနဉ္စာယတန၊ ဝိညာဏဉ္စာယတန၊ အာကိဉ္စညာတယနနှင့် နေဝသညာနာသညာတနတို့ဖြစ်သည်။ ယင်းဘုံဌာနတို့၌ မွေးဖွားရန် အရူပဈာန်နှင့်ပတ်သက်သော ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်မှုမှရလဒ်ရှိရန် လိုအပ်သည်။ ယင်းရလဒ်အသီးသီးသည် ဖော်ပြပါ သက်ဆိုင်ရာဘုံဌာနတို့၌ မွေးဖွားမှုကို ဖြစ်စေသည်။ အရူပဗြဟ္မာဘုံ၌ မွေးဖွားကြသူများမှာ ရုပ်သဏ္ဌာန် လုံးဝမရှိဘဲ နာမ်တရားမျှသာရှိသည်။ အမြင့်ဆုံး နေဝသညာနာသညာယတနဈာန်ကိုရသည့် ဗြဟ္မာများ၏ သက်တမ်းမှာ အသင်္ချေယျကပ်ပေါင်း ၈၄၀၀၀ ဖြစ်သည်[၁၅၉]။

ဗြဟ္မာ့ဘုံဌာနများနှင့် ပတ်သက်၍ ဗြာဟ္မဏဝါဒီတို့က ဗြဟ္မာဟူသည် အခြေခံအားဖြင့် ဟိန္ဒူဘာသာ၏ နတ်ဘုရားဖန်ဆင်းရှင်ဖြစ်ကြောင်း ယုံကြည်ကြသည်။ ၎င်းတို့က မဟာဗြဟ္မာဟူသည် သက်ရှိသက်မဲ့အရာခပ်သိမ်းနှင့်တကွ ဤကမ္ဘာလောကကို ဖန်ဆင်းသောကြောင့် ဤစကြဝဠာတွင် အကြီးမြတ်ဆုံးဖြစ်သည်ဟု ယူဆကြသည်။ အမှန်စင်စစ် ဟိန္ဒူဝါဒလာ မဟာဗြဟ္မာအယူအဆနှင့် ဗုဒ္ဓဝါဒလာ ဗြဟ္မာဝါဒမှာ နီးစပ်စွာ တူညီမှုရှိနေသည်။ သို့တစေ ဟိန္ဒူတို့က ဗြဟ္မာအားစကြာဝဠာကို ဖန်ဆင်းသူအဖြစ် ယုံကြည်ပြီး ဗုဒ္ဓဝါဒီတို့က ဗြဟ္မာအား စကြာဝဠာကိုဖန်ဆင်းရန် စွမ်းရည်မရှိသော သာမန်ဗြဟ္မာအဖြစ်သာယုံကြည်သည်။ ဟိန္ဒူဝါဒအဖို့ ဗြဟ္မအတ္တ သို့မဟုတ် ပရမအတ္တသည် ထာဝရတည်မြဲသော်လည်း ဗုဒ္ဓဝါဒအဖို့မူ ထာဝရမပျက်မစီးတည်မြဲသော ဗြဟ္မာ့လောကရှိ ဗြဟ္မာဟူ၍မရှိချေ။ ထို့ထက် ဟိန္ဒူတို့အဖို့ ဘာသာတရားဆိုင်ရာလွတ်မြောက်မှု၏အဓိပ္ပာယ်မှာ ပုဂ္ဂိုလ်အသီးသီး၏ ဇီဝအတ္တသည် ပရမအတ္တနှင့် ညီညွတ်ပေါင်းစည်းမှုကို ရရှိသွားသည်ထိ စင်ကြယ်သွားခြင်းဖြစ်သည်။ ဗုဒ္ဓဝါဒီတို့၏ ဘာသာတရားဆိုင်ရာ လွတ်မြောက်မှုမှာ သန္တိသုခနိဗ္ဗာန်ကို ရရှိရန်ဖြစ်

---

[၁၅၈] Ab-S, 78-79.
[၁၅၉] Ac-Ab, 199.

သည်[၁၆၀]။ ပြဟ္မာ့ဘုံသို့ရောက်ရှိရန်မှာ ဟိန္ဒူတို့အဖို့ နောက်ဆုံးရည်မှန်းချက်ဖြစ်ပြီး ဗုဒ္ဓဝါဒီတို့အဖို့မူ နိဗ္ဗာန်သို့ရောက်ရန်မှာ နောက်ဆုံး ပန်းတိုင်ဖြစ်သည်။ သို့ရာတွင် နောက်ထပ် အချေအတင် ဆွေးနွေးဖွယ်တစ်ရပ်မှာ နိဗ္ဗာန်ကို ရရှိပြီးသူတို့ သေလွန်ပြီးနောက် မည်သို့ဖြစ်သွားသနည်းဟုဖြစ်သည်။ ဤအချက်ကို အခန်းလေးတွင် အသေးစိတ်ဆွေးနွေးမည်ဖြစ်သည်။

**အသက်ရှင်ခြင်းနှင့် သေခြင်းတို့၏ အကျိုးဆက်များ**

ပါဠိတော်ကျမ်းဂန်များ၌ အသက်ရှင်ခြင်းနှင့် သေခြင်း၊ သေခြင်းနှင့် ပြန်လည်မွေးဖွားခြင်း၊ ကမ္မသတ္တိနှင့် ယင်း၏အကျိုးဆက်တို့ ဆက်နွယ်မှုရှိကြောင်း ရှင်လင်းစွာဖော်ပြသည်။ အဘိဓမ္မာအလိုအရ ပဋိသန္ဓေစိတ်၊ ဘဝင်စိတ်နှင့် စုတိစိတ်တို့မှာ တစ်ခုသောဘဝတွင် အချင်းချင်းဆက်နွယ်တူညီမှုရှိသည်။ သို့တစေ ကမ္မဖြစ်စဉ်ခြားနားမှုကြောင့် ဤဘဝပဋိသန္ဓေစိတ်သည် နောက်ဘဝပဋိသန္ဓေစိတ်နှင့် ထပ်တူညီဖြစ်လိမ့်မည်မဟုတ်ချေ။ သို့တိုင်အောင် ကမ္မသတ္တိသည် နောက်ဘဝပဋိသန္ဓေစိတ်ကို ဦးဆောင်ပဲ့ကိုင်လိမ့်မည်ဖြစ်သည်။ ဤကိစ္စ၌ ကမ္မသတ္တိ၏လုပ်ဆောင်မှုကို (ထပ်ဆင့်) ပဲ့ကိုင်ထိန်းကျောင်းပေးသည့် ပုဂ္ဂိုလ် (တန်ခိုးရှင်)မရှိဘဲ ယင်းကမ္မသတ္တိသည်သာ ဦးဆောင်သည်။ ယင်းကို ကမ္မနိယာမဟုခေါ်သည်။ ကမ္မနိယာမနှင့် ပတ်သက်၍ ထင်ရှားသည့် ကံလေးမျိုးရှိသည်။ နောက်ဘဝတွင် ပဋိသန္ဓေကိုဖြစ်ပေါ်စေမှုအတွက် အဓိကဖြစ်သည့် ကမ္မဖလဖြစ်စဉ်ကို လည်ပတ်စေသော ထင်ရှားသည့် ကံလေးမျိုးဖြစ်သည်[၁၆၁]။

> ပဋိသန္ဓိဘဝင်္ဂ၊ တထာ စဝနမာနသံ။
> ဧကမေဝ တထေဝေက၊ ဝိသယဉ္စေကဇာတိယံ[၁၆၂]။
> ပဋိသန္ဓေစိတ်၊ ဘဝင်စိတ်နှင့် စုတိစိတ်တို့သည် တစ်ခုသောဘဝ၌ တူညီပြီး တူညီသောအာရုံရှိကြသည်[၁၆၃]။

ကမ္မသတ္တိ အယူအဆအရ ယင်းကံလေးမျိုးတို့သည် ၎င်းတို့ခံစားရမည့် အတိတ်ကဖန်တီးခဲ့သော အပြုအမူများ၏ အကျိုးပေးနိုင်ခြေအပေါ် တည်မှီလျက် ပေါ်ထွက်လာမည်ဖြစ်သည်။ ယင်းအတိတ်ပြုပြင်မှုများ၏ အကျိုးဆက်သည် နောက်ဘဝတွင် ပဋိသန္ဓေစိတ်ဖြစ်ပေါ်အောင်ပဲ့ကိုင်ပေးသော ကမ္မနိယာမကို အင်အားတိုးမြှင့်ပေးသည့်ကဏ္ဍမှ ပါဝင်ဆောင်ရွက်သည်။ ကံလေးမျိုးမှာ ၁) ကြီးလေးသောကံ (ဂရုကံ) ၂) သေခါနီးကံ (အာသန္နကံ) ၃) အလေ့အကျင့်များသည့်ကံ (အာ စိဏ္ဏကံ)နှင့် ၄) ဖော်ပြပြီး သုံးမျိုးမှတစ်ပါးသောကံ (ကဋတ္တာကံ)တို့ဖြစ်သည်။ ယင်းလေးမျိုးအနက် ပထမဆုံးကံမှာ အာနိသင်အပြင်းထန်ဆုံးဖြစ်ပြီး ယင်း၏ကိစ္စမှာ ကမ္မနိယာမအကျိုးပေးမှုကဏ္ဍစဉ်အရ ပထမဆုံးနေရာ၌ ပါဝင်သည်။ ယင်းကမ္မနိယာမသည် နောက်(ဒုတိယ)ဘဝ၌ ပဋိသန္ဓေစိတ်ဖြစ်ပေါ်အောင် ဆောင်ရွက်သည်။ သို့ရာတွင် အကယ်၍ ပထမကံအားနည်းခဲ့သော် ဒုတိယအမျိုးအစားကံစသည်က ပဋိသန္ဓေစိတ်အစဉ်ဖြစ်ပေါ်အောင် ဆောင်ရွက်လိမ့်မည်ဖြစ်သည်။ ယင်းဖြစ်စဉ်တွင် ဂရုကံသည် အခြားကံများ ပဋိသန္ဓေအကျိုးမပေးနိုင်သည်အထိ စွမ်းအား အာနိသင်ကြီးလေးသည်။ ဂရုကံကို ကုသိုလ်ဂရုကံနှင့် အကုသိုလ်ဂရုကံဟု နှစ်မျိုးခွဲခြားနိုင်သည်။ ကုသိုလ်အရာတွင် ဈာန်စိတ်ကိုရပြီးပါက ဂရုကံဟုယူပြီး အကုသိုလ်အရာတွင် အနန္တရိယကံငါးမျိုးနှင့် ကိုယ်ကျင့်တရားကို ငြင်းဆိုသော နိယတမိစ္ဆာဒိဋ္ဌိတို့ဖြစ်သည်။ ရှေ့တွင်ဖော်ပြပြီးဖြစ်သည့် ဒေဝဒတ္တ၏ဖြစ်ရပ်သည် ဤနေရာ၌ စံနမူနာဖြစ်သည်[၁၆၄]။

ဂရုကံ၏စွမ်းရည် မရှိခဲ့သော် အာသန္နကံသည် ပဋိသန္ဓေစိတ်ဖြစ်ပေါ်လာရေးအတွက် ဆောင်ရွက်မည်ဖြစ်သည်။ အာသန္နကံသည် ယင်း၏ကိစ္စကို မည်သို့ဆောင်ရွက်သနည်း။ အချိန်တိုတောင်းစွာ သို့မဟုတ် မသေမီကလေးတွင် ပြုလုပ်သော အပြုအမူများသည် နောက်ဘဝတွင်ဖြစ်မည့် ပဋိသန္ဓေစိတ်နှင့် ဆက်သွယ်ရန် နောက်ဆုံးစိတ် သို့မဟုတ် စုတိစိတ်အတွက် ဒုတိယဦးစားပေးနေရာတွင် ဆောင်ရွက်မည်ဖြစ်သည်။ တစ်ဘဝလုံး မကောင်းမှုများကို လုပ်လာသူတစ်ယောက်သည် ကံကောင်းစွာ မသေမီကလေးကမှ ပြုလုပ်သော ကုသိုလ်ကောင်းမှုကို သတိရဆင်ခြင်မိသည်ဆိုပါစို့။ ယင်းကုသိုလ်ကောင်းမှုသည် သုဂတိဘဝသို့ ရောက်ခွင့်ပိုသာလာအောင် စွမ်းဆောင်ပေးနိုင်သည်။ ထိုအကြောင်းကြောင့် ဗုဒ္ဓဝါဒအစဉ်အလာတွင် သေခါနီးပုဂ္ဂိုလ်တစ်ယောက်အား ၎င်းပြုလုပ်ခဲ့သော ကုသိုလ်ကောင်းမှုကို သတိပေး၍ကူညီသည့် အလေ့အထရှိသည်။ သို့တည်းမဟုတ် ကုသိုလ်အတွေးများ ပေါ်လာစေရန် ပရိတ်တရားများ နာယူစေခြင်းဖြင့် သေခါနီးပုဂ္ဂိုလ်

---

[၁၆၀] Lal Mani Joshi, *Brahmanism Buddhism and Hinduism* (Kandy, Sri Lanka: Buddhist Publicaton, 1987) 52-63.
[၁၆၁] Ab-S, 81.
[၁၆၂] Ibid, 81.
[၁၆၃] Ac-Ab, 199.
[၁၆၄] Ab-S, 81; Ac-Ab, 201-205.

ကို အားပေးလေ့ရှိကြသည်။ သို့တည်းမဟုတ် သေခါနီးပုဂ္ဂိုလ်အနေဖြင့် တရားဘာဝနာအားထုတ်ခဲ့ဖူးသူဖြစ်ဘိမူ ၎င်း၏ နောက်ဆုံးအချိန်တွင် ငြိမ်းချမ်းသည့်စိတ်ကို တိုးတက်စေနိုင်ရန် ကမ္မဋ္ဌာန်းရှုမှတ်ရန် တိုက်တွန်းကြသည်[၁၆၅]။

အမှန်စင်စစ် ဘာသာတရားလိုက်စားသူများသည် ၎င်းတို့၏ ဘာသာရေးဘဝတွင် ပုံမှန်အားဖြင့် အာစိဏ္ဏကံကု သိုလ်ပြုလုပ်ရန် နှစ်သက်ကြသည်။ အကြောင်းမူ သာမန်ပုဂ္ဂိုလ်တစ်ယောက်အဖို့ အာစိဏ္ဏကံကုသိုလ်သည် သုဂတိဘဝ တွင် ဆက်လက်၍ စိတ်ပိုင်းဘဝတိုးတက်မှုရရှိနိုင်ရန် ပိုမိုအားကိုးရသောကြောင့်ဖြစ်သည်။ အာစိဏ္ဏကံဟူသည်ကား အလေ့အကျင့်ပြု၍ ကျင့်ကြံအားထုတ်ရသောကံမျိုးဖြစ်သည်။ ဂရုကံနှင့် အာသန္နကံတို့ အကျိုးပေးခွင့်မကြုံခဲ့မူ ဤ အာစိဏ္ဏကံက အကျိုးပေးမည်ဖြစ်သည်။

နောက်ဆုံး ကဋတ္တာကံဟူသည် ဖော်ပြပြီးသုံးမျိုးတွင် မပါဝင်သော အခြားပြုလုပ်ဆောင်ရွက်မှုအားလုံး ပါဝင်သည့် ကံဖြစ်သည်။ ဆိုလိုသည်မှာ ဖော်ပြပြီးကံသုံးမျိုးဖြင့် မရေတွက်အပ်သော၊ သို့သော် ပဋိသန္ဓေစိတ်ဖြစ်ပေါ်ရေးကို ဆောင် ရွက်ရန် လုံလောက်သည့် ဖြစ်နိုင်ခြေရှိသော မည်သည့်ပြုလုပ်မှုမျိုးမဆိုကို ရည်ရွယ်သည်။ ယင်းကဋတ္တာကံသည်လည်း ဖော်ပြပြီးသုံးမျိုး အကျိုးပေးခွင့်မရှိသောအခါ ယင်း၏ကိစ္စကို ဆောင်ရွက်သည်[၁၆၆]။

ဗုဒ္ဓဝါဒသည် သေမှုဖြစ်စဉ်နှင့် သေခါနီးပုဂ္ဂိုလ်၏တွေ့ကြုံသိရှိမှုကို အထူးပြုဖော်ပြလျက် တမလွန်ဘဝကို နားလည် ရန် ကြိုးပမ်းသည်။ အဘိဓမ္မာအလိုအရ သေခါနီးပုဂ္ဂိုလ်တစ်ယောက်သည် မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်နှင့် စိတ်ဟူသော ဒွါရခြောက်ခုအနက် တစ်ခုခုဖြင့် သေသည့်အခိုက်အတံ့တွင် အောက်ပါအခြေအနေများကို တွေ့ကြုံသိရှိရလိမ့်မည်ဖြစ် သည်။ ဖြစ်နိုင်ခြေရှိသည့် အခြေအနေများမှာ -

(၁) ကံ၊ အကျိုးတရားများနှင့်အညီ သေခါနီးပုဂ္ဂိုလ်တွေ့ကြုံရမည့် နောက်ဘဝတွင် ပဋိသန္ဓေစိတ်ကို ဖြစ်ပေါ်စေ နိုင်သော ကံ သို့မဟုတ်

(၂) ကံ၏အမှတ်သင်္ကေတ (ကမ္မနိမိတ်)၊ ကံတစ်ခုကိုပြုစဉ် ယခင်က ရင်းနှီးကျွမ်းဝင်ခဲ့သော ပုံသဏ္ဌာန်စသည် သို့မ ဟုတ် ကံကိုပြုလုပ်စဉ် အသုံးအဆောင်ပစ္စည်းများ သို့မဟုတ်

(၃) ရောက်ရှိမည့်ဂတိ၏ သင်္ကေတ (ဂတိနိမိတ်)၊ မကြမီ ဘဝသစ်တွင် ရရှိခံစားရမည့် (အခြေအနေ၏ အမှတ် သင်္ကေတ) တို့ဖြစ်သည်[၁၆၇]။

အထက်ပါ ဖော်ပြချက်၌ ကမ္မနိမိတ်ဟူသည် အရာဝတ္ထုအမျိုးအစား ဥပမာ လူသတ်မှုကို ကျူးလွန်သူတစ်ယောက် အဖို့ ဓား၊ သေနတ်နှင့် ၎င်းအသုံးပြုသည့် လက်နက်ကိရိယာများ ပါဝင်သည်။ ထိုအတူပင် ကုသိုလ်ကောင်းမှုနယ်ပယ် တွင် ကုသိုလ်ကောင်းမှုပြုသည့် အရာဝတ္ထုများ ဥပမာ အစားအစာများ၊ အဝတ်အစားများ၊ ဆေးဝါးပစ္စည်းများသည် သေ သည့်အခိုက်အတံ့မတိုင်မီကလေးတွင် သေခါနီးပုဂ္ဂိုလ်၏ စိတ်ထဲ၌ ထင်မြင်လာနိုင်သည်။ ထို့ပြင် ဂတိနိမိတ်သည် သွင်ပြင် မျိုးစုံဖြင့် ပေါ်လာနိုင်သည်။ ယင်းသွင်ပြင်များအနက် မကောင်းသော ဂတိတစ်ခုကို ညွှန်ပြသည့် သွင်ပြင်ဆိုးများအဖြစ် ငရဲမီးလျှံများ၊ ထိတ်လန့်ဖွယ် ငရဲထိန်များ၊ ချောက်ချားဖွယ် ခွေးနက်ကြီးများကဲ့သို့သော နိမိတ်ဆိုးများ ပေါ်လာနိုင်သည်။ ထိုအတူ ယင်းနှင့် ဆန့်ကျင်ဘက် သွင်ပြင်များ ပေါ်လာနိုင်သည်။ လှပသည့် နတ်သားနတ်သမီးများ၊ နတ်ဥယျာဉ်များ၊ လှပသည့် ဂီတသံများကဲ့သို့သော သုဂတိဘဝတစ်ခုအတွက် မင်္ဂလာရှိသော သွင်ပြင်များဖြစ်သည်[၁၆၈]။ ယင်း နိမိတ်ဆိုး သို့မဟုတ် နိမိတ်ကောင်းများကို ဘဝတစ်ခုတွင် စုတိစိတ် (သေစိတ်) သို့ ရောက်လုဆဲ ပုဂ္ဂိုလ်များ တွေ့ကြုံသိရှိနိုင်သည်။ သို့ရာတွင် နောက်ဆုံးစုတိစိတ်မတိုင်မီ သေခါနီးပုဂ္ဂိုလ်၏ စိတ်အစဉ်ကို စုတိစိတ်ဟု မယူဆချေ။ အမှန်စင်စစ် စုတိစိတ် သည် ဘဝတစ်ခု၏ အဆုံးတွင်ဖြစ်ပေါ်ပြီး ယင်းနောက် ဘဝသစ်၌ ပဋိသန္ဓေစိတ် ပေါ်လာသည်။

သေခါနီးပုဂ္ဂိုလ်တစ်ယောက်အဖို့ သာမန်ပုထုဇ္ဇဉ်ပုဂ္ဂိုလ်ဖြစ်ဘိမူ ၎င်း၏စုတိစိတ်ဖြစ်စဉ်သည် ဘဝသစ်ကို တပ်မက်စွဲ လမ်းသည်။ ဘဝဟောင်း ကုန်ဆုံးခါနီးအချိန်တွင် ယင်းစုတိစိတ်အစဉ်နှင့် ကံသည် ပဋိသန္ဓေစိတ်အစဉ်သို့ ညွှတ်သည်။ စု တိစိတ်ကျပြီးသည်နှင့် တစ်ပြိုင်နက် ဘဝသစ်တွင် ပဋိသန္ဓေစိတ် ဖြစ်ပေါ်လာသည်။ ဤသည်မှာ စုတိစိတ်အစဉ်ဖြစ်ပေါ်ပုံ နှင့် ပဋိသန္ဓေစိတ်ဖြစ်ပေါ်ပုံကို နားလည်ရာ၌ အခြေခံအုတ်မြစ်ဖြစ်သည်။ အောက်ပါစိတ်ဖြစ်စဉ်မှာ မရဏာသန္နဝီထိ၌ စိတ်ဖြစ်စဉ်ကို အသေးစိတ်ဖော်ပြသည့် အဘိဓမ္မတ္ထသင်္ဂဟကျမ်းနှင့်အညီ စုတိနှင့်ပဋိသန္ဓေစိတ်တို့၏ဝီထိစဉ် ဖြစ်သည်[၁၆၉]။

---

[၁၆၅] Ac-Ab, 203-204.

[၁၆၆] Ac-Ab, 203-204.

[၁၆၇] Ibid, 221.

[၁၆၈] Ab-T, 188.

[၁၆၉] Ab-S, 89-92.

ဇယား ၃

မရဏာသန္နဝိထိ (သေခါနီးစိတ်ဖြစ်စဉ်)

စုတိစိတ်
အာရုံ = ကမ္မနိမိတ်နှင့် ဂတိနိမိတ် ပစ္စုပ္ပန်ရူပါရုံ        ပဋိသန္ဓေစိတ်နှင့် ဘဝသစ်
. . . . .
ပဋိ . . ဘွင် တီ န ဒ ပ စ သံ ဏ ဇ ဇ ဇ ဇ ဇ စုတိ        ပဋိ ဘွင်-၁ ဘွင်-၂ ဘွင်-၃ . . .
ဘဝဟောင်း                                        ဘဝသစ်

အတိုကောက်မှတ်ချက်။ ။ ပဋိ = ပဋိသန္ဓေစိတ်။ ဘွင် = ဘဝင်အစဉ်။ တီ = အတီတဘဝင်။ န = ဘဝင်္ဂစလန။ ဒ = ဘဝင်္ဂုပစ္ဆေဒ။ ပ = ပဉ္စဒွါရာဝဇ္ဇန။ စ = စက္ခုဝိညာဏ။ သံ = သမ္ပဋိစ္ဆန။ ဏ = သန္တီရဏ။ ဇ = ဇဝန (ဇော)။ စုတိ = စုတိစိတ်။

အဘိဓမ္မာအလိုအရ စုတိစိတ်နှင့် ပဋိသန္ဓေစိတ်တို့မှာ အလွန်နီးကပ်စွာ ဆက်စပ်နေသော်လည်း ယင်းတို့ကို တစ်ခုတည်းသောအရာအဖြစ် မရေတွက်သည့်ပြင် တရားကိုယ်သဘောအရ တစ်ခုနှင့်တစ်ခု ဆက်စပ်မှုမရှိသော်လည်း ဖြစ်စဉ်သဘောအရ တစ်ဆက်တည်းဖြစ်သည်။ ဟေတုဖလအနေဖြင့် နောက်ဘဝဆီသို့ ဘဝတစ်ခု၏ကံကို ဆောင်ကျဉ်းလျက် စုတိစိတ်အဖြစ်မှ ဘဝသစ်၌ပဋိသန္ဓေစိတ်ဖြစ်လာရန် အကျိုးဖြစ်စဉ်က ကမ္မသတ္တိအား ဆောင်ရွက်ပေးသည်။ ယင်းကြောင့် ဗုဒ္ဓဘာသာဝင်တို့သည် တမလွန်ဘဝကောင်းရေးအတွက် ကုသိုလ်ကောင်းမှု ပြုလုပ်ကြခြင်းဖြစ်သည်။ တစ်ချိန်တည်းတွင် ၎င်းတို့သည် အပါယ်လေးဘုံသို့ တစ်ဖန် မရောက်ရရေးအတွက် မိမိကိုယ်ကိုကာကွယ်ရန် မကောင်းမှုမှ ရှောင်ကြဉ်ကြသည်။ ယင်းယူဆချက်အပေါ်တွင်အခြေခံ၍ ဗုဒ္ဓဝါဒီများအဖို့ သေခါနီးပုဂ္ဂိုလ်အား ၎င်း၏ကုသိုလ်ကောင်းမှုများကို သတိပေးရန် သို့မဟုတ် ကမ္မဋ္ဌာန်းအားထုတ်ဖူးသူဖြစ်ပါက ကမ္မဋ္ဌာန်းရှုမှတ်ဖို့ တိုက်တွန်းရန်ဖြစ်စေ အရေးကြီးသည်။ ယင်းသို့ပြုရသည်မှာ ဤဘဝမှ မခွဲခွာမီ နောက်ဆုံးအခိုက်အတံ့၌ စိတ်ငြိမ်းချမ်းမှု ရရှိရေးအတွက်ဖြစ်သည်။ အမှန်စင်စစ် အသက်ရှင်ခြင်းနှင့် သေခြင်းဖြစ်စဉ်သည် လူ့ဘဝတွင် အမှန်တကယ် ထူးခြားဆန်းပြားသည့်အရာ မဟုတ်သော်လည်း လူသားတို့ မသိကျိုးကျွံပြုထားသော အစစ်အမှန်တရားတစ်ခုသာဖြစ်သည်။ ဗုဒ္ဓဝါဒရှုထောင့်အရ သေခြင်းသည် ဤပစ္စုပ္ပန်ဘဝ၏အဆုံးဖြစ်သော်လည်း (သေခြင်းကင်းရာအမတ)နိဗ္ဗာန်ကို မရသေးသူဖြစ်ဘိမူ ယင်းသည် နောက်ဘဝသစ်တစ်ခု၏ အစလည်းဖြစ်သည်။

**သေခြင်းတရားကို တည်ငြိမ်စွာ ရင်ဆိုင်ခြင်း**

ဇာတိ (မွေးဖွားခြင်း)၊ ဇရာ (အိုမင်းရင့်ရော်ခြင်း) နှင့် မရဏ (သေခြင်း) သဘောတရားတို့ကား သဘာဝဖြစ်စဉ်ဖြစ်ပြီး သတ္တဝါအားလုံးတို့ ရှောင်လွှဲမရနိုင်ချေ။ သို့တစေ အနာဂါမ်၊ ရဟန္တာပုဂ္ဂိုလ်များမှတစ်ပါး သတ္တဝါအားလုံးသည် သေခြင်းတရားကို ရင်ဆိုင်ရန် စိုးရွံ့ကြပြီး ယင်းကို မကောင်းသောအရာအဖြစ် သတ်မှတ်ကြသည်။ အကြောင်းမှာ မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို မရသေးသူများမှာ သေခြင်း၏ သဘာဝအမှန်ကို နားမလည်ကြသောကြောင့် ဖြစ်သည်။ သို့ရာတွင် မြင့်မြတ်သောသေခြင်း သို့မဟုတ် စိတ်ပိုင်းဘဝရင့်ကျင့်မှုဖြင့်သေခြင်းအတွက် ပြင်ဆင်ထားသူများလည်း သေခြင်းကို ထိတ်လန့်ကြလိမ့်မည်မဟုတ်ချေ။ ဘာသာတရား အများစုမှာ ဗုဒ္ဓဝါဒနှင့်မတူဘဲ သေမှုဖြစ်စဉ်အား မိမိကိုယ်ကို အသွင်ပြောင်းလဲခြင်းအဖြစ်ဖော်ပြရန် ကြိုးပမ်းကြသည်။ ယင်းဖော်ပြချက်၌ အဆိုပါ သေခြင်းမျိုးသည် မိမိကိုယ်ကို အသွင်ပြောင်းလဲခြင်းနှင့် ပတ်သက်မှု ရှိသည်ဖြစ်စေ မရှိသည်ဖြစ်စေ စိတ်ပိုင်းဘဝရင့်ကျင့်မှုဖြင့်သေခြင်းအကြောင်း ပြောဆိုရန် များစွာမရှိချေ။ စိတ်ပိုင်းဘဝ ရင့်ကျင့်မှုဖြင့်သေခြင်းကို ဖြစ်စဉ်အဖြစ် နားလည်သင့်သည်။ အမှန်စင်စစ် စိတ်ပိုင်းဘဝရင့်ကျင့်မှုလမ်းစဉ်တိုးတက်နည်းကို သင်ယူထားပြီးသူများအဖို့ သေခြင်းတရားကို ရင်းဆိုင်ခြင်းမှာ အလွန်မထူးဆန်းချေ။ သို့တိုင်အောင် အချို့က သေခြင်းဟူသည်ကို ဝိညာဉ်၏ အသွင်ပြောင်းလဲခြင်းအဖြစ် အဓိပ္ပာယ်ဖွင့်ဆိုကြသည် -

စိတ်ပိုင်းဘဝ ရင့်ကျင့်မှုဖြင့် သေခြင်းသည် ကယ်တင်ခြင်း (အနောက်တိုင်းအလို) သို့မဟုတ် ကိုယ်တိုင်ထိုးထွင်း၍ သိမြင်ခြင်း (အရှေ့တိုင်းအလို)ကို တွေ့ကြုံသိရှိနိုင်သော ဖြစ်စဉ်တစ်ခုဖြစ်ပြီး ယင်းဖြစ်စဉ်ဖြင့် သေခြင်းတရားကို ကြောက်ရွံ့ခြင်းအား လျော့ကျစေ၏။ ဝိညာဉ်ဟောင်း (ဗုဒ္ဓဝါဒအလို သိစိတ်)သည် သေသွားပြီး ဘဝသစ်တစ်ခု ပေါ်လာသောကြောင့် စိတ်ပိုင်းဘဝရင့်ကျင့်မှုဖြင့် သေခြင်းသည် တစ်စုံတစ်ယောက်၏ သဘောထားများကို ဘဝဆီသို့ရော သေခြင်းကိုရင်ဆိုင်ခြင်းအတွက်ပါ ပြောင်းလဲသွား၏။ အဓိကအနေဖြင့် စိတ်ပိုင်းဘဝ ရင့်ကျင့်မှုဖြင့် သေခြင်းမှာ ပြန်လည်မွေးဖွားမှု နိုးကြားခြင်းအတွက် အစပျိုးခြင်းဖြစ်သည်[၁၃၀]။

သို့ရာတွင် စိတ်ပိုင်းဘဝရင့်ကျင့်မှုဖြင့် သေခြင်း၏ အဓိပ္ပာယ်ကို ဘာသာတရားရှုထောင့်မှ ယေဘုယျ သဘောတူညီချက် မရှိသေးပေ။ အကြောင်းမူ ဘာသာတရားအမျိုးမျိုးက မိမိတို့ဘာသာတရားဆိုင်ရာ စံနှုန်းများကို အခြေခံ၍ သေခြင်း၏သဘာဝကို အဓိပ္ပာယ်ကောက်ယူကြသောကြောင့် ဖြစ်သည်။ ထို့ပြင် ဘာသာတရားအသီးသီးက အသက်ရှင်ခြင်းနှင့် သေခြင်း၏ အရေးပါမှုအကြောင်းကို မိမိတို့ရှုထောင့်မှ ဖော်ပြကြသည်။

သေခြင်းတရားအမြင်တွင် တိဗက်ဗုဒ္ဓဘာသာ၌ **ဗာရ်ဒို** (*bardo*) အယူအဆဖြင့် သေခြင်းတရားဖြစ်ပေါ်ပုံကို သင်ကြားသည်။ ဗာရ်ဒို ဟူသည်မှာ **ဗာရ်** နှင့် **ဒို** ဟူသော စကားလုံးနှစ်ခု ဆက်စပ်ပုဒ်ဖြစ်သည်။ ဗာရ် ဟူသည် အကြား၊ ဒို ဟူသည် ကျွန်း သို့မဟုတ် အမှတ် ဖြစ်သည်။ ဗာရ်ဒိုအယူအဆအရ သေခြင်းနှင့် ပြန်လည်မွေးဖွားခြင်း နှစ်ခုအကြားတည်ရှိသော တွေ့ကြုံသိရှိမှု (အကြားဘဝ)တစ်ခု ရှိသည်။ ယင်းကို အောက်ပါအတိုင်း ဖော်ပြသည် -

> အတိတ်ဖြစ်သော အခြေအနေသည် ပေါ်လာပြီးခါစနှင့် အနာဂတ်ဖြစ်သော အခြေအနေသည် ဖြစ်ပေါ်မလာသေးသဖြင့် ယင်းအတိတ်နှင့် အနာဂတ်အကြား ကွက်လပ်တစ်ခုရှိ၏။ ယင်းသည် အခြေခံအားဖြင့် ဗာရ်ဒို တွေ့ကြုံသိရှိမှု (အကြားဘဝ) ဖြစ်၏။ . . . ဗာရ်ဒို အဆင့်တွင် တိုးတက်ဖြစ်ပေါ်သည့် မြင်ကွင်းများနှင့် ယင်းမြင်ကွင်းများနှင့် အတူပါလာသည့် တောက်ပသည့် အရောင်အဆင်းနှင့် အသံများမှာ သိမြင်သူ၏ မြင်ကွင်းမှတ်မှ ထိန်သိမ်းထားရန်လိုအပ်သော အခြေခံတရားတစ်မျိုးဖြင့် ပြုလုပ်သည်မဟုတ်ဘဲ ဆိတ်ငြိမ်မှုနှင့် ကင်းဆိတ်မှု သွင်ပြင်တစ်ရပ်အနေဖြင့် ဖြစ်ပျက်ရုံမျှသာ ဖြစ်၏[၁၃၁]။

ယင်းဖော်ပြချက်ကို အခြေခံလျက် ဗာရ်ဒို ဟူသည် အိပ်မက်ကဲ့သို့သော အခြေအနေတစ်ရပ်၊ ယင်းသည် မြင်ကွင်းများ စိတ်ကူးယဉ်မှုများရှိပြီး သေခါနီးပုဂ္ဂိုလ်အား နိုးထခြင်း သို့မဟုတ် ပြန်လည်မွေးဖွားခြင်းအတွက် မြင်ကွင်းတစ်ရပ်ကို ပေးအပ်ကြောင်း နားလည်ရသည်။

တိဗက်တို့ယူဆသည်နှင့်မတူဘဲ ဟိန္ဒူတို့ကမူ သေခြင်း၏သဘာဝကို အခြားနည်းတစ်မျိုးဖြင့် အဓိပ္ပာယ်ကောက်ယူကြသည်။ သေခြင်းဟူသည် အစစ်အမှန်မဟုတ်၊ ယင်းသည် လှည့်စားမှု မာယာ ဖြစ်သည်။ သေခြင်းသည် သဘာဝဖြစ်စဉ်တစ်ရပ်ဖြစ်သည်။ ခန္ဓာကိုယ်သေသော်လည်း အစစ်အမှန်ဝိညာဉ် (အတ္တမန်)သည် မသေ။ အကြောင်းမှာ ယင်းသည် အစစ်အမှန်နှင့် ထာဝရတည်မြဲပြီး မည်သည့်အကြောင်းကြောင့်မဆို ယင်း အတ္တမန်(*Atman*)ကို ဖျောက်ဖျက်ချေမှုန်း၍ မရနိုင်။ ၎င်းတို့ ယူဆပုံမှာ -

> သေခြင်း၏ လျှို့ဝှက်ချက်သည် ဟောကြားခြင်း ယဇ်ပူဇော်ခြင်းတို့ဖြင့်မဟုတ်ဘဲ ကမ္ဘဋ္ဌာန်းရှုမှတ်ခြင်းနှင့် မြင့်မြတ်ခြင်းတို့ဖြင့် နှလုံးအိမ်အတွင်း၌ ဖုံးကွယ်နေသော ပရမအတ္တကို သဘောပေါက်ရန်ဖြစ်၏။ ယင်းအဆင့်ကို နောက်ဆုံး၌ ပရမအတ္တက ရွေးချယ်သူများသာ ရောက်ရှိနိုင်၏။ 'အတ္တကို နားလည်သူသည် သေခြင်းတရားကို အဆုံးသတ်၏'ဟု ယမ (ပုဂ္ဂိုလ်)က ဆို၏။ မောက္ခ (*moksha*) ဟုခေါ်သော ယင်းနားလည်သဘောပေါက်မှုသည် ဘဝ၏ကံကြမ္မာ ထွေပြားမှုနှင့် သံသရာ (အဆုံးမဲ့ မွေး သေ ပြန်မွေးခြင်း) မှ လွတ်မြောက်စေ၏။ အတ္တကိုသိ၍ သေသူများသည် အနည်းဆုံး မွေးသေစက်ဝန်းမှ လွတ်မြောက်ပြီး ထာဝရငြိမ်းချမ်းမှုကိုရရှိ၏။ ယင်းသို့ နားလည်ပြီးသူများကား မသေသူများ ဖြစ်ကြ၏[၁၃၂]။

---

[၁၃၀] Ab-S, 89-92.

[၁၃၁] Kenneth Kramer, *The Sacred Art of Dying: How World Religions Understand Death.* (New York: Paulist Press, 1988), 22.

[၁၃၂] Kramer, 30-31.

ဟိန္ဒူဂါဒတွင် အတ္တအစစ်အမှန်ကို နားလည်၍သေသူသည် မွေးသေစက်ဝန်းမှ လွတ်မြောက်နိုင်သည်ဟု ယုံကြည်ကြောင်း ထင်ရှားသည်။ ၎င်းတို့၏ နောက်ဆုံးပန်းတိုင်မှာ မောက္ခဖြစ်သည်။ ယင်းသည် မွေးခြင်း သေခြင်းမှာ လွတ်မြောက်ခြင်းနှင့် ပရမအတ္တဟုခေါ်သော ဗြဟ္မတ္တနှင့် နောက်ဆုံး ပေါင်းစည်းသွားခြင်းကို ဆိုလိုသည်။ အမှန်သော် ဗြဟ္မာနှင့် နောက်ဆုံး ပေါင်းစည်းသွားခြင်းသည် မသေလွန်မီ ဖြစ်ပေါ်သည်။

ထိုမှတစ်ပါး ခရစ်ယန်ဘာသာရှုထောင့်အရမူ သေခြင်းသည် ပြစ်မှု၏အကျိုးဆက်ဖြစ်ပြီး ထာဝရဘဝမှ ခဏတာလွတ်မြောက်သွားခြင်းဖြစ်သည်။ တစ်စုံတစ်ယောက်သည် ထာဝရဘဝတစ်ခု၏ အစသို့ရောက်ရန် အမှန်ပင် သေဆုံးရမည်ဖြစ်သည်။ သို့တစေ နောက်ဆုံး၌ သေဆုံးသူသည် ပြန်လည်ရှင်ပြန် ထမြောက်လိမ့်မည်ဖြစ်သည်။ ရှင်ပြန်ထမြောက်သည့် အယူအဆ (ယေရှုခရစ်တော် ရှင်ပြန်ထမြောက်ခြင်း) သည် သေခြင်းသဘောတရား၏ နက်နဲဆန်းကြယ်မှုနှင့် ပတ်သက်နေသည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ နောက်ဆုံး တရားစီရင်မည့်နေ့သည် တစ်နေ့တွင် ဖြစ်လိမ့်မည်ဟု ယေဘုယျအားဖြင့် ယုံကြည်ကြသည်[၁၇၃]။ သို့ဖြစ်၍ ခရစ်ယန်တို့သည် နောက်ဆုံးတရားစီရင်မည့်နေ့ကို စောင့်ဆိုင်းနေကြလိမ့်မည်ဖြစ်သည်။ ခရစ်ယန်ဘာသာ၌ သေခြင်းတရားနှင့် ပတ်သက်၍ အခြေခံယူဆချက်မှာ သေခြင်းတရားသည် အပြစ်၏အကျိုးဆက်၊ ခန္ဓာကိုယ်နှင့် ဝိညာဉ်တို့၏ ခဏတစ်ဖြုတ် ကွဲကွာနေခြင်း၊ အပြစ်အတွက် သေရခြင်းသည် ထာဝရဘဝ၌ ပြန်လည် မွေးဖွားရခြင်း ဖြစ်သည်။ သေဆုံးသူများသည် ယေရှုခရစ် ဒုတိယအကြိမ်ပြန်လာခြင်း၌ ရှင်ပြန်ထမြောက်ပြီး တရားစီရင်ခြင်းခံရလိမ့်မည်ဖြစ်သည်။ တရားစီရင်ချက် နှစ်မျိုးရှိသည် -

> ပထမအမျိုးအစားမှာ ပုဂ္ဂိုလ်တစ်ဦး၏ဝိညာဉ်အား ကောင်းကင်ဘုံ ငရဲဘုံသို့ချက်ခြင်းပို့မည်လား သို့မဟုတ် ဝိညာဉ်သန့်ရှင်းခြင်းဆီသို့ ပို့မည်လားဟူသည်ကို ဆုံးဖြတ်ရန် ပုဂ္ဂိုလ်အသီးသီးအား တစ်ကိုယ်ရေ တရားစီရင်ချက်၊ ဒုတိယအမျိုးအစားမှာ သေဆုံးသူတို့၏ ခန္ဓာကိုယ်များ ကမ္ဘာမြေပေါ်တွင် အိပ်မောကျနေရာမှ ရှင်ပြန်ထမြောက်သောနေ့တွင် ပြန်လည်အဆုံးအဖြတ်ပေးသည့် နောက်ဆုံးတရားစီရင်မှုတို့ဖြစ်သည်[၁၇၄]။

သေခြင်းနှင့် ပြန်လည်မွေးဖွားခြင်းအတွေ့အကြုံနှင့် ပတ်သက်၍ ခရစ်ယန်တို့၏ယုံကြည်မှုသည် တစ်နည်းနည်းဖြင့် စိတ်ပုင်းဘဝရင့်ကျက်မှုဖြင့် သေဆုံးခြင်းအပေါ် ၎င်းတို့၏နားလည်မှုအတွက် နိုးကြွမှုပုံစံတစ်မျိုးဖြစ်သည်။ ခရစ်ယန်တို့သည် သန့်ရှင်းသောဝိညာဉ်တော်၏ မျက်နှာလိုက်ခြင်းမရှိဘဲ ဝိညာဉ်နှင့် ကိုယ်ခန္ဓာနှစ်ခုလုံး ထာဝရဘဝ၏ ရှင်ပြန်ထမြောက်ခြင်းသို့ ရောက်ရှိခြင်းအတွက် စောင့်ဆိုင်းနေကြသည်။ ၎င်းအဖို့ သေခြင်းဟူသည် ထာဝရဘုရားသခင်နှင့် ပေါင်းစည်းသွားခြင်းမှတစ်ပါး အခြားမဟုတ်ချေ။

ခရစ်ယန်များကဲ့သို့ပင် အစ္စလမ်ဝါဒီတို့လည်း တရားစီရင်ရာနေ့တွင် သေဆုံးသူများသည် ၎င်းတို့၏ဂူအတွင်းမှ ရှင်ပြန်ထမြောက်လိမ့်မည်ဖြစ်သည်။ ၎င်းတို့အား ၎င်းတို့၏ ကောင်းမှု မကောင်းမှုအလိုက် ဆုံးဖြတ်မည်ဖြစ်သည်။ ကောင်းမှု မကောင်းမှုတို့ကို မှတ်တမ်းတင်ထားသည့် ဘုရားသခင်၏ စာအုပ်တော်တစ်စုံရှိသည်ဟု ယုံကြည်ကြသည်။ အစ္စလမ်မှစ်သင်ကြားချက်များအရ အစ္စလမ်ဝါဒီတို့သည် သေဆုံးသူ၏ခန္ဓာကိုယ်အား အမွှေးနံ့သာ ပက်ဖျန်းရန်နှင့် မိသားစုဝင်များက အလောင်းကို ပိတ်ဖြူဖြင့် ပတ်ရစ်ရန် ညွှန်ကြားသည်။ အလောင်းကို ခေါင်းထဲတွင်ထည့်ပြီး သုသာန်မြေ၌ မြှုပ်နှံရသည်။ ‘ဆုတောင်းသူများက ငိုကြွေးသောကရောက်နေသူများအား သေဆုံးသွားသူကို မြူမှုန်မှဖန်ဆင်းခဲ့ပြီး ၎င်းသည် မြူမှုန်သို့ ပြန်သွား၏၊ ကျွန်ုပ်တို့သည် သေခြင်းမှတစ်ဆင့် ကံကြမ္မာကို စောင့်ဆိုင်းရန် ပြန်လာကြ၏၊ နောက်ဆုံး တရားစီရင်ရာနေ့၌ ကျွန်ုပ်တို့ လွတ်မြောက်ကြလိမ့်မည်’ဟု သတိပေးကြသည်[၁၇၅]။ အစ္စလမ်ဝါဒီတို့သည် သေခြင်းတရားဟူသည် ဤဘဝမှ ထာဝရဝိညာဉ်ဆီသို့ ကူးပြောင်းသွားခြင်းတစ်မျိုးဖြစ်ကြောင်း ယုံမှတ်ကြသည်။ သေသွားသူသည် ဤကမ္ဘာမြေသို့ ပြန်လာမည် မဟုတ်သော်လည်း ဝိညာဉ်သည် ရှင်ပြန်ထမြောက်ခြင်းနှင့် တရားစီရင်မည့်နေ့ကို စောင့်ဆိုင်းနေမည်ဖြစ်သည်[၁၇၆]။

ဤလေ့လာချက်သည် ဘာသာတရားတို့၏ ယုံကြည်မှုစနစ်နှင့် သေခြင်းနှင့် အသက်ရှင်ခြင်းယူဆမှုကို စုံစမ်းရှာဖွေသောကြောင့် သေခြင်းသဘောတရားကို ဒဿနရှုထောင့်မှ အဓိပ္ပာယ်ဖွင့်ဆိုရန် ကြိုးပမ်းခဲ့ကြသော ဂရိဒဿနဆရာများ၏ ယူဆချက်ကို မသိကျိုးကျွံပြုရန် မဖြစ်နိုင်ချေ။ သေခြင်းသဘောတရားနှင့် ပတ်သက်၍ ဂရိဒဿနဆရာ ဆိုကရေတီး

[၁၇၃] Ibid, 147.
[၁၇၄] Ibid, 147.
[၁၇၅] Ibid, 165.
[၁၇၆] Ibid, 160.

က မိမိ၏ သေခြင်းသဘာဝယူဆချက်ကို ၎င်း၏တပည့်များအား မျှဝေခဲ့သည်။ ဆိုကရေတီးသည် သေခြင်း၏သဘာဝနှင့် သေပြီးနောက် တမလွန်၌ မည်သို့ဖြစ်မည်ကို နားလည်ရန်ကြိုးပမ်းခဲ့သည်။ ၎င်းအလိုအရ သေခြင်းဟူသည် ပြောင်းလဲမှု ဖြစ်စဉ် ဝိညာဉ်၏ ဤနေရာမှ နောက်နေရာတစ်ခုသို့ ပြောင်းရွှေ့ခြင်းမှတစ်ပါး အခြားမဟုတ်။ ဆိုကရေတီးသည် အဆိပ်ရေကို မသောက်မီ ၎င်း၏တပည့်များအား သေခြင်းသဘောတရားကို မကြောက်ရန်လည်း ပြသခဲ့သည်။ သူသည် သေခြင်းဖြစ်စဉ်နှင့်ပတ်သက်၍ အောက်ပါဖော်ပြချက်အား ယုံကြည်စွာ ဖော်ပြခဲ့သည် -

> ကျွန်ုပ်တို့ ဤနည်းဖြင့်လည်း ဆင်ခြင်ကြည့်ကြစို့။ သေခြင်းတရားသည် မင်္ဂလာတစ်ခုဖြစ်သည်ဟု မျှော်လင့်ချက်ကောင်းရှိ၏။ အကြောင်းမူ သေခြင်းဟူသည် ဘာမျှမဟုတ်ခြင်းနှင့် သညာမဲ့ခြင်းဟုဖြစ်စေ၊ သို့တည်းမဟုတ် ကျွန်ုပ်တို့ကိုပြောသည့်အတိုင်း ယင်းသည် ပြောင်းလဲခြင်း ဤနေရာမှ နောက်တစ်နေရာသို့ ဝိညာဉ်၏ ပြောင်းရွှေ့ခြင်းဟုဖြစ်စေ နှစ်ခုအနက် တစ်ခုဖြစ်သောကြောင့်တည်း။ အကယ်၍ သေခြင်းဟူသည် အိမ်မက်မဲ့ အိပ်ပျော်ခြင်းကဲ့သို့ အမှတ်သညာလုံးဝကင်းမဲ့မှုဖြစ်ဘိမူ ယင်းသည် ကြီးမားသည့် အမြတ်အစွန်းတစ်ခုဖြစ်လိမ့် မည်[၁၇၇]။

ဆိုကရေတီး၏ ဖော်ပြပါ ဒဿနဆိုင်ရာဖော်ပြချက်သည် အလွန်လေးစားဖွယ်ကောင်းသည်။ သူသည် ဒဿနရှုထောင့်မှ သေခြင်း၏သဘာဝအကြောင်းကို အတိအကျသိပုံရသည်။ သေခြင်းသဘောတရားကို မင်္ဂလာတစ်ပါးအဖြစ် ရှင်းလင်းစွာဖော်ပြသည်၊ ကြောက်လန့်ဖွယ်မရှိ၊ သို့သော် နှစ်သက်ဖွယ် တွေ့ကြုံသိရှိမှုဖြစ်လိမ့်မည်၊ သေခြင်းဟူသည် အိပ်မက်မဲ့ အိပ်ပျော်ခြင်းတစ်မျိုးဖြစ်သည်။

ဗုဒ္ဓဝါဒီတို့က စုတိစိတ်မဖြစ်မီကလေးတွင် သေခါနီးပုဂ္ဂိုလ်သည် နောက်ဘဝရှိ အနာဂတ်ဖြစ်တည်မှုတစ်ခု ပေါ်လာခြင်းနှင့်ပတ်သက်သော ဂတိနိမိတ်ကို မြင်တွေ့နိုင်ကြောင်း ညွှန်ပြကြသည်။ သေခြင်းသဘာဝ တွေးခေါ်မှုတွင် ရှေးခေတ်က ဆေးဘက်ဆိုင်ရာ ဆရာဝန်တို့သည် ဂတိနိမိတ်ကဲ့သို့သော အရာများကိုစုံစမ်းရန် အခွင့်အလမ်းနည်းပါးခဲ့ကြသည်။ သေခါနီးပုဂ္ဂိုလ်များ၏ဖော်ပြချက်ကို လေ့လာဆန်းစစ်ခြင်းဖြင့် ကမ္မနိမိတ်၊ ဂတိနိမိတ်အယူအဆကို ထောက်ခံသ လားဟု သိရှိရန် ဖြစ်နိုင်ခြေရှိသည်။ ယခင်က ယင်းဂတိနိမိတ်ဟူသည်ကို ဘာသာရေးယူဆချက်အဖြစ်သာ ထင်မှတ်ခဲ့ကြသည်။ ထို့ပြင် လူအများစုသည် သေခြင်းအကြောင်းပြောကြားခြင်းမှာ မကောင်းမှုတစ်ရပ်ဖြစ်ပြီး စိတ်ပိုင်းဘဝကို ထိခိုက်စေသည်ဟု ထင်ကြသည်။ လူ့အသိုင်းအဝိုင်း၌ ယင်းသို့သောကိစ္စများကို ဖော်ပြခြင်းကို မကောင်းမြင်ကြသည်။ သို့ရာတွင် ဗုဒ္ဓရှင်တော်မြတ်က ရဟန်းတော်များအား သေခြင်း၏သဘာဝမှန်ကို နားလည်ခြင်းဖြင့် သေခြင်းတရားကို ကြောက်ခြင်းမှ လွှန်မြောက်နိုင်ရေးအတွက် သေခြင်းသဘောကိုဆင်ခြင်ရန် ညွှန်ကြားတော်မူသည်။ ယင်းသို့သော လေ့ကျင့်အားထုတ်မှုကို မရဏဿတိကမ္မဋ္ဌာန်းဟုလည်းခေါ်သည်။ ကံကောင်းစွာဖြင့် မျက်မှောက်ရာစုနှစ်တွင် အမ်ဒီ (M.D.) ဘွဲ့ရ ရေမွန် အေ မူးဒီ၊ အငယ် (Raymond A. Moody, Jr., M.D.) အမည်ရှိ ဆေးဘက်ဆိုင်ရာ ဆရာဝန်တစ်ယောက်သည် လူနာမသေမီ ဂတိနိမိတ်ထင်သည်ဟူသော ယူဆချက်ကိုလေ့လာရန် သေခါနီးလူနာများ၏ဘဝခရီးကို စမ်းသပ်လေ့လာမှု တစ်ရပ်ပြုလုပ်ခဲ့သည်။ သေခါနီးပုဂ္ဂိုလ်များအား ၎င်း၏လေ့လာတွေ့ရှိချက်များကိုမျှဝေရန် ကျမ်းစာနှစ်အုပ်ရေးသားခဲ့သည်။

၎င်း၏ရေးသားသည့် 'တမလွန်ဘဝ (*Life After Life*)' နှင့် 'တမလွန်ဘဝကိုဆင်ခြင်ခြင်း (*Reflections on Life After Lige*)' ကျမ်းစာများ၌ ဒေါက်တာ မူးဒီသည် ဂတိနိမိတ်တစ်ခုနှင့် ပတ်သက်နိုင်သော သေခြင်းအတွေ့အကြုံအကြောင်းကို အသေးစိတ်ဖော်ပြသည်။ ယင်းသို့သော ပေါ်လာမှုများကို သေခါနီးလူနာများက ၎င်းအားဖော်ပြ သို့မဟုတ် ပြောပြခဲ့သည်။ ဒေါက်တာမူးဒီသည် သေခါနီးအတွေ့အကြုံကို သိလိုသည့် ရည်ရွယ်ချက်ဖြင့် လူနာများစွာတို့ကို တွေ့ဆုံမေးမြန်းခဲ့သည်။ သူသည် သေလွန်ပြီးနောက် တမလွန်ဘဝရှိသည်ဟု ယူဆခဲ့သည်။ စမ်းသပ်ချက်များစွာတို့၌ ပုံမှန်မဟုတ်သည့် အကြားအာရုံ ခံစားမှုများ၊ နှစ်သက်ဖွယ်နှင့် မနှစ်သက်ဖွယ် မြင်ကွင်းများ သို့မဟုတ် သေခါနီးလူနာများ ပေးပို့ခဲ့သော ထိတ်လန့်ဖွယ်အသံများကို မှတ်တမ်းတင်ခဲ့သည်။ အောက်ပါဖော်ပြချက်များသည် သေခါနီးလူနာများ ပြောပြခဲ့သည်ကို ဖော်ပြသည် -

> ဆေးရုံသို့ရောက်ပြီး သေပြီဟု ပြောခံရပြီးမှ ပြန်လည်ရှင်လာသူ အမျိုးသားတစ်ယောက်သည် ၎င်း၏ သေခါနီး အတွေ့အကြုံကို ပြန်ပြောပြ၏ 'လေနှင့်အတူ လွင့်မျောသွားသကဲ့သို့ ဝေးလံသည့်လမ်းတစ်လျှောက် ခေါင်းလောင်း

[၁၇၇] John M Cooper. ed., *Plato: Complete Works.* (1984; reprint, Indianapolis, Indianan: Backett Publishing Company, Inc.), 1997.

သံ တစာစာမြည်သံလို ကြားရ၏။ ယင်းအသံများသည် ဂျပန်လေခေါင်းလောင်းသံနှင့်တူ၏။ . . . ထိုအသံသည် ထိုအချိန်က ကျွန်ုပ်ကြားနိုင်သည့် တစ်ခုတည်းသော အသံဖြစ်၏'။

သွေးခဲဖောက်ပြန်ရောဂါနှင့်ဆိုင်သည့် ကိုယ်တွင်းသွေးယိုစီးမှုကြောင့် သေလုနီးပါးဖြစ်ခဲ့သူ အမျိုးသမီးငယ် တစ်ယောက် ၎င်းလဲကျနေသည့် အခိုက်အတံ့အကြောင်းကို ဤသို့ပြောပြ၏ 'ကျွန်မ ဂီတသံတစ်မျိုးကို ကြားရ၏။ ခမ်းနားပြီး တကယ့် သာယာညိမ့်ညောင်းသည့် ဂီတသံပါ'[၁၃၈]။

သေခါနီးပုဂ္ဂိုလ်အချို့မှာ ၎င်းတို့၏ကိုယ်ခန္ဓာကို သိပုံရသည်။ မူးဒီက သေခါနီးအခြေအနေရှိ ယင်းကိုခန္ဓာကို 'ဝိညာဉ်ကိုယ်(Spiritual Body)ဟု အမည်ပေးသည်။ ၎င်းတို့အနေဖြင့် မိမိခန္ဓာကိုယ်မှ အပြင်သို့ရောက်သွားကြောင်း သတိပြုမိသောအခါ ၎င်းတို့သည် မိမိအတွေ့အကြုံကို အခြားပုဂ္ဂိုလ်များအား ပြောပြရန်ကြိုးပမ်းကြသည်။ သို့ရာတွင် မည်သူမျှ ၎င်းတို့ကို ကြားပုံမရချေ။ အောက်ပါစာပိုဒ်မှာ သေခါနီးပုဂ္ဂိုလ်များ၏ ဖော်ပြချက်တို့ဖြစ်သည် -

တွေ့ကြုံမှုတစ်ခုလုံး၏ စိတ်ဝင်စားဖွယ် အကောင်းဆုံးအပိုင်းမှာ ကျွန်ုပ်၏ဝိညာဉ် ကျွန်ုပ်၏ဦးခေါင်း ရှေ့ပိုင်းအပေါ်နားမှ ထွက်ခွာသွားသည့် အခိုက်အတံ့ဖြစ်၏။ ကျွန်ုပ်၏ဝိညာဉ် ထွက်ခွာသွားလိုသလော ဆက်လက်တည်ရှိနေလိုသလားဟု ဆုံးဖြတ်ရန် ကြိုးပမ်းနေသည်နှင့် လုံးဝနီးပါးတူ၏။ အချိန်သည် ရပ်နေသကဲ့သို့ ထင်ရ၏။ . . . ကျွန်ုပ်၏ဝိညာဉ်သည် ကိုယ်ကာယပုံသဏ္ဌာန်မရှိသော်လည်း ကိုယ်ခန္ဓာရှိအနေဖြင့် ဖော်ပြရမည်။ ကျွန်ုပ်အနေ ဖြင့် ယင်းဝိညာဉ်ကို နည်းလမ်းအမျိုးမျိုး စကားလုံးအထွေထွေဖြင့် ပြောပြနိုင်သော်လည်း မည်သည်ကမျှ အတိအကျမှန်အောင် ပြောနိုင်မည်မဟုတ်။ ဖော်ပြရန် အလွန်ခဲယဉ်း၏။ . . . ဤအတွေ့အကြုံလို အခြားမည် သည့်အရာမျှ မသိမြင်ခဲ့ဖူးပါ။ ကျွန်ုပ်တွေ့သည့် ပုံသဏ္ဌာန်များမှတစ်ပါး အမှောင်တိုက်သာဖြစ်၏။ သို့ရာတွင် ဤအတွေ့အကြုံတစ်လျှောက်လုံး ကျွန်ုပ်နှင့်အတူ အလွန်စွမ်းရည်မြင့်မားပြီး ချစ်ခင်ဖွယ်ပုဂ္ဂိုလ်တစ်ယောက် ရှိသည်မှာ သေချာ၏။ . . . ထိုပုဂ္ဂိုလ် ထိုနေရာတွင်ရှိသော်လည်း သူ့မှာကိုယ်ခန္ဓာမရှိ။ စင်ကြယ်သည့် ခန္ဓာကိုယ်လိုမျိုးဖြစ်ပြီး လက်များ၊ ခြေများစသည့် ယင်းပဂ္ဂိုလ်၏ ခန္ဓာကိုယ်အစိတ်အပိုင်းအားလုံးကို သိနိုင်၏။ သို့သော် ကျွန်ုပ် သူ့၏ ကိုယ်ခန္ဓာကို မမြင်ခဲ့ပါ[၁၃၉]။

ဒေါက်တာမူးဒီသည် 'တမလွန်ဘဝ' အမည်ရှိစာအုပ်ကို ထုတ်ဝေပြီးနောက် သေခါနီးအတွေ့အကြုံရှိခဲ့ကြသည့် လူများစွာကို တွေ့ဆုံမေးမြန်းမှုပြုခဲ့ပြီး ယင်းပုဂ္ဂိုလ်များအနက် အချို့မှာ သက်ဆိုင်ရာဆေးခန်းများမှ သေပြီဖြစ်ကြောင်း အသိပေးပြီးသူများအမှန်ဖြစ်လျက် အချို့မှာမူ သေရွာပြန်များဖြစ်ကြသည်။ လူနာများနှင့် သေခြင်းအကြောင်း တွေ့ဆုံမေးမြန်းပြီးနောက် မိမိ၏ ခံစားမှုများကို ဤသို့ဖွင့်ဟဝန်ခံခဲ့သည် -

ကျွန်ုပ်သည် 'တမလွန်ဘဝ' စာအုပ်၌ မည်သည့်တွေ့ဆုံမေးမြန်းမှုတွင်မှ ကောင်းကင်ဘုံ အနည်းဆုံး တစ်စုံတစ်ခုသော အစဉ်အလာယူဆချက်ကို သရုပ်ဖော်သည့်နေရာကိုမျှ မတွေ့ခဲ့ကြောင်းဖော်ပြခဲ့၏။ သို့ရာတွင် ယခုတစ်ကြိမ်၌ ထူးထူးခြားခြား အခိုင်အမာပြောဆိုခြင်းဖြင့် ကောင်းကင်ဘုံသား (နတ်သား) ဟု ဝေါဟာရပြုနိုင်သည့် သတ္တဝါတို့၏ အခြားဘုံဌာနများကို တစ်စေ့တစ်စောင်း မြင်တွေ့ခဲ့ကြသော ပုဂ္ဂိုလ်များစွာနှင့် စကားပြောခဲ့ရ၏။ မှတ်တမ်းများစွာထဲမှ တစ်ခုတည်းသောစာကြောင်း 'အလင်းရောင်မြို့တော် (a city of light)' ဟုပေါ်လာသည်မှာ ကျွန်ုပ်အဖို့ စိတ်ဝင်စားဖွယ်ကောင်း၏[၁၄၀]။

'တမလွန်ဘဝ' စာအုပ်၌ လက်ခံနိုင်သော အချက်အလက်များစွာ ပါရှိသည်။ ယင်းစာအုပ်သည် သေခြင်းအကြောင်းကို သံသယရှိသူများ ယုံကြည်နိုင်လောက်သော အထောက်အထားကို သက်သေပြနိုင်စွမ်းရှိသည်။ သို့ရာတွင် ဗုဒ္ဓဝါဒ၌

---

[၁၃၈] Raymond A. Moody, Jr., M.D., *Life Afer Life: The Investigation of a Phenomenon Survival of Bodily Death* (Nwe Yourk: Bantham Books Publication, 1977), 30.
[၁၃၉] 48-56-70.
[၁၄၀] Raymond A. Moody, Jr., M.D., Reflection on *Life Afer Life:* (Nwe Yourk: Bantham Books Publication, 1978), 15.

အသက်ရှိခြင်းနှင့်သေခြင်း သို့မဟုတ် တမလွန်ဘဝနှင့်ပတ်သက်၍ ပြဿနာမရှိချေ။ ထိုအကြောင်းကြောင့် ဤသုတေသနကျမ်းစာ၌ တမလွန်ဘဝအကြောင်း ဆက်လက်လေ့လာရန် နောက်ထပ်ကြိုးပမ်းမှုကို အသားပေးတော့မည်မဟုတ်ပေ။ ယခုအခါ၌ ဤလေ့လာမှုသည် မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရပြီးသူတို့ ကွယ်လွန်ပြီးနောက် ဘဝတည်ရှိမှုအကြောင်း ဆက်လက်၍ ဖော်ပြသွားမည်ဖြစ်သည်။ ကမ္ဘာပေါ်ရှိ လူအများစုသည် ကွယ်လွန်ပြီးနောက် တမလွန်ဘဝတစ်ခုရှိကြောင်း ယုံကြည်ကြသည်။ သို့ရာတွင် ၎င်းတို့သည် သေလွန်ပြီးနောက် ချုပ်ငြိမ်းသွားခြင်းနှင့် ဘာမျှအကြွင်း အကျန်မရှိတော့ခြင်းအဖြစ်ဖော်ပြသည့် နိဗ္ဗာန်တည်ရှိမှုကိုမူ သံသယရှိကြသည်။ ဤလေ့လာမှု၏ ရည်ရွယ်ချက်များအနက် တစ်ခုမှာ ဗုဒ္ဓဝါဒီတို့သည် နိဗ္ဗာန်၏သဘာဝကို မည်သို့နားလည်သည်၊ နိဗ္ဗာန်၏အရေးပါမှု၊ သေခြင်းနှင့်သေခြင်းမဲ့ အခြေအနေနှစ်ရပ်အကြား နာမ်ပိုင်းဆိုင်ရာ ကူးပြောင်းမှုနှင့် ဘဝသည် နိဗ္ဗာန်သို့ မည်သို့ကူးပြောင်းသွားကြောင်းကို စုံစမ်းလေ့လာမည်ဖြစ်သည်။ နိဗ္ဗာန်နှင့်ပတ်သက်၍ ဤလေ့လာမှုသည် နိဗ္ဗာန်ဟူသည် စိတ်ကူးတွင်သာတည်ရှိသလော၊ သို့တည်းမဟုတ် အတွေးမျှတွင် တည်ရှိသလော၊ စစ်မှန်သော ပရမတ္ထတရားလောဟူသည်ကို နားလည်ရန်ဖြစ်သည်။ ရှေ့တွင်ဖော်ပြမည့် အခန်းတွင် ထေရဝါဒဗုဒ္ဓဝါဒ၌ နိဗ္ဗာန်တည်ရှိမှုဟူသည် မည်သည်ကိုဆိုလိုကြောင်း စုံစမ်းလေ့လာသည့် ပြည့်စုံသော ပါဠိနှင့်မြန်မာစာပေ အထောက်အထားများ ပါဝင်လိမ့်မည်ဖြစ်သည်။ သို့ဖြစ်မူ 'နိဗ္ဗာန်ဟူသည် အဘယ်နည်း' 'နိဗ္ဗာန်သည် မည်သည့်နေရာတွင် တည်ရှိသနည်း'ဟူသော မေးခွန်းများကို မေးမြန်းနိုင်ရာသည်။

ဝဝဝဝဝဝ

**အခန်း ၄**

# နိဗ္ဗာန်တည်ရှိမှုကို ခွဲခြမ်းစိတ်ဖြာလေ့လာခြင်း

**နိဗ္ဗာန် တည်ရှိပါသလော**

အခန်း ၂ တွင် နိဗ္ဗာန်အဓိပ္ပာယ်ကောက်ယူချက်များနှင့် ပညာရှင်မျိုးစုံတို့ ဖော်ပြသည့်ယူဆချက်တို့ကို ဆွေးနွေးခဲ့သည်။ သို့ရာတွင် ဤလေ့လာချက်၌ နိဗ္ဗာန်တည်ရှိမှုကို ခွဲခြမ်းစိတ်ဖြာခြင်းအတွက် နောက်ထပ်ဆွေးနွေးမှုလိုအပ်သည်။ နိဗ္ဗာန်တည်ရှိမှုသည် ဗုဒ္ဓဝါဒရှုထောင့်မှ ဆွေးနွေးဖွယ်တစ်ရပ်ဖြစ်ပြီး နိဗ္ဗာန်သည် အမှန်တကယ်တည်ရှိ မတည်ရှိဟူသည်ကို ဆုံးဖြတ်ရန် ခဲယဉ်းသည်။ အကယ်၍ အမှန်တကယ်တည်ရှိသည်ဆိုလျှင် ယင်းသည် မည်သို့တည်ရှိသည်ဟူသည်ကို နားလည်ရန် ခက်ခဲသည်။ ဗုဒ္ဓဝါဒကျမ်းစာများနှင့် ဗုဒ္ဓဝါဒအတွေးအခေါ်၌ နိဗ္ဗာန်တည်ရှိခြင်းကို အခိုင်အမာ ဖော်ပြသော်လည်း ယင်းသည် နာမ်တရားတွင် တည်ရှိသလော သို့တည်းမဟုတ် အခြားတစ်နေရာရာတွင် တည်ရှိသလောဟူသည်နှင့် ပတ်

သက်၍ မသေချာမရေရာသေးဘဲရှိသည်။ ဗုဒ္ဓဝါဒီတို့ကား နိဗ္ဗာန်တည်ရှိကြောင်း အခိုင်အမာဆိုကြသည်။ သို့တစေ ဗုဒ္ဓဝါဒီမဟုတ်သူများအား နိဗ္ဗာန်တည်ရှိမှုသက်သေကို လက်တွေ့အထောက်အထားဖြင့် မပြနိုင်ချေ။ လက်တွေ့ အထောက်အထားအစား ဗုဒ္ဓဝါဒီတို့အနေဖြင့် လက်တွေ့ကမ္မဋ္ဌာန်းရှုမှတ်ခြင်းဖြင့် ရရှိနိုင်မှုကိုသာ ကိုးကား၍ဆိုကြသည်။ ၎င်းတို့၏ ယူဆချက်မှာ နိဗ္ဗာန်ဟူသည် အဘယ်နည်း၊ မည်သို့တည်ရှိသနည်းဟူသည်ကို ဘုရားရဟန္တာပုဂ္ဂိုလ်များမှတစ်ပါး မည်သူမျှ အတိအကျမသိဟုဖြစ်သည်။ လူများစွာတို့ကား နိဗ္ဗာန်တည်ရှိမှုကို ရုပ်ပိုင်းသရုပ်သဏ္ဌာန် သို့မဟုတ် စိတ်ပိုင်းသရုပ်သဏ္ဌာန် ထိတွေ့မှုဖြင့်သိနိုင်သလော သို့တည်းမဟုတ် ယင်း၏တည်ရှိမှုသည် စိတ်ပိုင်းနှင့် ရုပ်ပိုင်းအခြေအနေများအောက်တွင်ရှိသလော မရှိဘူးလောဟူသည်ကို တွေးဆကြံစည်ကြသည်။

ပါဠိတော်ကျမ်းများ၌ ဗုဒ္ဓဝါဒီတို့ယူဆချက်မှာ တစ်ခုခုသောအကြောင်းကြောင့် အခြားဘာသာတရားများ၏ ယူဆချက်နှင့် ခြားနားသည်။ ဗုဒ္ဓဝါဒသည် မဟာတန်ခိုးရှင် သို့မဟုတ် ဘုရားသခင်အား နိဗ္ဗာန်ရရှိရေးနည်းလမ်းအဖြစ် လုံးဝဖော်ပြခြင်းမရှိ။ ဗုဒ္ဓဝါဒီတို့သည် အဆိုအမိန့်နှင့် လက်တွေ့အားထုတ်မှုကို ခြားနားခြင်းမပြုဘဲ နိဗ္ဗာန်ကို မည်သူမျှ နားမလည်နိုင်ကြောင်း အလေးပေးဖော်ပြသည်။ ဤလေ့လာချက်၏ အဓိကဦးတည်ချက်တစ်ရပ်မှာ ဒွိတ္တယူဆချက် ဆိုလိုသည်မှာ ဘဝရှိခြင်းနှင့် ဘဝမရှိခြင်းယူဆချက်ကို ဖယ်ရှားရန်ဖြစ်သည်။ ဤယူဆချက်တွင် ပထမအနေဖြင့် ဘဝရှိခြင်းနှင့် ဘဝမရှိခြင်းယူဆချက်ဟူသည်ကို နားလည်ရန် လုံးဝလိုအပ်သည်။ အခန်း ၃ ၌ ဘဝဟူသည်ကို သတ္တဝါတို့ အဆက်မပြတ်မွေးဖွား သေဆုံးကြသည့်နေရာအဖြစ် ဆွေးနွေးခဲ့ပြီးဖြစ်သည်။ ဘဝအမျိုးမျိုးသည် ကြောင်းကျိုးဖြစ်စဉ်နှင့်သာမက အကြောင်းတရားဆက်သွယ်မှုအနေဖြင့် တစ်ခုကိုတစ်ခုအမှီသဟဲပြုလျက် ပြုပြင်ခံ အကျိုးဆက်များနှင့်လည်း ဆက်နွယ်ကြောင်း ဗုဒ္ဓဝါဒီပညာရှင်တို့ ယေဘုယျသဘောတူညီကြသည်။ ဗုဒ္ဓဝါဒရှုထောင့်အရသော် ဘဝတစ်ခု၌ သတ္တဝါအနေဖြင့်ဖြစ်လာရန် အကြောင်းတရားများ၊ အခြေအနေများ၊ ပြုပြင်ဖန်တီးမှုများနှင့် ဟေတုပစ္စယအနေဖြင့် တစ်စုံတစ်ခုကို အမှီသဟဲပြုခြင်းများရှိရမည်ဟု နားလည်သည်။ သတ္တဝါတစ်ယောက်သည် ဖြစ်ခြင်းနှင့်ပျက်ခြင်း၊ မွေးဖွားခြင်းနှင့်သေခြင်းတို့ပါဝင်သည့် ဖြစ်စဉ်ရှိသော ဘဝတစ်ခုမှ မကင်းလွတ်ကြောင်း ဆိုသည်။ ဤစံနှုန်းကို သမ္မုတိသစ္စာဖြင့် သတ္တဝါ အားလုံးအတွက် အသုံးပြုသော်လည်း ယင်းသည် ပရမတ္ထသစ္စာနယ်၌ အသုံးမပြုချေ။

ဗုဒ္ဓဝါဒ၌ ပရမတ္ထသစ္စာဟူသည် နိဗ္ဗာန်ကို ရည်ညွှန်းခြင်းဖြစ်သည်။ ဖော်ပြပြီး အခြေအနေ သို့မဟုတ် ဘဝများနှင့် ပတ်သက်၍ နိဗ္ဗာန်မှာ ခြွင်းချက်ဖြစ်သည်။ အကြောင်းမူ နိဗ္ဗာန်ဟူသည် ပြုပြင်ခံအခြေအနေနှင့် ပတ်သက်မှုမရှိဘဲ အမှန်မှာ မပြုပြင်အပ်သော အခြအနေဖြစ်သောကြောင့်တည်း။ ပြုပြင်အပ်သော အကျိုးတရား၏ တစ်ဘက်တွင်ရှိကြောင်း ဆိုလိုခြင်းဖြစ်သည်။ နိဗ္ဗာန်အား အသင်္ခတတရားအဖြစ် မကြာခဏ ဖော်ပြသည်။ အမှန်စင်စစ် ကွယ်လွန်ပြီးနောက် နိဗ္ဗာန်ကို မျက်မှောက်ပြုသူများသည် ဘဝရပ်စဲခြင်း သို့ရောက်သွားသည်ဟု ယူဆရသည်။ သို့တစေ ဗုဒ္ဓဝါဒီအချို့က နိဗ္ဗာန်ဟူသည် တည်ရှိဆဲအခြေအနေ တစ်ရပ်ဖြစ်သည်ဟုဆိုလျက် ဘဝမရှိခြင်းဟူသော ယူဆချက်ကို ငြင်းဆိုကြသည်။ ယင်းသို့ဆိုသော်လည်း ယင်းတည်ရှိသည့် နိဗ္ဗာန်သည် သတ္တဝါတို့ မွေးသေကြရသည့် ပြုပြင်ခံ သုံးဆယ့်တစ်ဘုံနှင့် ပတ်သက်ခြင်းမရှိ။ မဂ်ဉာဏ် ဖိုလ်ဉာဏ်ရပြီးသူများအဖို့ နိဗ္ဗာန်သည် ဥပါဒ်(ဖြစ်) ဌီ(တည်) ဘင်(ပျက်) ခဏသုံးပါးမရှိဘဲ အမှန်ပင်တည်ရှိသည်။ ကြောင်းကျိုးဖြစ်စဉ်နှင့် ပတ်သက်မှုမရှိဘဲ နိဗ္ဗာန်သည် အမှန်တည်ရှိသည်ဟု ယူဆသည်။

ယင်းဖော်ပြချက်နှင့်ပတ်သက်၍ မြန်မာနိုင်ငံရွှေကျင်သာသနာကို တည်ထောင်ခဲ့သူ ပါဠိစာပေတတ်ကျွမ်းတော်မူသော ရွှေကျင်ဆရာတော်က နိဗ္ဗာန်တည်ရှိမှုကို **ဓမ္မဝိသေသ**တစ်ခုတည်ရှိမှုအဖြစ် ဖော်ပြခဲ့သည်။ ဤဆရာတော်အလိုအရ နိဗ္ဗာန်ဟူသည် အမှန်တကယ်တည်ရှိသည့် ပရမတ္ထတရားဖြစ်သည်[၁၈၁]။ မြန်မာနိုင်ငံသာသနာ၌ ဓုတင်အကျင့်ဖြင့်ထင်ရှားသည့် ကမ္မဋ္ဌာန်းနည်းပြဆရာတော်နှင့် တောရဆောက်တည်သည့် အစဉ်အလာကို တည်ထောင်သူ တောင်ပုလုကမ္ဘာအေးဆရာတော်ကလည်း ပြုပြင်ခံသဘာဝမရှိသော ပရမတ္ထဓမ္မကို သိမြင်ပြီးဖြစ်သော မဂ်ဖိုလ်ဉာဏ်ကို ရပြီးသူများအဖို့ နိဗ္ဗာန်သည် အမှန်တကယ်တည်ရှိကြောင်း ဆိုသည်။ ဓုတင်ဂ်ဟူသည် 'ကိလေသာကို ခါထုတ်ခြင်း'ဟု တိုက်ရိုက်ပြန်ဆိုနိုင်ပြီး စင်ကြယ်ခြင်းကို ဆိုလိုသည်။ ဓုတင်၌ ကျင့်ကြံမှုပုံစံ ဆယ့်သုံးမျိုးရှိပြီး ရဟန်းတို့၏အကျင့် သို့မဟုတ် ခြိုးခြံသည့်အကျင့်ဟု ဘာသာပြန်ကြသည်။ ဖော်ပြပါဆရာတော်များသည် သတိပဋ္ဌာန်ကမ္မာန်း ကျင့်ကြံအားထုတ်ခြင်းမရှိဘဲ သာမန်ပုထုဇဉ်များအဖို့ ပရမတ္ထတရားကို နားမလည်နိုင်သည့်ပြင် ပုထုဇဉ်များအဖို့ အဆိုပါ သာလွန်မြင့်မြတ်သည့် အဆင့်သို့လည်း မရောက်နိုင်ဟု ယူဆတော်မူကြသည်။ အပြည့်အစုံ ထိုးထွင်းသိမြင်ခြင်းဟူသည်ကို တစ်ခုတည်းသော အနှစ်သာရ (ဧကော ဓမ္မော) အနေဖြင့် ယူဆခဲ့သည်[၁၈၂]။

---

[၁၈၁] ရွှေကျင်ဆရာတော်၊ *ဂမ္ဘီရာဂမ္ဘီရမဟာနိဗ္ဗုတဒီပနီ* (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၂၀၀၀) ၁၇၃။
[၁၈၂] ညွှန်းပြီး၊ ၁၇၃။

လယ်တီဆရာတော်သည်လည်း အခြားပညာရှင်နှင့် ထင်ရှားသည့်တရားဓမ္မဟောကြားသူ တစ်ပါးဖြစ်ပြီး ဆရာတော်ရေးသားသည့် လယ်တီဒီပနီကျမ်းများကြောင့်ရော အောင်မြင်သည့် ကမ္မဋ္ဌာန်းကျင့်ကြံအားထုတ်မှုကြောင့်ပါ ထင်ရှားကျော်ကြားသည်။ ဆရာတော်က ဗုဒ္ဓရှင်တော်မြတ်၏တရားကို နာယူကြပြီးနောက်၊ လူအများသည် နိဗ္ဗာန်တွင် အမှန်တကယ်ရှိသော ဓမ္မဓာတ်တစ်မျိုးရှိပြီး ယင်းသည် ရောက်ရှိရန်ခက်ခဲသောတရားဖြစ်ကြောင်း သဘောပေါက်သွားကြသည်ဟု ဖော်ပြခဲ့သည်။ ကမ္မဋ္ဌာန်းတရားအားထုတ်ပြီး နှစ်ပေါင်းများစွာ ပါရမီဖြည့်ကျင့်ခဲ့သူများသည်သာ နိဗ္ဗာန်သို့ရောက်နိုင်ကြသည်။ လယ်တီဆရာတော်က နိဗ္ဗာန်၏သဘာဝသည် အလွန်နက်နဲ(အတိဂမ္ဘီရဖြစ်)ပြီး အလွန်သိနိုင်ခဲ(အတိဒုဒ္ဒသဖြစ်)သည်ဟု အလေးအနက်ဆိုခဲ့သည်။ မမြဲသည့် အနိစ္စသဘာဝ၊ ခန္ဓငါးပါး၏ဒုက္ခသဘာဝနှင့် ခဏတိုင်းတွင် ဖြစ်ပေါ်လာသည့် သူကောင်ကိုယ်ကောင်မရှိမှု (အနတ္တ) သဘာဝတို့ကို မသိမြင်ဘဲ နိဗ္ဗာန်၏သန္တိသုခကို ရရန်ခက်ခဲသည်[၁၈၃]။

နိဗ္ဗာန်ကို သိမြင်ခြင်းသည် ဗုဒ္ဓနှင့် ရဟန္တာပုဂ္ဂိုလ်တို့တွင် ထင်ရှားသောကြောင့် ဗုဒ္ဓဝါဒီတို့သည် နိဗ္ဗာန်အား ၎င်းတို့၏ လွတ်မြောက်မှု နောက်ဆုံးပန်းတိုင်အဖြစ် အသိအမှတ်ပြုကြပြီး ယင်းသည် လူသားတို့၏ အသိဉာဏ်ဖြင့် မသိမီနိုင်ဟု ယုံကြည်ကြသည်။ သို့ရာတွင် နိဗ္ဗာန်ကို မည်သူမျှမရနိုင်ဟု ဆိုလိုသည်မဟုတ်ချေ။ အမှန်စင်စစ် စိတ်ပိုင်းဆိုင်ရာ ရရှိမှုတစ်ရပ်မပါဘဲ ဆိုလိုသည်မှာ မဂ်ဉာဏ်ဖိုလ်ဉာဏ်ကိုမရဘဲ ယင်းငြိမ်းချမ်းသည့် သဘာဝကို နားလည်ရန်မဖြစ်နိုင်ချေ။ ယင်းအဆင့်ကို အသိဉာဏ်စေစားမှုသက်သက်ဖြင့် သိမြင်ရန်လည်း မဖြစ်နိုင်ချေ။ နိဗ္ဗာန်အား ဒဿနသဘောအားဖြင့် ဆိတ်သုံးခြင်း၊ ဘာမျှမရှိခြင်း၊ ပြတ်စဲခြင်းစသည်ဖြင့် ဖော်ပြကြသည်။ ဤဖော်ပြချက်၌ ဘာမျှမရှိခြင်း သုညဟူသော ယူဆချက်သည် မဟာယာနဗုဒ္ဓဝါဒီတို့၏ အဓိကဟောကြားချက်ဖြစ်ပြီး ပြတ်စဲခြင်း ချုပ်ငြိမ်းခြင်းဟု ယူဆချက်မှာ ထေရဝါဒဗုဒ္ဓဝါဒီတို့၏ အထူးပြုဟောကြားချက်ဖြစ်သည်။ သို့ရာတွင် မဟာယာနဗုဒ္ဓဝါဒသည် အနှစ်သာရမှန်သုညဝါဒကို အခိုင်အမာဆိုပြီး သုညသဘောတရားကို မှန်ကန်သည့် ထိုးထွင်းသိမြင်မှုအဆင့် ရရှိခြင်းအဖြစ် ဖော်ပြကြသည်။ မာယာအိပ်မက်မှ နိုးထခြင်းကို 'အစစ်အမှန်တရား၏ ခြုံလွှာကိုဖွင့်လှစ်ခြင်း' ဟုခေါ်သည်[၁၈၄]။ အီဗန်စ် ဝင်းတ်စ် (Evens Wentz) ဘာသာပြန်ဆိုသည့် 'မဟာလွတ်မြောက်ခြင်း' (Great Liberation) အမည်ရှိ တိဗက်ကျမ်းစာအလိုအရ အနှစ်သာရမှန် ယူဆချက်ကို အောက်ပါအတိုင်း တွေ့ရသည် -

နာဂရဇ္ဇုနရေးသားခဲ့သည်ဟု ယူဆရသော **အဝတံသကသုတ္တ** (*Avatamsaka Sutra*) တွင် ဖော်ပြသည့်အတိုင်း အစစ်အမှန်တရား သို့မဟုတ် စစ်မှန်သောအနှစ်သာရသည် သံသရာ၌ရှိသောအရာများ သို့မဟုတ် သတ္တဝါများ၏ နောက်ဖက်တွင်ရှိသည့် သဘာဝအားလုံး၏ အခြေခံ၊ တည်မြဲ သို့မဟုတ် မပြောင်းလဲသည့် မူလအစစ်အမှန်တရား၊ ပျောက်ပျက်လွယ်ခြင်း မစစ်မှန်ခြင်းမဟုတ်သည့် သဘာဝတရားဖြစ်သော မြူမှုန်မဲ့အကြည်ဓာတ်နှင့် ဆက်နွယ်၏။ ကြေးမုံတွင် ရုပ်ပုံများထင်ဟပ်သကဲ့သို့ အနှစ်သာရအစစ်အမှန်သည် သဘာဝအားလုံးကို ဖမ်းကိုင်ပြီး အရာအားလုံးနှင့် သက်ရှိများသည် ယင်းတရားအတွင်းနှင့် အနီးတွင်တည်ရှိကြ၏။ ယင်းသည် ဗုဒ္ဓဘုရားရှင်တို့ရရှိသည့် အနှစ်သာရအစစ်အမှန်ဖြစ်၏။ ယင်းအနှစ်သာရမှ မွေးဖွားသည့် ထင်ရှားဖြစ်ပေါ်လာသော စကြဝဠာမှတစ်ဆင့် နေရာတိုင်းတွင်တည်ရှိ၏။ အတားအဆီးမဲ့ အာကာသတစ်လွှား၌ ထာဝရတည်ရှိ၏။ မဖြစ်ပေါ်အောင် တားမြစ်၍ မရ။ ဗုဒ္ဓတစ်ဆူ၏အနှစ်သာရမရှိသော နေရာဟူ၍ စကြဝဠာ၌မရှိ။ ဗုဒ္ဓအနှစ်သာရသည် အာကာသ၏ အာကာသများအတွင်း ကျယ်ပြန့်စွာ တည်ရှိလျက် ထာဝရထင်ရှား၏[၁၈၅]။

နိဗ္ဗာန်၏ သဘာဝမှန်ကို ခွဲခြမ်းစိတ်ဖြာရန် မဟာယာနဗုဒ္ဓဝါဒီတို့သည် ပရိနိဗ္ဗာန်ဝင်စံကြပြီးဖြစ်သော ရှေးဘုရားရှင်တို့၏ အထည်ကိုယ်အနှစ်သာရကို ကိုယ်စားပြုသော တရားကိုယ်မှန်အမြင်ကို စွဲကိုင်ထားကြသည်။ ရှေ့တွင် ဖော်ပြပြီးဖြစ်သည့်အတိုင်း ဗုဒ္ဓဘုရားရှင်တို့၏ အထည်ကိုယ်အမှန်သည် ကိုယ်ခန္ဓာသုံးမျိုး (တြိကာယ)အဖြစ် သင်္ကေတပြုသည့် ပုံသဏ္ဌာန် သုံးမျိုးဖြင့် ပေါ်လာသည်။ ယင်းတို့မှာ ၁) ဓမ္မကာယ (မပြောင်းလဲသော ဗုဒ္ဓကိုယ်၊ ယင်းသည် ပုံသဏ္ဌာန်မရှိ၊ ထာဝရတည်ရှိ၏၊ ဗောဓိဉာဏ်၏ အနှစ်သာရဖြစ်၏။) ၂) သမ္ဘောဂကာယ (သုံးဆောင်ခံစားသည့်ကိုယ်၊ နတ်ပြည်လောက သို့မဟုတ် ဗုဒ္ဓဘုံတွင် တည်ရှိသော ဗောဓဉာဏ်၏ အသွင်သဏ္ဌာန်) နှင့် ၃) နိမ္မာနကာယ (ထင်ရှားဖြစ်ပေါ်လာသည့် ကိုယ်ခန္ဓာ၊ သကျမုနိဗုဒ္ဓအဖြစ် သမိုင်းတွင်ထင်ရှားရှိခဲ့သော ဗုဒ္ဓရှင်တော်မြတ်အဖြစ် လူ့လောက၌ ပြန်လည်မွေးဖွားသည့်

[၁၈၃] လယ်တီဆရာတော်၊ *နိဗ္ဗာနဒီပနီ* (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၇၅) ၇၁၁။
[၁၈၄] Rinpoche, 2.
[၁၈၅] Ibid, 3.

ကိုယ်ခန္ဓာ)တို့ဖြစ်သည်။ ယင်းတြိကာယယူဆချက်ကို အခြေခံလျက် မဟာယာနဗုဒ္ဓဝါဒီ ပိုမိုအတိအကျဆိုသော် **သုခဝတီ** ဂိုဏ်း (Pure Land) ဗုဒ္ဓဝါဒီတို့က မပြောင်းလဲသော ဗုဒ္ဓ၏အထည်ကိုယ်သည် ဗုဒ္ဓဘုံတွင်ထာဝရတည်ရှိကြောင်း ပြောဆိုကြမည်မှာ သံသယဖြစ်ဖွယ်မလိုချေ။ ဗုဒ္ဓဘုရားရှင်တို့၏ အထည်ကိုယ်သည် ဗုဒ္ဓဘုံတွင်တည်ရှိသည်။ ဗုဒ္ဓ၏အထည်ကိုယ်ကို ပြင်းပြ တည်မှန်သည့် ယုံကြည်ချက်ရှိသူ ဗုဒ္ဓဝါဒီတို့သာ ဗုဒ္ဓဘုရားရှင်ကို မြင်နိုင်သည်။

မဟာယာနဗုဒ္ဓဝါဒီတို့နှင့်မတူဘဲ ထေရဝါဒဗုဒ္ဓဝါဒီတို့ကမူ ဗုဒ္ဓဘုံတွင် ဗုဒ္ဓအထည်ကိုယ်တည်ရှိကြောင်း အထူးပြု၍ မဖော်ပြကြပေ။ ၎င်းတို့အနေဖြင့် ဗုဒ္ဓရှင်တော်မြတ်သည် နိဗ္ဗာန်သို့ဝင်စံသွားပြီဖြစ်၍ စိတ်ပိုင်းရော ရုပ်ပိုင်းပါ ပုံသဏ္ဍာန် ဖြစ်ပေါ်လာခြင်းမရှိတော့ပေ။ သို့ရာတွင် သာလွန်မြင့်မြတ်သည့် သဘာဝသည် အမှန်ပင် ဆက်လက်၍တည်ရှိနေသည်။ ယင်းသာလွန်မြင့်မြတ်သည့် အခြေအနေသည် ပုံသဏ္ဍာန်မရှိ။ ယင်းရုပ်လွန်အခြေအနေတွင် ဗုဒ္ဓဘုရားရှင်များ သို့မဟုတ် ရဟန္တာများ ပရိနိဗ္ဗာန်စံပြီးနောက် ကြွင်းကျန်ရစ်သည့် အထည်ကိုယ် ဓာတ်သဘာဝတစ်ခုမရှိချေ။ တွေ့ကြုံစမ်းသပ်၍ မရဘဲ ငြိမ်းချမ်းတည်ငြိမ်ခြင်းရှိပြီး သဘာဝအားဖြင့် အလွန်သိမ်မွေ့သော တရားတစ်ခုသာကျန်ရစ်သည်။ ဆိုလိုသည်မှာ ဘုရားရဟန္တာပုဂ္ဂိုလ်များအပါအဝင် ဗောဓိဉာဏ်ကိုရပြီးသူများ၏ (ပရိနိဗ္ဗာန်စံပြီးနောက်) အထည်ကိုယ်တွင် ရုပ်ပိုင်းနှင့် စိတ်ပိုင်းသဘော မရှိ၊ သို့သော် တရားထူး (ဓမ္မဝိသေသ) သို့မဟုတ် ဓမ္မဓာတ်သဘော (ဓမ္မဓာတု)သာရှိသည်ဟု ဖြစ်သည်။ ယင်းသို့ဖြင့် နိဗ္ဗာနဓာတ်ကို နိဗ္ဗာန်အခြေအနေတွင် တည်ရှိနေသည့် သဘာဝလွန်အခြေခံတရားတစ်ခု မရှိဟု နားလည်ရသည်။ ထို့ပြင် နိဗ္ဗာန်သည် သုံးဆယ့်တစ်ဘုံ၏ အပြင်တွင်ရှိသည်။ အမှန်သော် နိဗ္ဗာန်၏ နောက်ဆုံးအခြေအနေသည် အရူပဘုံတွင် နိရောဓသမာပတ်ကို ဝင်စားသော ရဟန္တာပုဂ္ဂိုလ်တစ်ယောက်နှင့် ဆက်စပ်မှုရှိသည်[၁၈၆]။

နိရောဓသမာပတ်ဟူသည် စိတ်စေတသိက်တို့ ချုပ်ငြိမ်းသော စိတ်ပိုင်းဘဝရရှိမှု အခြေအနေတစ်ရပ်ဖြစ်သည်။ နိရောဓသမာပတ်အခိုက်တွင် သညာ၊ ဝေဒနာမရှိ။ ရုပ်နှင့်စိတ်ဖြစ်စဉ် ဖြစ်ပေါ်ခြင်းမရှိ။ နိရောဓသမာပတ်ကို ခုနစ်ရက် ဝင်စားနိုင်သည်။ ဝိသုဒ္ဓိမဂ်ကျမ်းအလိုအရ စိတ်စွမ်းရည်မရှိသူတို့ နိရောဓသမာပတ်ကို မဝင်စားနိုင်။ ဈာန်ရှစ်ပါး သို့မဟုတ် သမာပတ်ရှစ်ပါးပိုင်ရှင် (အနာဂါမိနှင့်အရဟတ္တ) မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရသူများသာ နိရောဓသမာပတ်ကို ဝင်စားနိုင်သည်။ သမာပတ်ဟူသည် ဈာန်ကိုရခြင်းဟု အဓိပ္ပါယ်ရှိပြီး ရူပဈာန်လေးပါးနှင့် အရူပဈာန်လေးပါးဟူသော ဈာန်ရှစ်ပါးကို ဆိုလိုသည်[၁၈၇]။ ဤအချက်နှင့် ပတ်သက်၍ ဝိသုဒ္ဓိမဂ်၌ အောက်ပါအတိုင်း ဖော်ပြသည်-

> ပုထုဇဉ်ပုဂ္ဂိုလ်များ၊ သောတာပန်ပုဂ္ဂိုလ်များ၊ သကဒါဂါမ်ပုဂ္ဂိုလ်များ၊ သုက္ခဝိပဿက (ဈာန်မရသူ) များဖြစ်ကြသည့် အနာဂါမ်နှင့် ရဟန္တာပုဂ္ဂိုလ်များသည် ယင်း (နိရောဓသမာပတ်)ကို မဝင်စားနိုင်ချေ။ သို့ရာတွင် သမာပတ်ရှစ်ပါးကို ရရှိကြသည့် အနာဂါမ်နှင့် ရဟန္တာပုဂ္ဂိုလ်များသာ ဝင်စားနိုင်၏။ သို့ဖြစ်၍ ပဋိသမ္ဘိဒါမဂ္ဂပါဠိ (စာ-၃) ၌ 'ဗိုလ်နှစ်ပါး (သမထဗိုလ်၊ ဝိပဿနာဗိုလ်)နှင့် ပြည့်စုံခြင်း၊ သင်္ခါရသုံးပါး (ဒုတိယဈာန်ဝင်စားသူအဖို့ ဝစီသင်္ခါရ၊ စတုတ္ထဈာန်ဝင်စားသူအဖို့ ကာယသင်္ခါရ၊ နိရောဓသမာပတ်ဝင်စားသူအဖို့ စိတ္တသင်္ခါရ) တို့၏ငြိမ်းခြင်းတို့ကြောင့် ဉာဏစရိယ ဆယ့်ခြောက်ပါး၊ သမာဓိစရိယ ကိုးပါးတို့ဖြင့် ဝသီဘော်အဖြစ်သို့ရောက်သော ပညာသည် နိရောဓသမာပတ်ကို ဝင်စားနိုင်၏'ဟု မိန့်တော်မူ၏။ ဖော်ပြပြီးအရည်ချင်းများကို သမာပတ်ရှစ်ပါးကိုရသည့် အနာဂါမ် ရဟန္တာမှတစ်ပါး အခြားပုဂ္ဂိုလ်များ၌ မတွေ့ရချေ။ ထို့ကြောင့် ယင်းနိရောဓသမာပတ်ကို အနာဂါမ် ရဟန္တာမှတစ်ပါး အခြားပုဂ္ဂိုလ်များ မဝင်စားနိုင်ခြင်းဖြစ်၏[၁၈၈]။

အထက်ပါဖော်ပြချက်အရ အရှင်မဟာဗုဒ္ဓဃောသသည် နိရောဓသမာပတ်ကို ဝင်စားနိုင်သူ ပုဂ္ဂိုလ်နှစ်မျိုးသာရှိကြောင်း ရှင်းလင်းစွာ ညွှန်ပြသည်။ ယင်းနှစ်ဦးမှာ အနာဂါမ်နှင့် ရဟန္တာပုဂ္ဂိုလ်များဖြစ်သည်။ ထိုပုဂ္ဂိုလ်နှစ်မျိုးသည် ဈာန်သမာပတ်ရှစ်မျိုးကို ကျွမ်းကျင်လိမ္မာမှုစွမ်းရည်ကြောင့် နိရောဓသမာပတ်ကို ဝင်စားနိုင်ခြင်းဖြစ်သည်။ ဤနေရာ၌ နိရောဓသမာပတ်ကို ဝင်စားသူတစ်ယောက်သည် သေသူတစ်ယောက်နှင့် များစွာခြားနားမှုမရှိချေ။ နိရောဓသမာပတ်ဝင်စားသူနှင့် သေသူမည်သို့ခြားနားသနည်း။ ဝိသုဒ္ဓိမဂ်၌ မှတ်တမ်းတင်ထားပုံမှာ အောက်ပါအတိုင်းဖြစ်သည် -

---

[၁၈၆] ဘဒ္ဒန္တဓမ္မပါလတ္ထေရ၊ *ဝိသုဒ္ဓမဂ္ဂမဟာဋီကာ*၊ အတွဲ ၂၊ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၇၇) ၅၂၅။ ယဒိ အရူပေ နိရောဓံ သမာပဇ္ဇေယျ၊ စိတ္တစေတသိကာနံ အညဿ စ ကဿစိ အဘာဝတော အပညတ္တိကော ဘဝေယျ အနုပါဒိသေသာယ နိဗ္ဗာနဓာတုယာ ပရိနိဗ္ဗုတသဒိသော။ ရွှေကျင်ဆရာတော်၊ ဂမ္ဘီရာဂမ္ဘီရမဟာနိဗ္ဗုဒီပနီကျမ်း၊ ၂၈၈။

[၁၈၇] Bhikkhu Nanamoli, trans., *The Path of Purification: Visuddhimagga* (Kandy, Sri Lanka: Buddhist Publication Soceety, 1991), 731-735.

[၁၈၈] Ibid, 731. (ဝိသုဒ္ဓိ-၌ ၂၊ ၃၄၄)

ငါ့ရှင်၊ ရဟန်းသေလွန်သောအခါ ၎င်း၏ ကာယသင်္ခါရသည်ချုပ်ငြိမ်း၏။ ၎င်း၏ဝစီသင်္ခါရသည် ချုပ်ငြိမ်း၏။ စိတ္တသင်္ခါရသည် ချုပ်ငြိမ်း၏။ အသက်သည်ကုန်၏။ အငွေ့သည် ငြိမ်း၏။ ဣန္ဒြေတို့ ပျက်စီး၏။ သညာ ဝေဒနာတို့ ချုပ်သည့် နိရောဓသမာပတ်ကို ဝင်စားသည့်ရဟန်းသည်လည်း ကာယသင်္ခါရ ချုပ်ငြိမ်း၏။ ၎င်း၏ဝစီသင်္ခါရ ချုပ်ငြိမ်း၏။ စိတ္တသင်္ခါရ ချုပ်ငြိမ်း၏။ အသက်မူကားမကုန်။ အငွေ့သည် မငြိမ်း။ ဣန္ဒြေတို့သည် မပျက်စီးကုန်[၁၈၉]။

နိဗ္ဗာန်သည် နိရောဓသမာပတ်ဝင်စားသည့် အခြေအနေနှင့်တူသောကြောင့် တွေးခေါ်မြော်မြင်မှုအရ ဗုဒ္ဓဝါဒီမဟုတ်သူတို့အား ပိုမိုရှုပ်ထွေးသွားသည်အထိ သိမ်မွေ့နက်နဲသည်ဟု ဗုဒ္ဓဝါဒီတို့ယုံကြည်ကြသည်။ ယင်းသည် ခွဲခြမ်းစိတ်ဖြာသည့် ရှုထောင့်မှ ဝေဖန်ဆန်းစစ်ဖွယ် တစ်ရပ်ဖြစ်လာသည်။

**နိဗ္ဗာန်ဟူသည် အဘယ်နည်း**

ထေရဝါဒနှင့် မဟာယာနဗုဒ္ဓဝါဒနှစ်ခုအကြား နိဗ္ဗာန်အယူအဆနှင့်ပတ်သက်၍ ကွဲပြားချက်ရှိသော်လည်း အစဉ်အလာနှစ်ရပ်လုံးက နိဗ္ဗာန်တည်ရှိကြောင်းကို လက်ခံကြသည်။ အစဉ်အလာနှစ်ခု၏ ယူဆချက်ကို အတည်ပြုရန် နိဗ္ဗာန်ဟူသည် မည်သို့သော အရာဖြစ်ကြောင်း လေ့လာရန်လိုသည်။ ရှေးဦးစွာ ဤလေ့လာချက်သည် 'နိဗ္ဗာန်ဟူသည် အဘယ်နည်း' ဟူသော မေးခွန်းကို တုံ့ပြန်ရန်လိုအပ်သည်။ အမှန်ပင် ယင်းသို့သော ရိုးရိုးစင်းစင်း မေးခွန်းတစ်ခုကို တုံ့ပြန်ရန် အတွဲများစွာပါသည့် စာအုပ်ကို ရေးရလိမ့်မည်ဖြစ်သည်။ နိဗ္ဗာန်ဟူသည် ဒဿနရှုထောင့်မှ ဝေဖန်ဖွယ်ဖြစ်ပြီး သီအိုရီအရ အငြင်းပွားဖွယ်ဖြစ်နေသဖြင့် ယင်းရိုးစင်းသည့် မေးခွန်းအတွက် ကြောင်းကျိုးခိုင်လုံသည့် အဖြေတစ်ရပ်ကို မည်သူမျှရေးသားနိုင် လိမ့်မည်မဟုတ်ချေ။ များများရှင်းလေ ဖတ်ရှုသူများ ရှုတ်ထွေးလေ ဖြစ်သွားဖွယ်ရှိသည်။ ဝါလ်ပိုလာ ရာဟုလာ (သီဟိုဠ်ရဟန်းတော်) က နိဗ္ဗာန်အကြောင်း ၎င်း၏အမြင်ကို ဤသို့မျှဝေထားသည် 'ထိုမေးခွန်းအတွက် တစ်ခုတည်းသော ကြောင်းကျိုးခိုင်လုံသည့် အဖြေမှာ ယင်းမေးခွန်းကို စကားလုံးများဖြင့် အပြည့်အစုံ ကျေနပ်သွားလောက်အောင် လုံးဝမဖြေနိုင်ပါဟု ဖြစ်၏။ အကြောင်းမူ လူသားတို့ဘာသာစကားသည် နိဗ္ဗာန်ဟူသော အန္တိမသစ္စာ သို့မဟုတ် ပရမတ္ထသစ္စာတရား၏ သဘာဝအမှန်ကို မဖွင့်ဆိုနိုင်လောက်အောင် (ဝေါဟာရ) နည်းပါးသောကြောင့်ဖြစ်သည်'[၁၉၀]။ သို့ဖြစ်၍ နိဗ္ဗာန်ဟူသည် မည်သည့်အရာဖြစ်သည်ကို မလေ့လာမီ နိဗ္ဗာန်၏အခြေအနေကို ပိုမိုနားလည်နိုင်ရန် နိဗ္ဗာန်၏ လက္ခဏာ၊ ရသနှင့် ပစ္စုပ္ပဋ္ဌာနတို့ကို နားလည်သင့်သည်။

သမ္မောဟဝိနောဒနီ (ဝိဘင်္ဂအဋ္ဌကထာ) အမည်ရှိ ဗုဒ္ဓဝါဒကျမ်း၌ နိဗ္ဗာန်၏လက္ခဏာကို 'သန္တိလက္ခဏံ နိဗ္ဗာနံ (နိဗ္ဗာန်သည် ငြိမ်းအေးခြင်းလက္ခဏာရှိ၏'[၁၉၁] ဟုဖော်ပြသည်။ **သန္တိ** (ငြိမ်းချမ်းမှု)ဟူသည် ဤ၌ ကိလေသာဆယ်ပါးမှ လွတ်မြောက်ပြီး[၁၉၂] မီးဆယ့်တစ်ပါး[၁၉၃] အဆုံးစွန် ငြိမ်းအေးမှုကို ဆိုလိုသည်။ ပုထုဇဉ်ပုဂ္ဂိုလ်များသည် အလိုရမ္မက်များရှိပြီး အတွင်းအပြင်ပသာဒရုပ်များဖြင့် ပျော်ရွှင်ခံစားလျက် ယင်းတို့ကို စွဲလန်းသည်။ ယင်းသို့ဖြစ်သဖြင့် ထိုကိလေသာအလျဉ်သည် ပုထုဇဉ်သတ္တဝါအားလုံးကို ဆောင်ယူသွားသည်။ ပုထုဇဉ်တို့သည် မွေးဖွားခြင်း၊ သေခြင်း၊ နာကျင်ခံခက်ခြင်းနှင့် စိုးရိမ်ပူဆွေးခြင်းတို့၏ ကျေးကျွန် လုံးဝဖြစ်သွားကြသည်။ အရိယာပုဂ္ဂိုလ်များမှာမူ ထိုသို့မဟုတ်ဘဲ အတွင်းအပြင်ပသာဒရုပ်များဖြင့် ပျော်ရွှင်ခံစားမှုမပြုမူ၍ ယင်းတို့ကို မစွဲလန်းချေ။ သို့ဖြင့် ၎င်းတို့အား လောဘ၊ မောဟနှင့် လောကီပျော်ရွှင်မှု

---

[၁၈၉] Ibid, 731.

[၁၉၀] Rahula, Walpola. *What the Buddha Taught* (1959; reprint, London: The Gordon Fraser Gallery Ltd., 1978), 35.

[၁၉၁] ဘဒ္ဒန္တဗုဒ္ဓဃောသထေ္ထရ၊ *သမ္မောဟဝိနောဒနီ (ဝိဘင်္ဂ)အဋ္ဌကထာ* (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီဌာန၊ ၁၉၈၅)၊ ၇၉။

[၁၉၂] ကိလေသာဟူသည် စိတ်ကို ညစ်ညူးစေသော၊ မကောင်းသော အရည်အချင်းများဖြစ်သည်။ ထိုတရားများကိုယ်တိုင် ညစ်ညူးပြီး စိတ်နှင့်အတူဖြစ်သော စေတသိက်များကို ညစ်ညူးစေသောကြောင့် ကိလေသာဟုခေါ်သော တရားဆယ်ပါးရှိသည်။ ယင်းတို့မှာ ၁။ လောဘ (တပ်မက်မှု) ၂။ ဒေါသ ၃။ မောဟ ၄။ မာန (ထောင်လွှားခြင်း) ၅။ ဒိဋ္ဌိ (အယူမှားခြင်း) ၆။ ဝိစိကိစ္ဆာ (မဆုံးဖြတ်နိုင်ခြင်း) ၇။ ထိန (စိတ်၏ထိုင်းမှိုင်းခြင်း) ၈။ ဥဒ္ဒစ္စ (ပြန့်လွင့်ခြင်း) ၉။ အဟိရိက (မကောင်းမှုပြုရန် မရှက်ခြင်း) ၁၀။ အနောတ္တပ္ပ (မကောင်းပြုရန် မထိတ်လန့်ခြင်း) Nanatiloka-thera, *Buddhist Dictionayry, 86-87.*

[၁၉၃] မီးဆယ့်တစ်မျိုးရှိသည်။ ထိုတရားတို့၏ စွမ်းရည်သည် သတ္တဝါတို့အား ဆင်းရဲဒုက္ခရောက်စေခြင်းဖြင့် လောင်ကျွမ်းတတ်သောကြောင့် ယင်းတရားတို့ကို မီးဟုခေါ်သည်။ ယင်းတို့မှာ ၁။ ရာဂ ၂။ ဒေါသ ၃။ မောဟ ၄။ ဇာတိ ၅။ ဇရာ ၆။ မရဏ ၇။ သောက ၈။ ပရိဒေဝ ၉။ ကိုယ်ဒုက္ခ ၁၀။ ဒေါမနဿ (စိတ်ဒုက္ခ) ၁၁။ ဥပါယာသ တို့ဖြစ်သည်။ ဘဒ္ဒန္တဗုဒ္ဓဃောသထေ္ထရ၊ *သာရတ္ထပ္ပကာသနီ (သံယုတ္တ)အဋ္ဌကထာ* (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီဌာန၊ ၁၉၈၇)၊ ၈၅။

များကို တပ်မက်သည့်တဏှာမှ လွတ်မြောက်ပြီး ငြိမ်းချမ်းသည့် ပုဂ္ဂိုလ်များအဖြစ် ဆိုရသည်။ တဏှာငြိမ်းချုပ်မှုနှင့်ပတ်သက်၍ အရှင်နာဂသေနမထေရ်က အောက်ပါကဲ့သို့ မိန့်ကြားခဲ့သည် -

> ထိုအရိယာပုဂ္ဂိုလ်အဖို့ ယင်း(အဇ္ဈတ္တိက၊ ဗာဟိရ)အာယတနတို့ကို မနှစ်သက် မသိမ်းဆည်း မတွယ်တာသဖြင့် တဏှာငြိမ်း၏။ တဏှာငြိမ်းသော် စွဲလန်းမှု ဥပါဒါနငြိမ်း၏။ ဥပါဒါနငြိမ်းသော် ဘဝငြိမ်း၏။ ဘဝငြိမ်းသော် ဇာတိငြိမ်း၏။ ဇာတိငြိမ်းသော် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသတို့ငြိမ်း၏။ ယင်းသို့ဖြင့် ယင်းဒုက္ခ အစုသည် ငြိမ်း၏။ မင်းကြီး၊ ဤနည်းဖြင့် ချုပ်ငြိမ်းခြင်းသည် နိဗ္ဗာန်မည်၏[၁၉၄]။

အထက်ပါ ဖော်ပြချက်နှင့်ပတ်သက်၍ ချုပ်ငြိမ်းခြင်းဟူသည် အရာခပ်သိမ်း အလုံးစုံချုပ်ပျောက်သွားခြင်းကို ဆိုလိုသည်မဟုတ်ဘဲ မွေးသေသံသရာ၌ သတ္တဝါကို ဖြစ်ပေါ်စေသော ကိလေသာအညစ်အကြေးတို့ ချုပ်ငြိမ်းသွားခြင်းကို ဆိုလိုကြောင်းနားလည်ရသည်။ ပဋိသန္ဓေနေခြင်းမရှိတော့သဖြင့် သေခြင်းမရှိဟုဖြစ်သည်။ သို့ဖြင့် နိဗ္ဗာန်ကို သန္တိ (ငြိမ်းအေးခြင်း) လက္ခဏာ ဟုဖော်ပြခြင်းဖြစ်သည်။ ဤနေရာ၌ နိဗ္ဗာန်၏မူလအဓိပ္ပာယ်မှာ ဆိတ်သုံးခြင်း သို့မဟုတ် အလုံးစုံ ငြိမ်းပျောက်သွားခြင်းနှင့် မပတ်သက်ကြောင်း သီအိုရီအရ ရှင်းလင်းသည်။ နိဗ္ဗာန်ဟူသည် ကိလေသာမီးများချုပ်ငြိမ်းခြင်းနှင့် ဒုက္ခအထွေထွေတို့၏ ပြတ်စဲခြင်းကြောင့် ဖြစ်ပေါ်လာသော အလုံးစုံငြိမ်းချမ်းမှု ပရမတ္ထသစ္စာဖြစ်သည်။ ဖော်ပြပါအဓိပ္ပာယ်အရ နိဗ္ဗာန်ဟူသည် အလုံးစုံ ချုပ်ပျောက်သွားခြင်း မဟုတ်ချေ။

နိဗ္ဗာန်၏ရသ (လုပ်ဆောင်ချက်)ကို 'အစ္စုတိ ရသံ' (သေခြင်းမဲ့အခြေအနေ သို့မဟုတ် ထာဝရမြဲသည့် ချမ်းသာ)ဟုဆိုသည်။ ဤဖော်ပြချက်မှာ မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရပြီးသူများသည် အဆုံးစွန်ငြိမ်းချမ်းမှုကို ရပြီးဖြစ်သဖြင့် မွေးသေသံသရာ၌ ဘဝတစ်ဖန် ပြန်ဖြစ်မလာတော့ကြောင်း ဆိုလိုသည်။ အဆုံးစွန် ငြိမ်းချမ်းမှုအခြေအနေကို ပြဆိုရာ၌ ဥပါဒ် (ဖြစ်ဆဲ) ဌီ (တည်ဆဲ) ဘင် (ပျက်ဆဲ) ဟူသော ခဏငယ်သုံးချက် သဘာဝဖြစ်စဉ်နှင့် ပတ်သက်မှုမရှိချေ။ နိဗ္ဗာန်တွင် အဆုံးစွန် ငြိမ်းချမ်းမှုသဘာဝသည် ပျက်ခြင်းနှင့် ပတ်သက်မှုမရှိ။ သို့ဖြစ်၍ ဤနေရာတွင် အဆုံးစွန်ငြိမ်းချမ်းမှု (နိဗ္ဗာန်)နှင့် ထာဝရတည်မြဲဝါဒ(မဟာအတ္တ)တို့ကို ခွဲခြားရန်လိုသည်။ ထာဝရတည်မြဲဝါဒသည် အတ္တ(ဝိညာဉ်ကောင်)ဝါဒနှင့် တိုက်ရိုက်ပတ် သက်သည်။ ယင်းယူဆချက်အရ အတ္တ(ဝိညာဉ်ကောင်)သည် ထာဝရမပျက်မစီးတည်မြဲလျက် ယင်းသည် ဖန်ဆင်းရှင် သို့မဟုတ် ပြဟ္မာနှင့် ညီညွတ်ပေါင်းစည်းခြင်းနှင့် ဆက်နွယ်သည်။ အမှန်စင်စစ် အတ္တသီအိုရီသည် စကြဝဠာဖန်ဆင်းရှင် သို့မဟုတ် ပြဟ္မာယူဆချက်နှင့် ပတ်သက်သော်လည်း ဗုဒ္ဓဝါဒီတို့ကမူ နိဗ္ဗာန်သည် ယင်းသို့သော ထာဝရအတ္တ သို့မဟုတ် ထာဝရဖန်ဆင်းရှင် သို့မဟုတ် မဟာပြဟ္မာနှင့် မဆိုင်ကြောင်း အခိုင်အမာဆိုသည်။

နိဗ္ဗာန်၏သွင်ပြင် (ပစ္စုပ္ပဋ္ဌာန်)မှာ အနိမိတ္တပစ္စုပ္ပဋ္ဌာန (အသွင်သဏ္ဌာန်အားဖြင့် နိမိတ်ပုံမဲ့) ဖြစ်သည်။ ဆိုလိုသည်မှာ မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရပြီးသူများ၌ နိဗ္ဗာန်သည် နိမိတ်လက္ခဏာမရှိ၊ အရွယ်အစားမဲ့၏၊ အသွင်သဏ္ဌာန်မပေါ်၊ ပြုပြင်ခံသဘောမရှိ၊ ပျက်စီးခြင်းမရှိဟု ဆိုလိုသည်။ နိဗ္ဗာန်၏သဘာဝသည် သင်္ခါရ (နာမက္ခန္ဓာ) နှင့် သင်္ခတ (ပြုပြင်ခံဘဝ) တို့၏ သဘာဝမှဖြစ်ပေါ်ရသော်လည်း နိဗ္ဗာန်၏အန္တိမအခြေအနေတွင် နိမိတ်လက္ခဏာ၊ အရွယ်အစားနှင့် အသွင်သဏ္ဌာန် မရှိ[၁၉၅]။ ထို့ပြင် နိဗ္ဗာန်၏သဘာဝတရားနှင့် နှိုင်းယှဉ်နိုင်သော အခြားအလားတူအရာမရှိချေ။ 'နိဗ္ဗာန်ကို ဥပမာပေးရန် ငြင်းခုံရန် အကြောင်းပြရန် မဖြစ်နိုင်။ သို့မဟုတ် အသွင်အပြင် ပုံပန်းသဏ္ဌာန်ကို ညွှန်ပြမည့် နည်းလမ်းမရှိ။ သို့မဟုတ် သက်တမ်း အရွယ်အစားကို ညွှန်ပြရန် မဖြစ်နိုင်'[၁၉၆]။ နိဗ္ဗာန်၏တန်ဖိုးနှင့်ပတ်သက်၍ ဟောကြားရာတွင် ဗုဒ္ဓရှင်တော်မြတ်က နိဗ္ဗာန်ဟူသည် မည်သို့သောအရာဖြစ်ကြောင်း တပည့်သာဝကများနားလည်နိုင်မည့် ဖော်ပြချက်တစ်ရပ်ကို အတိအကျ မြွက်ကြားတော်မူခဲ့သည်။ ယင်းမြွက်ကြားချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

> ဝိညာဏံ အနိဒဿနံ၊ အနန္တံ သဗ္ဗတော ပဘံ။
> ဧတ္ထ အာပေါ စ ပထဝီ၊ တေဇော ဝါယော န ဂါဓတိ။
> ဧတ္ထ ဒီဃဉ္စ ရဿဉ္စ၊ အနုံ ထူလံ သုဘာသုဘံ။
> ဧတ္ထ နာမဉ္စ ရူပဉ္စ၊ အသေသံ ဥပရုဇ္ဈတိ။

---

[၁၉၄] N. K. G. Mendis, ed., *The Questions of King Milinda: An Abridgement of the Milindapanha* (Kandy, Sri Lanka: Buddhist Publication Society, 1993), 57.

[၁၉၅] Ibid, 48.

[၁၉၆] Q-Mi, 130-131.

ဝိညာဏဿ နိရောဓေန၊ ဧတ္ထေတံ ဥပရုဇ္ဈတိ[၁၉၇]။
(မျက်စိဖြင့်) မမြင်ကောင်းသော (ဥပါဒ် ဌီ ဘင်) အပိုင်းအခြားမရှိသော ထက်ဝန်းကျင် ဆိပ်ကမ်းရှိသော ဉာဏ် အထူးဖြင့် သိအပ်သော နိဗ္ဗာန်သည်ရှိ၏။ ဤ (နိဗ္ဗာန်)၌ ရေ မြေ မီးလေသည် မတည်ပေ။ (နိဗ္ဗာန်)၌ အရှည် အတို အငယ် အကြီး အကောင်း အဆိုးသည် မရှိပေ။ (နိဗ္ဗာန်)၌ နာမ်နှင့် ရုပ်သည် အကြွင်းမဲ့ချုပ်၏။ (နိဗ္ဗာန်)၌ ဝိညာဉ်၏ချုပ်ခြင်းကြောင့် ဤ(နာမ်နှင့်ရုပ်သည်) ချုပ်၏[၁၉၈]။

အမှန်စင်စစ် နိဗ္ဗာန်၏သဘာဝသည် အလွန်နက်ရှိုင်း ကျယ်ပြောသောကြောင့် ပုထုဇဉ်တို့အဖို့ သိမြင်နားလည်ရန် မဖြစ်နိုင်ချေ။ ယင်းသို့ဖြစ်ရသည်မှာ ယင်းတို့အနေဖြင့် ကမ္မဋ္ဌာန်းရှုမှတ်ခြင်းဖြင့် မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို မရသေးသောကြောင့် ဖြစ်သည်။ နိဗ္ဗာန် အမှန်တကယ် မတည်ရှိသောကြောင့် မဟုတ်ချေ။ ဥပမာတစ်ခုဆိုရမူ မျက်မမြင်တစ်ဦးသည် နေနှင့်လကို မြင်ရန်မဖြစ်နိုင်သကဲ့သို့တည်း။ ဤ၌ နေနှင့်လအမှန်တကယ်မရှိသောကြောင့် မျက်မမြင်ပုဂ္ဂိုလ်သည် ယင်းတို့ကို မမြင်နိုင်ခြင်းဖြစ်သည်ဟု မဆိုနိုင်ချေ။ အမှန်စင်စစ် နေလတို့မှာ အမှန်တယ်ထင်ရှားရှိလျက် မျက်မမြင်ယောကျ်ားမှာ ကံမကောင်း၍ ယင်းတို့ကို တွေ့ရန်အမြင်စွမ်းရည် မဲ့ရခြင်းဖြစ်သည်။ ထိုအတူပင် ပုထုဇဉ်ပုဂ္ဂိုလ်များသည် လောကုတ္တရာပညာမရှိခြင်းကြောင့် နိဗ္ဗာန်၏ ပရမတ္ထသဘာဝကို မသိခြင်းဖြစ်သည်။ ထိုအကြောင်းကြောင့် အဘိဓမ္မတ္ထသင်္ဂဟအမည်ရှိ ဗုဒ္ဓဘာသာကျမ်းစာ၌ 'နိဗ္ဗာနံ ပန လောကုတ္တရသင်္ခါတံ စတုမဂ္ဂဉာဏေန သစ္ဆိကာတဗ္ဗံ (နိဗ္ဗာန်ကို လောကုတ္တရဟု အမည်နာမပြုပြီး ယင်းကို မဂ်ဉာဏ်လေးပါးဖြင့် သိမြင်သည်)ဟု အတိအကျဆိုခဲ့သည်[၁၉၉]။

**နိဗ္ဗာန်သည် မည်သည့်နေရာ၌ တည်ရှိသနည်း**

ထေရဝါဒဗုဒ္ဓဘာသာအလိုအရ နိဗ္ဗာန်၏မြင့်မြတ်မှုသဘာဝသည် နေရာတိုင်းတွင်တည်ရှိနိုင်သည်။ သို့တစေ ယင်းသည် သုံးဆယ့်တစ်ဘုံ၌ မပါဝင်ချေ။ မဂ်ဖိုလ်ဉာဏ်ထူးကို ရပြီးသူများအဖို့ ယင်းတို့ကွယ်လွန်ပြီးနောက် မည်သည့်အရပ်၌မဆို တည်ရှိသည်ဟုဆိုသည်[၂၀၀]။ ယင်းသည် နိဗ္ဗာန်နှင့်ပတ်သက်၍ ဆွေးနွေးဖွယ်အချက်ဖြစ်သည်။ အကြောင်းမူ မဂ်ဖိုလ်ဉာဏ်ထူးကို ရပြီးသူပုဂ္ဂိုလ်တိုင်းတွင် နိဗ္ဗာန်သည် မဆွကတည်းကရှိနေသော အရည်အသွေးအဖြစ် တည်ရှိသည်မဟုတ်ဘဲ ကွယ်လွန်ပြီးနောက် နိဗ္ဗာန်သို့ရောက်သွားပြီးမှသာ နိဗ္ဗာန်ပေါ်ပေါက်လာသောကြောင့်ဖြစ်သည်။ နိဗ္ဗာန်သည် သတ္တဝါတစ်ဦးတစ်ယောက် ဖြစ်ပေါ်မလာမီ တည်ရှိနှင့်ပြီးဖြစ်သော သုံးဆယ့်တစ်ဘုံနှင့် ခြားနားသည်။ အမှန်စင်စစ် နိဗ္ဗာန်သည် မရှိမီကတည်းက တည်ရှိနှင့်သောတရား မဟုတ်ချေ။ ဆိုလိုသည်မှာ အရိယာပုဂ္ဂိုလ်တို့ မဂ်ဖိုလ်ဉာဏ်ထူးကိုမရမီ နိဗ္ဗာန်ပေါ်မလာသေးဟု ဆိုလိုသည်။ နိဗ္ဗာန်သည် စမ်းသပ်ခံအခြေအနေတစ်ရပ်အဖြစ် တည်ရှိသည်မဟုတ်ဘဲ သဘာဝလွန်တရားအနေဖြင့် တည်ရှိသည်[၂၀၁]။ သို့ဖြစ်၍ ထေရဝါဒဗုဒ္ဓဘာသာရှုထောင့်အရသော် နိဗ္ဗာန်အား ဟိုနေရာ သို့မဟုတ် ဤနေရာတွင်ရှိသည်ဟုဟု တိကျသောနေရာကိုညွှန်ပြရန် ခဲယဉ်းသည်။ မဂ်ဖိုလ်ဉာဏ်ထူးရပြီးသူများအဖို့ နိဗ္ဗာန်သည် နေရာတိုင်းတွင်ရှိနိုင်သည်ဟုသာ ဆိုနိုင်ဖွယ်ရှိသည်။

ယင်းဆွေးနွေးချက်နှင့်ပတ်သက်၍ တစ်ခါက မိလိန္ဒမင်းကြီးက အရှင်နာဂသေနမထေရ်အား မေးလျှောက်ဖူးသည် - 'အရှေ့အရပ်၊ တောင်အရပ်၊ အနောက်အရပ်၊ မြောက်အရပ်၊ အထက်အရပ်၊ အောက်အရပ်၊ ဖီလာအရပ်တို့တွင် မည်သည့် အရပ်၌ နိဗ္ဗာန်ရှိပါသနည်း'။ အရှင်နာဂသေနက မင်းကြီးအား ဤသို့ဖြေကြားသည် - 'မင်းကြီး၊ အရှေ့အရပ်၊ တောင်အရပ်၊ အနောက်အရပ်၊ မြောက်အရပ်၊ အထက်အရပ်၊ အောက်အရပ်၊ ဖီလာအရပ်တို့တွင် နိဗ္ဗာန်တည်ရှိသည့် နေရာမရှိပါ'[၂၀၂]။ ယင်းနောက် မိလိန္ဒမင်းကြီးက အကယ်၍ နိဗ္ဗာန်သည် မည်သည့်အရပ်တွင်မျှ မရှိခဲ့လျှင် နိဗ္ဗာန်ဟူသည် မရှိသည်သာမက နိဗ္ဗာန်ကို သိမြင်ပြီးသူများသည်လည်း မှားယွင်းစွာ သိမြင်ခြင်းသာဖြစ်ကြောင်း ငြင်းဆိုသည်။ ထို့ပြင် မိလိန္ဒမင်းက အကယ်၍ ကမ္ဘာမြေပေါ်တွင် ကောက်ပဲသီးနှံထွက်သည့် လယ်မြေများ၊ အသီးသီးသည့်သစ်ပင်များ၊ ကျောက်မျက်တွင်းများရှိခဲ့လျှင် ထိုအရာများထွက်သည့် နေရာတစ်ခုရှိရမည်ဖြစ်သည်၊ ထိုအတူ အကယ်၍ နိဗ္ဗာန်ရှိသည်ဆိုလျှင် နိဗ္ဗာန်

[၁၉၇] *သီလက္ခန္ဓဝဂ္ဂပါဠိ၊ ဒီဃနိကာယ* (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၃)၊ ၂၁၃။
[၁၉၈] *သီလက္ခန္ဓဝဂ္ဂပါဠိမြန်မာပြန်၊ ဒီဃနိကာယ်* (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၅)၊ ၂၆၃။
[၁၉၉] Ac-ab, 258.
[၂၀၀] G-M-Ni, 144.
[၂၀၁] Ibid, 55.
[၂၀၂] Q-Mi, 136.

အတွက် နေရာတစ်ခုရှိရမည်၊ သို့မဟုတ်ဘဲ နိဗ္ဗာန်ဖြစ်ပေါ်ရန် နေရာမရှိဟုဆိုဘိမူ ထိုးထွင်းသိမြင်ရသော နိဗ္ဗာန်ဟူသည် မရှိဟု ငြင်းချက်ထုတ်သည်[၂၀၃]။ မိလိန္ဒမင်း၏ ငြင်းဆိုချက်ကို အရှင်နာဂသေနမထေရ်က အောက်ပါအတိုင်း တုံ့ပြန်သည်-

> မင်းကြီး၊ နိဗ္ဗာန်ကို သိုမှီးသိမ်းဆည်းထားရန် နေရာမရှိပါ။ သို့တစေ နိဗ္ဗာန်သည် တည်ရှိပါ၏။ ယောနိသော မနသိကာရဖြင့် မှန်ကန်စွာ ကျင့်ကြံအားထုတ်သူသည် နိဗ္ဗာန်ကို သိမြင်၏။ မင်းကြီး၊ မီးကို ထိန်းသိမ်းထားမည့် နေရာမရှိသော်လည်း မီးသည်တည်ရှိပါ၏။ လူတစ်ယောက် တုတ်ချောင်းနှစ်ခုကို ပွတ်တိုက်ပါက မီးကိုရရှိပါ၏။ ထိုအတူပင် နိဗ္ဗာန်ကို ထိန်းသိမ်းထားမည့် နေရာမရှိသော်လည်း ယောနိသောမနသိကာရဖြင့် မှန်ကန်စွာ ကျင့်ကြံအားထုတ်သူသည် နိဗ္ဗာန်ကို သိမြင်ပါ၏[၂၀၄]။

ထေရဝါဒရှုထောင့်အရသော် နိဗ္ဗာန်တွင် အချိန်နှင့် အာကာသဓာတ်မရှိဟု ဆိုသည်။ အကြောင်းမူ အချိန်သည် ပရမတ္ထသစ္စာမဟုတ်ဘဲ ယူဆချက်မျှသာဖြစ်သောကြောင့်တည်း။ နိဗ္ဗာန်ကို အနှစ်သာရအားဖြင့် ကာလအစနှင့် အဆုံးမရှိဟု ယူဆသည်။ သို့ရာတွင် သင်္ခါရလောက နေ့စဉ်ဘဝ၌ အတိတ် ပစ္စုပ္ပန် အနာဂတ်ဟု ကာလရှိသည်။ ယင်းယူဆချက်နှင့် ပတ်သက်၍ ထေရဝါဒဗုဒ္ဓဝါဒီတို့က ခေါ်ဝေါ်ပြောဆိုရန်အတွက် သမ္မုတိအသုံးအနှုန်း သို့မဟုတ် သမ္မုတိသစ္စာအားဖြင့်သာ ပြောဆိုနိုင်သော်လည်း နိဗ္ဗာန်မူကား ကာလနှင့် မပတ်သက်ဘဲ အမြဲတမ်းပစ္စုပ္ပန်သာဖြစ်ကြောင်း ငြင်းဆိုနိုင်သည်။ အထက်တွင် ဖော်ပြပြီးသည့်အတိုင်း နိဗ္ဗာန်ဟူသည် အရပ်ဒေသ တည်ရှိသည့်နေရာ မရှိဟု ဆိုသည်။ ဤ၌ ဗုဒ္ဓဝါဒီတို့ ယုံကြည်သည်မှာ စိတ်သည် ကာလကို ကြာမြင့်မှုအပိုင်းအနေဖြင့် ရေတွက်ပြီး အာကာသကို နေရာဌာနအဖြစ် သတ်မှတ်သောကြောင့် အချိန်နှင့်အာကာသဟူသည်ကို စိတ်ဖြင့်ညွှန်ပြခြင်းဖြစ်သည်။ ယင်းသည် စိတ်နှင့် ဆက်နွယ်ရုံမျှသာဖြစ်သည်။ ဓမ္မသင်္ဂဏီအဋ္ဌကထာ (အဋ္ဌသာလိနီအဋ္ဌကထာ) အလိုအရ ကာလဟူသည် အချိန်နှင့်စိတ်တို့၏ နီးကပ်သောဆက်နွယ်မှုတစ်ရပ်ဖြစ်သည်။ သို့တစေ အချိန်နှင့် စိတ်ယူဆချက်ကို သဘာဝအားဖြင့်တည်ရှိသော ဆက်နွယ်မှုအဖြစ် ဖော်ပြသည်။ ဓမ္မသင်္ဂဏီအဋ္ဌကထာ၌ အောက်ပါအတိုင်း ဖော်ပြသည် -

> သမယေ နိဒ္ဒိသိ စိတ္တံ၊ စိတ္တေန သမယံ မုနိ။
> နိယမေတွာန ဒီပေတုံ၊ ဓမ္မေ တတ္ထ ပဘေဒတော[၂၀၅]။
> ဘုရားရှင်သည် အချိန်ဖြင့် စိတ်ကို ဖော်ပြ၏။ စိတ်ဖြင့် အချိန်ကို ဖော်ပြ၏။ ယင်းသို့သော အဓိပ္ပာယ်ဖွင့်ဆိုချက်ဖြင့် ဖော်ပြရန် ဤ၌ သဘာဝတရားတို့ကို အပြားအားဖြင့် စီစဉ်၏[၂၀၆]။

နိဗ္ဗာန်တွင် စိတ်မရှိသဖြင့် နိဗ္ဗာန်၌ အချိန်အကြောင်းပြောဆိုရန် မလိုတော့ချေ။ နိဗ္ဗာန်ကို မျက်မှောက်ပြုပြီးသူများအဖို့ နောင်ဘဝ၌ စိတ်နှင့်ကိုယ်ခန္ဓာမရှိလျှင် အချိန်နှင့်အာကာသကို ပြောဆိုရန်လည်း မလိုတော့ချေ။ ဂမ္ဘီရာဂမ္ဘီရမဟာနိဗ္ဗုတဒီပနီကျမ်းအလိုအရ နိဗ္ဗာန်သည် အတိတ်အနာဂတ်နှင့်မဆိုင်ဘဲ အမြဲတမ်း ပစ္စုပ္ပန်တွင်ရှိသည်။

နိဗ္ဗာန်၏ ခမ်းနားပုံကို ဝိနယပိဋက ပရိဝါပါဠိ၌ ဖော်ပြထားပုံမှာ 'နိဗ္ဗာနံ အရဟတော ဂတိ (နိဗ္ဗာန်သည် ရဟန္တာပုဂ္ဂိုလ်တို့ ကွယ်လွန်ပြီးနောက် သွားရောက်သော နေရာတည်း)[၂၀၇]ဟုဖြစ်သည်။ ဂတိဟူသော ဝေါဟာရမှာ စာပေနည်းအရ 'သွားခြင်း' 'ဘဝခရီး' 'သွားရောက်နေရာ'ဟုဖြစ်သည်။ သို့တစေ ဤနေရာ၌ ယင်းဝေါဟာရသည် ရဟန္တာပုဂ္ဂိုလ်တို့ ကွယ်လွန်ပြီးနောက် သွားရောက်ရမည့် ထူးကဲမြင့်မြတ်သောနေရာကို ဆိုလိုသည်။

ဖော်ပြပါပါဠိဝါကျကို ပရိဝါအဋ္ဌကထာ၌ ဤသို့ အဓိပ္ပာယ်ဖွင့်ဆိုသည် 'သုစိရမ္ပိ ဌတွာ ပန နိဗ္ဗာနံ အရဟတော ဂတိ ခီဏာသဝဿ အရဟတော အနုပါဒိသေသနိဗ္ဗာနဓာတု ဇကံသေန ဂတိတိ အတ္ထော (နိဗ္ဗာန်သည် ထူးခြားသည့် တရားဓမ္မအနေဖြင့် ထာဝရတည်ရှိသောကြောင့် ရဟန္တာသူတော်စင်များ၏ မြင့်မြတ်သည့်နေရာ သို့မဟုတ် သေခြင်းကင်းသည့်နေရာအဖြစ်ပြဆိုလျက် ဘဝတည်ရှိမှု အကြွင်းခပ်သိမ်းချုပ်ငြိမ်းမှုဖြင့် လွန်ကဲထူးမြတ်သည့် ဓာတ်သဘာဝအဖြစ် ယူဆ

---

[၂၀၃] Ibid, 136-137.

[၂၀၄] Ibid, 137.

[၂၀၅] ဘဒ္ဒန္တဗုဒ္ဓဃောသတ္ထေရ၊ *ဓမ္မသင်္ဂဏီအဋ္ဌကထာ* (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၂)၊ ၉၉။

[၂၀၆] Nyanaponika thera, trans., *Abhidhamma Studies* (Boston: Wisdom Publications, 1998), 93.

[၂၀၇] ပရိဝါရပါဠိ၊ ဝိနယပိဋက (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၅)၊ ၂၆၃။

သည်)’[၂၈]။ ဤနေရာ၌ ထူးကဲမြင့်မြတ်သည့်နေရာဟူသည် ဘေးအန္တရာယ်နှင့် သေခြင်းမရှိတော့ဘဲ သတ္တဝါအားလုံးတို့အား သင်္ခါရတရားတို့၏ ပြုပြင်ခြင်းမှ ကင်းဝေးသည့်နေရာဖြစ်သည်။

ရွှေကျင်ဆရာတော်၏ အလိုအရ အရတ္တမဂ်ဉာဏ် ဖိုလ်ဉာဏ်ထူးကို ရရှိပြီးသူများသည် နိဗ္ဗာန်တွင်တည်ရှိကြသောကြောင့် နိဗ္ဗာနဓာတ်သဘာဝသည် လူ့လောက နတ်လောက ဗြဟ္မာလောကသတ္တဝါများနှင့် တခြားစီဖြစ်သည်။ အကြောင်းမူ ထိုပုဂ္ဂိုလ်များသည် သာမန်လူနတ်ဗြဟ္မာသတ္တဝါများ မဟုတ်ကြသောကြောင့်တည်း။ မြင်တွေ့နိုင်သောသတ္တဝါများ၏ နိမိတ်အသွင်သဏ္ဌာန်များ၌ မပါဝင်သောကြောင့်လည်း ထိုပုဂ္ဂိုလ်များအား သတ္တဝါဟုပင် မရေတွက်နိုင်ချေ။ သို့တစေ ထိုပုဂ္ဂိုလ်တို့၌ ရုပ်နာမ်တရားများ လုံးဝချုပ်ငြိမ်းသော်လည်း နိဗ္ဗာန်တည်ရှိမှုကို ကင်းဆိတ်မှု (တုစ္ဆ)၊ ဘာမျှမရှိမှု (အဘာဝ) အဖြစ် မယူဆချေ[၂၉]။ ဤယူဆချက်၌ ထေရဝါဒဗုဒ္ဓဝါဒသည် ဗုဒ္ဓရှင်တော်မြတ်များနှင့် ရဟန္တာပုဂ္ဂိုလ်တို့ ထာဝရအသက်ရှင် သီတင်းသုံးနေထိုင်လျက်ရှိသော ဗုဒ္ဓနယ်မြေတစ်ခုကို မဖော်ပြချေ။

သို့ရာတွင် မိလိန္ဒမင်းကြီးသည် မဟာပရိနိဗ္ဗာနပြီးနောက် ဗုဒ္ဓရှင်တော်မြတ် မည်သည့်နေရာတွင် ရှိနေသည်ကို သိလိုခဲ့သည်။ သို့ဖြစ်၍ အရှင်နာဂသေနအား ‘ဗုဒ္ဓရှင်တော်မြတ် တည်ရှိသေးပါသလား’ ဟုမေးသည်။ ‘မင်းကြီး၊ ဗုဒ္ဓရှင်တော်မြတ် တည်ရှိပါသည်’ ဟုအရှင်နာဂသေနက ဖြေသည်။ ‘အရှင်မြတ်၊ သို့ဆိုလျှင် ဗုဒ္ဓရှင်တော်မြတ်အား ညွှန်ပြပြီး ဤနေရာ သို့တည်းမဟုတ် ထိုနေရာတွင် ရှိသည်ဟု ဆိုနိုင်ပါသလား’ ဟု မင်းကြီးက ဆက်မေးသည်[၃၀]။ ယင်းမေးခွန်းကို အရှင်နာဂသေနက အောက်ပါအတိုင်း ဖြေကြားသည် -

> မင်းကြီး၊ ဗုဒ္ဓရှင်တော်မြတ်သည် ပဋိသန္ဓေတစ်ဖန်မွေးဖွားရန် အနာဂတ်ဘဝအကြွင်းအကျန် မရှိတော့သော နိဗ္ဗာနဓာတ်ဖြင့် ပရိနိဗ္ဗာန်စံသွားပြီးဖြစ်၏။ ဗုဒ္ဓရှင်တော်မြတ်အားညွှန်ပြပြီး ဤနေရာ သို့တည်းမဟုတ် ထိုနေရာတွင်ရှိသည်ဟုဆိုရန် မဖြစ်နိုင်ပါ။ မင်းကြီး၊ အခုပြောမည့် ဥပမာကို မည်သို့ယူဆပါသနည်း။ ဧရာမမီးတောက်ကြီးတစ်ခု ငြိမ်းသွားသောအခါ ယင်းမီးတောက်ကို ညွှန်ပြပြီး ဤနေရာ သို့တည်းမဟုတ် ထိုနေရာတွင်ရှိသည်ဟု ဆိုနိုင်ပါသလား။ (အမှန်ပင်) ဘဝဆုံးခန်းတိုင်သွားပြီးဖြစ်သော ဗုဒ္ဓရှင်တော်မြတ်အား ညွှန်ပြပြီး ဤနေရာ သို့တည်းမဟုတ် ထိုနေရာတွင်ရှိသည်ဟု မဆိုနိုင်ပါ။ မင်းကြီး၊ သို့တစေလည်း ဗုဒ္ဓ၏ဓမ္မကာယ (ဓမ္မအစု)အားဖြင့် ဗုဒ္ဓရှင်တော်မြတ်အား ညွှန်ပြနိုင်ပါ၏[၃၁]။ အကြောင်းမူ ဓမ္မကို ဗုဒ္ဓရှင်တော်မြတ် ဟောကြားတော်မူခဲ့သောကြောင့်တည်း[၃၂]။

ပရိနိဗ္ဗာန်စံဝင်သွားပြီးဖြစ်သော ဗုဒ္ဓရှင်တော်မြတ်နှင့်ပတ်သက်၍ ဖော်ပြချက်မှာ ဗုဒ္ဓဝါဒအဖို့ ဝေဖန်ဆွေးနွေးဖွယ် အချက်ဖြစ်သည်။ ဗုဒ္ဓရှင်တော်မြတ် ကွယ်လွန်သွားပြီးနောက် မည်သည့်နေရာတွင် တည်ရှိသနည်း။ ယင်းမေးခွန်းအတွက် လက်တွေ့အားဖြင့် ဗုဒ္ဓသည် သတ္တဝါ ပုဂ္ဂိုလ်တစ်ယောက်အနေဖြင့် မည်သည့်အရပ်တွင်မှ မရှိဟုဆိုပြီး ဒဿနရှုထောင့်အရသော် ဗုဒ္ဓသည် သင်္ကေတသုခအဖြစ်ယူဆသည့် တစ်နေရာတွင် တည်ရှိနေသည်ဟုဆိုသည်။ သို့ရာတွင် ထေရဝါဒဗုဒ္ဓဝါဒီတို့က ဗုဒ္ဓသည် ပရိနိဗ္ဗာန်စံပြီးနောက် ဗုဒ္ဓအထည်ကိုယ် သို့မဟုတ် ဓမ္မကာယကို ကိုယ်စားပြုလျက် ဗုဒ္ဓဘုံ၌ တည်ရှိသည်ဟု မယူဆဘဲ အခြားနည်းတစ်မျိုးဖြင့် အထူးပြုဖော်ပြကြသည်။ ယင်းသည် ဓမ္မအနှစ်သာရမျှသာဖြစ်ကြောင်း ဆိုလိုသည်။ ထို့ပြင် နိဗ္ဗာန်အား နေရာတိုင်း အရပ်မျက်နှာတိုင်းတွင် တည်ရှိနိုင်သော နိဗ္ဗာနဓာတ်အဖြစ် ဖော်ပြပြီးဖြစ်သည်။ သို့ရာတွင် ထေရဝါဒီတို့က ဗုဒ္ဓရှင်တော်မြတ်၏ ဓမ္မကာယသည် ၃၁ ဘုံတွင် တည်ရှိသည်ဟု ဆိုခြင်းကို ငြင်းပယ်ကြသည်[၃၃]။

**နိဗ္ဗာန်အမျိုးအစား မည်မျှရှိသနည်း**

အဘိဓမ္မတ္ထသင်္ဂဟနှင့် နိဗ္ဗာနဒီပနီကဲ့သို့သော ဗုဒ္ဓဝါဒကျမ်းဂန်တို့၌ နိဗ္ဗာန်ကို ခေါင်းစဉ်အမျိုးမျိုးဖြင့် ဖော်ပြထားသည်။ နိဗ္ဗာန်အမျိုးအစားများကို လေ့လာခြင်းအားဖြင့် နိဗ္ဗာန်ဟူသည် အဘယ်နည်း၊ နိဗ္ဗာန်၏သဘာဝသည် မည်သည့်အရာနှင့်

---

[၂၈] ပရိဝါရအဋ္ဌကထာ၊ ဝိနယပိဋကေ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၆)၊ ၁၆၃။

[၂၉] G-M-Ni, 48-55.

[၃၀] Q-Mi, 60-61.

[၃၁] ဤနေရာ၌ ဓမ္မကာယဟူသည် ဗုဒ္ဓရှင်တော်မြတ်၏ ခန္ဓာကိုယ်မှ ကြွင်းကျန်နေသော အနှစ်သာရ (ဓာတ်သဘော) တစ်ခုကို မဆိုလိုချေ။ ဓမ္မအနှစ်သာရ (အရာဝတ္ထုတစ်ခု အရည်အချင်းတစ်ခု၏ သဘာဝ) ကို တိုက်ရိုက် ရည်ညွှန်းခြင်းဖြစ်သည်။ ယင်းသို့ဖြင့် အရှင်နာဂသေနမထေရ်က ဓမ္မဟူသော စကားလုံးဖြင့် အထူးပြုဖော်ပြခဲ့ခြင်းဖြစ်သည်။

[၃၂] Q-Mi, 60.

[၃၃] G-M-Ni, 48-55.

ပတ်သက်သနည်း၊ ယင်းသည် မည်သို့မည်ပုံ ချမ်းသာလိမ့်မည်စသည်ဖြင့် နိဗ္ဗာန်အယူအဆကို ပိုမိုနားလည်စေနိုင်မည်ဖြစ်သည်။ စာတမ်းရှင်၏ အမြင်အရသော် နိဗ္ဗာန်အကြောင်း စဉ်းစားတွေးတောခြင်းသည် ဒဿနဆိုင်ရာ ဖော်ပြချက်တစ်ရပ်ဖြစ်ပြီး နိဗ္ဗာန်အမျိုးအစားကို ဖော်ပြချက်မှာ ကျမ်းစာရှုထောင့်တစ်ရပ်ဖြစ်သည်။ ဣတိဝုတ္တကပါဠိ၊ နိဗ္ဗာနဓာတုသုတ်တွင် နိဗ္ဗာနဓာတ်သဘာဝကို နှစ်မျိုးခွဲခြားပြသည်။ တစ်မျိုးမှာ ခန္ဓာဉပါဒိအကြွင်းအကျန်ရှိသော နိဗ္ဗာနဓာတ်ဖြစ်ပြီး ကျန်တစ်မျိုးမှာ ခန္ဓာဉပါဒိအကြွင်းအကျန်မရှိသော နိဗ္ဗာနဓာတ်ဖြစ်သည်။ ပထမအမျိုးအစားကို သဉပါဒိသေသနိဗ္ဗာနဓာတ်ဟု ခေါ်ပြီး ဒုတိယအမျိုးအစားကို အနုပါဒိသေသနိဗ္ဗာန်ဓာတ်ဟု ခေါ်သည်။ ပါဠိတော်ဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည်-

> ရဟန်းတို့၊ နိဗ္ဗာနဓာတ်နှစ်မျိုးရှိ၏။ အဘယ်နှစ်ပါးတို့နည်းဟူမူ ခန္ဓာငါးပါးအကြွင်းရှိသော နိဗ္ဗာနဓာတ်နှင့် ခန္ဓာငါးပါး အကြွင်းမရှိသော နိဗ္ဗာနဓာတ်တို့တည်း။
> ခန္ဓာငါးပါး အကြွင်းရှိသော နိဗ္ဗာနဓာတ်ဟူသည် အဘယ်နည်း။ ရဟန်းတို့၊ ဤသာသနာတော်၌ အသာဝေါကုန်ပြီးသော၊ အကျင့်မြတ်ကို ကျင့်သုံးပြီးသော၊ ပြုဖွယ်မဂ်ကိစ္စကို ပြုပြီးသော၊ ခန္ဓာဝန်ကို ချပြီးသော၊ အရဟတ္တဖိုလ်သို့ ရောက်ပြီးသော၊ ဘဝသံယောဇဉ် ကုန်ခန်းပြီးသော ကောင်းစွာသိ၍ ကိလေသာမှ လွတ်မြောက်ပြီးသော ရဟန္တာပုဂ္ဂိုလ်သည်ရှိ၏။ သို့ရာတွင် ထိုပုဂ္ဂိုလ်၏ ဣန္ဒြေငါးပါးကြွင်းကျန်နေသေးသဖြင့် နှစ်သက်ဖွယ် မနှစ်သက်ဖွယ် အာရုံကို ခံစားရ၏။ ချမ်းသာဆင်းရဲကို ခံစားရ၏။ ထိုရဟန္တာပုဂ္ဂိုလ်၏ ရာဂ ဒေါသ မောဟ ကုန်ခန်းမှုကို ခန္ဓာငါးပါး အကြွင်းအကျန်ရှိသော (သဉပါဒိသေသ) နိဗ္ဗာနဓာတ်ဟု ခေါ်၏။
> ခန္ဓာငါးပါး အကြွင်းမရှိသော နိဗ္ဗာနဓာတ်ဟူသည် အဘယ်နည်း။ ရဟန်းတို့၊ ဤသာသနာတော်၌ . . ကိလေသာမှ လွတ်မြောက်ပြီးသော ရဟန္တာပုဂ္ဂိုလ်သည် ရှိ၏။ ထိုပုဂ္ဂိုလ်အား ဤပစ္စက္ခဘဝတွင် ခံစားမှုဝေဒနာအားလုံးသည် ရာဂစသည်ဖြင့် မနှစ်သက်မှု၍ အကြွင်းမဲ့ ချုပ်ငြိမ်းလိမ့်မည်။ ရဟန်းတို့ ယင်းကို ခန္ဓာငါးပါးအကြွင်းမရှိသော (အနုပါဒိသေသ) နိဗ္ဗာနဓာတ်ဟု ဆိုပေ၏[၂၁၄]။

အထက်ပါဖော်ပြချက်နှင့် ပတ်သက်၍ အမြင့်ဆုံး အရဟတ္တမဂ်ဉာဏ် ဖိုလ်ဉာဏ်ကို ရပြီးသောဖြစ်သောကြောင့် မိန်းမ ယောကျ်ားမဟူ ထိုရဟန္တာပုဂ္ဂိုလ်သည် ထိုမဂ်ဉာဏ်ဖိုလ်ဉာဏ်ထူးဖြင့် ကိလေသာအားလုံးကို ပယ်ရှားပစ်နိုင်ကြောင်း နားလည်ရသည်။ ထိုပုဂ္ဂိုလ်များ၌ ကိလေသာ အကြွင်းအကျန် မရှိတော့ချေ။ ယင်းနိဗ္ဗာန်ကို ကိလေသပရိနိဗ္ဗာနဟုလည်း ခေါ်သည်။ သေပြီးနောက် နိဗ္ဗာန်ကို ရောက်သွားသည့် ရဟန္တာပုဂ္ဂိုလ်များသည် ဘဝတွင် မရှိကြသော်လည်း ဘဝမဟုတ်သည့် အခြေအနေတွင် တည်ရှိကြသည်။ အမှန်သော် ရဟန္တာပုဂ္ဂိုလ်များသည် အဆုံးစွန်ငြိမ်းချမ်းသည့် ဘဝတစ်ခုတွင် တည်ရှိကြသော်လည်း ပြန်လည်မွေးဖွားခြင်း၊ သေခြင်း မရှိတော့ချေ။ ဘဝသံသရာတွင် မရှိကြတော့သည်သာမက ခန္ဓာငါးပါးလည်း မရှိကြတော့ချေ။ သို့ဖြင့် ယင်းနိဗ္ဗာန်ကို ခန္ဓပရိနိဗ္ဗာနဟု ခေါ်သည်[၂၁၅]။

ယင်းယူဆချက်နှစ်ရပ်သည် ရဟန္တာပုဂ္ဂိုလ်များ မသေမီနှင့် သေပြီးနောက် မည်သို့ဖြစ်မည်ဟူသော အခြေအနေနှင့် ပတ်သက်၍ ရှင်းလင်းသော အတွေးအမြင်ကို ပေးသည်။ သို့ရာတွင် အရှင်အနုရုဒ္ဓမထေရ်က ဖော်ပြပါ အယူအဆနှစ်ရပ်ဖြင့် နိဗ္ဗာန်နှင့်ပတ်သက်၍ လုံလောက်သော အဖြေကိုမပေးဟု ထင်ခဲ့သည်။ ၎င်းက နောက်နည်းလမ်းတစ်မျိုးဖြင့် နိဗ္ဗာန် မည်သို့ဖြစ်မည်ဟူသောအချက်ကို ရှင်းလင်းတင်ပြခဲ့သည်။ ၎င်း၏နည်းလမ်းမှာ ထူးထူးခြားခြားနည်းလမ်း မဟုတ်ဘဲ ထိုထို ပါဠိတော်များ၌ ဖော်ပြထားသည့် နိဗ္ဗာန်အကြောင်းကို စုစည်းဖော်ပြခြင်းသာဖြစ်သည်။ နိဗ္ဗာန်ဖြစ်ပေါ်လာပုံသုံးမျိုးကို

---

[၂၁၄] ဣတိဝုတ္တကပါဠိ၊ ခုဒ္ဒကနိကာယ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၇၂) ၊ ၂၂၁။ John D. Ireland, trans., The Itivuttaka: The Buddha's Sayings. (Kandy, Sri Lanka: Buddhsit Publication Society, 1991), 31-32. ပါဠိတော် ကိုးကားချက်မှာ အောက်ပါအတိုင်းဖြစ်သည်-
ဒွေမေ ဘိက္ခဝေ နိဗ္ဗာနဓာတုယော၊ ကတမေ ဒွေ? သဉပါဒိသေသာ စ နိဗ္ဗာနဓာတု၊ အနုပါဒိသေသာ စ နိဗ္ဗာနဓာတု။
ကတမာ စ ဘိက္ခဝေ သဉပါဒိသေသာ နိဗ္ဗာနဓာတု၊ ဣဓ ဘိက္ခဝေ ဘိက္ခု အရဟာ ဟောတိ ခီဏာသဝေါ ဝုသိတဝါ ကတကရဏီယော သြဟိတဘာရော အနုပ္ပတ္တော ပရိက္ခီဏဘဝသံယောဇနော သမ္မဒညာဝိမုတ္တော။ တဿ တိဋ္ဌန္တေဝ ပဉ္စိန္ဒြိယာနိ။ ယေသံ ဘာဟိတတ္တာ မနာပါမနာပံ ပစ္စနုဘောတိ။ သုခဒုက္ခံ ပဋိသံဝေဒိယတိ။ တဿ ယော ရာဂက္ခယော ဒေါသက္ခယော မောဟက္ခယော။ အယံ ဝုစ္စတိ ဘိက္ခဝေ သဉပါဒိသေသာ နိဗ္ဗာနဓာတု။
ကတမာ ဘိက္ခဝေ အနုပါဒိသေသာ နိဗ္ဗာနဓာတု၊ ဣဓ ဘိက္ခဝေ ဘိက္ခု အရဟာ ဟောတိ ခီဏာသဝေါ ဝုသိတဝါ ကတကရဏီယော သြဟိတဘာရော အနုပ္ပ တ္တော ပရိက္ခီဏဘဝသံယောဇနော သမ္မဒညာဝိမုတ္တော။ တဿ ဣဓေဝ ဘိက္ခဝေ သဗ္ဗဝေဒယိတာနိ အနဘိနန္ဒိတာနိ သီတိ ဘဝိဿန္တိ။ အယံ ဝုစ္စတိ ဘိက္ခဝေ အနုပါဒိသေသာ နိဗ္ဗာနဓာတု။
[၂၁၅] BD, 106.

ဖော်ပြခဲ့သည်။ ယင်းတို့မှာ သုညတ အနိမိတ္တနှင့် အပ္ပဏိဟိတ တို့ဖြစ်သည်။ အောက်ပါစာပိုဒ်မှာ အဘိဓမ္မတ္ထသင်္ဂဟ ကျမ်း၌ ဖော်ပြထားသည့် ၎င်း၏ ရှင်းလင်းသော ဖော်ပြချက်ဖြစ်သည် -

> လောဘ ဒေါသ မောဟတို့မှ ကင်းဆိတ်ခြင်း၊ သင်္ခါရတရားတို့မှ ကင်းဆိတ်ခြင်းကြောင့် သုညတနိဗ္ဗာန်ဟု ခေါ်၏။ လောဘစသော အမှတ်လက္ခဏာနှင့် သင်္ခါရတရားအားလုံးတို့၏ အရိပ်နိမိတ်မှ ကင်းလွတ်သောကြောင့် အနိမိတ္တ နိဗ္ဗာန်ဟုခေါ်၏။ လောဘစသည်၏ တွယ်နှောင်ခြင်း တဏှာ၏ကပ်ငြိခြင်းတို့မှ လွတ်မြောက်သောကြောင့် အပ္ပဏိ ဟိတနိဗ္ဗာန်ဟုခေါ်၏[၂၁၆]။

တစ်နည်းနည်းဖြင့် ၎င်း၏အမြင်သည် နိဗ္ဗာန်အကြောင်းကို လေ့လာသူများအား ကျယ်ပြန့်သည့် ဗဟုသုတနှင့် နက်ရှိုင်းသည့် နားလည်မှုကို ပေးစွမ်းနိုင်မည်ဟု မျှော်လင့်ရသည်။ သို့တစေ ၎င်းပေးခဲ့သည့် အချက်အလက်သည် အချို့ပုဂ္ဂိုလ်များအား နိဗ္ဗာန်၏အဆင့်အတန်းကို အသိအမှတ်ပြုရန် မရှင်းလင်းဘဲရှိသေးသည်။ အဆိုပြုနိဗ္ဗာန်နှင့် လက်တွေ့နိဗ္ဗာန်တို့၏ ခြားနားချက်နှင့်ပတ်သက်၍ မရှင်းလင်းဘဲရှိဆဲဖြစ်သည်။ နားလည်ရန် ရှုထောင့်နှစ်ရပ်ရှိသည်။ ပထမရှုထောင့်မှာ နိဗ္ဗာန်အား ရှင်းပြမှုပုံစံအနေဖြင့် (နားလည်ရန်)ဖြစ်ပြီး ဒုတိယမှာ လက်တွေ့သဘောပေါက်မှုအနေဖြင့် (နားလည်ရန်) ဖြစ်သည်။ လယ်တီဆရာတော်သည် နိဗ္ဗာန်အဆင့်များကို ခွဲခြမ်းစိတ်ဖြာရန် မိမိ၏ယူဆချက်ကို ဖော်ထုတ်ခဲ့ သည်။ ဆရာတော်က နိဗ္ဗာန်၏အကြောင်းအရာသည် အယူမှားသို့လိုက်သွားပြီး အယူတစ်ပါးနှင့်ရောယှက်လျက် နိဗ္ဗာန်၏ အဓိပ္ပာယ်ကို မှားယွင်းစွာဖွင့်ဆိုနိုင်သည်အထိ အလွန်တရာနက်နဲပြီး သဘာဝအမှန်ကို သိမြင်နိုင်ခဲ့ကြောင်း အထူးပြုမိန့် ကြားခဲ့သည်။ ဆရာတော်သည် မိမိ၏ 'နိဗ္ဗာနဒီပနီ'ကျမ်း၌ ပိဋကတ်သုံးပုံကို ကိုးကားလျက် နိဗ္ဗာန်ကို အမျိုးအစား ခုနစ် မျိုး ခွဲခြားပြခဲ့သည်။ ယင်းတို့မှာ ၁) မိစ္ဆာဒိဋ္ဌိနိဗ္ဗာန (အယူမှားရှိနိဗ္ဗာန်) ၂) သမ္မုတိနိဗ္ဗာန (မျက်မှောက်ဘဝနိဗ္ဗာန်) ၃) တဒင်္ဂနိဗ္ဗာန (မျက်မှောက်ခဏနိဗ္ဗာန်) ၄) ဝိက္ခမ္ဘနနိဗ္ဗာန (ကိလေသာကို ပယ်ခွာသည့်နိဗ္ဗာန်) ၅) သမုစ္ဆေဒနိဗ္ဗာန (ကိလေ သာအကြွင်းမဲ့ချုပ်ငြိမ်းသည့် နိဗ္ဗာန်) ၆) ပဋိပဿဒ္ဓိနိဗ္ဗာန (တည်ငြိမ်မှုဖြင့် ကိလေသာငြိမ်းသည့်နိဗ္ဗာန်) ၇) နိဿရဏနိဗ္ဗန (ကိ လေသာအကြွင်းမဲ့ ချုပ်ငြိမ်းသည့်နိဗ္ဗာန်) တို့ဖြစ်သည်[၂၁၇]။

ယင်းခုနစ်မျိုးအနက် (၁) မိစ္ဆာဒိဋ္ဌိနိဗ္ဗာန်ဟူရာ၌ မိစ္ဆာဒိဋ္ဌိနှင့် နိဗ္ဗာနပုဒ်နှစ်ခု ပါဝင်သည်။ မိစ္ဆာဒိဋ္ဌိဟူသည် မှားယွင်း သောအယူအဆ ဖြစ်သည်။ နိဗ္ဗာနဒီပနီအရ ယင်းသည် ကာမဂုဏ်အာရုံငါးပါးနှင့် ပတ်သက်သော ပျော်ရွှင်မှုကို ဤဘဝ ပစ္စက္ခနိဗ္ဗာန်အဖြစ် မှားယွင်းစွာ အဓိပ္ပာယ်ကောက်ယူခြင်းဟုဆိုသည်။ ဒီဃနိကာယ်၊ ဗြဟ္မဇာလသုတ်၌ ဗုဒ္ဓရှင်တော်မြတ် က ယင်းသို့သောယူဆချက်ကို နိဗ္ဗာန်အစစ်အမှန်နှင့်ပတ်သက်၍ မှားယွင်းသော ယူဆချက်ဖြစ်ကြောင်း မြွက်ကြားတော်မူ သည်။ "ဤလောက၌ အချို့သော သမဏ ဗြာဟ္မဏသည် ဤသို့သောအယူအဆကို ပြောဟောယူဆကြကုန်၏ 'ကာမဂုဏ် ငါးပါး တောက်ပပြည့်စုံလျက်ရှိသော ဤအတ္တသည် ယင်းအာရုံငါးပါးကို ခံစားနေသရွေ့ ယင်းသည် ယင်းအတ္တ၏ အမြင့် မြတ်ဆုံး ယခုပစ္စက္ခ (ပရမဒိဋ္ဌဓမ္မ) နိဗ္ဗာန်ကို သိမြင်ခြင်းဖြစ်သည်'"[၂၁၈]။

မျက်မှောက်ခေတ် လူ့အသိုင်းအဝိုင်း၌ လူအချို့လည်း ကာမဂုဏ်ငါးပါး ခံစားမှုကို အမြင့်ဆုံးပျော်ရွှင်မှုဟု ယုံကြည် ကြသည်။ ယင်းယူဆချက်မှာ ဟေဒိုနစ်ဇင်း (Hedonism) ပျော်ရွှင်မှုစံပြုဝါဒအဖြစ် ထင်ရှားသည်။ ဟေဒိုနစ်ဇင်းဟူသည် ပျော်ရွှင်ခံစားမှု (နာကျင်မှုမရှိခြင်း အပါအဝင်)သည် ဘဝတွင် လုံးဝအလိုအပ်ဆုံးသော ကောင်းခြင်းတရားဖြစ်သည်ဟူ သော အနောက်တိုင်း အတွေးအခေါ်တစ်ရပ်ဖြစ်သည်။ ယင်းအယူအဆသည် ယင်း၏ရိုးရှင်းခြင်းနှင့် လူအများစု ယုံကြည် ပြီးဖြစ်သည်ကို အတည်ပြုသည့် နည်းလမ်းဖြစ်သဖြင့် လူအများအား ဆွဲဆောင်နိုင်သည်။ ပျော်ရွှင်မှုစံပြုဝါဒီတို့သည် ခံစား မှုနှင့်ပျော်ရွှင်မှုမှာ လူတိုင်းအလိုရှိသောအရာဖြစ်သည်ဟု အယူရှိကြသည်[၂၁၉]။ ယင်းလောကီ ယူဆချက်တစ်ရပ်ကို ယူဆ လျက် အချို့သော ရသေ့ရဟန်းများသည် ယင်းသို့သောပျော်ရွှင်မှုကို လောကီနိဗ္ဗာန်အဖြစ် မှားယွင်းစွာ အဓိပ္ပာယ်ကောက် ခဲ့ကြသည်မှာ သံသယဖြစ်ဖွယ် မလိုချေ။ သို့တစေ ဗုဒ္ဓဝါဒရှုထောင့်အရမူ ၎င်းတို့အယူအဆသည် အစစ်အမှန် နိဗ္ဗာန်နှင့် ပတ်သက်မှု မရှိချေ။

(၂) သမ္မုတိနိဗ္ဗာန်အယူအဆမှာ ဤသို့ဖြစ်သည်။ ဤလောက၌ မီးအန္တရာယ်၊ မုန်တိုင်းအန္တရာယ်၊ စစ်ဘေးအန္တရာယ်၊ ငတ်မွတ်ခေါင်းပါးခြင်းအန္တရာယ်၊ သေလောက်သည့် ရောဂါကပ်ဆိုးအန္တရာယ်နှင့် ရန်သူ့အန္တာယ်စသည်ဖြင့် အန္တရာယ်

---

[၂၁၆] Ac-Ab, 260.

[၂၁၇] လယ်တီဆရာတော်၊ *နိဗ္ဗာနဒီပနီ*၊ ၂၁၂။

[၂၁၈] Di-M-NT, 85.

[၂၁၉] Samuel Enoch Stumpf. Socrates t Sartre: *A History of Philosophy* (New York: McGraw-Hill Publishing Com0any, 1980) 363.

များစွာရှိသည်။ တစ်ခါသော် တစ်စုံတစ်ယောက်သည် ယင်းအန္တရာယ်အားလုံးကို ငြိမ်းစေနိုင်စွမ်းရှိသည်။ အန္တရာယ်မှ လွတ်မြောက်ပြီးဖြစ်သဖြင့် သူသည် ထုံးစံကျဖော်ပြချက်များနှင့်အညီ ငြိမ်းချမ်းပျော်ရွှင်မှုကို ရရှိလိမ့်မည်ဖြစ်သည်။ မျက်မှောက်ဘဝ ယင်းသို့သော ပျော်ရွှင်မှုကို သမ္မုတိနိဗ္ဗာန်ဟု ခေါ်သည်။ သမ္မုတိဟူသည် ဤနေရာ၌ မျက်မှောက်လောလောဆယ်ဟု အဓိပ္ပာယ်ရသည်။ ဤသည်မှာ ပုထုဇဉ်တို့အနေဖြင့် ယင်းသို့သော ငြိမ်းချမ်းတည်ငြိမ်မှုအခြေအနေကို သမ္မုတိနိဗ္ဗာန်အဖြစ်ယူဆလျက် ယင်းအခြေအနေများသည် စိတ်ပိုင်းရောရုပ်ပိုင်းပါ ပျော်ရွှင်မှုကို ဖြစ်ပေါ်စေနိုင်သောကြောင့် ဖြစ်သည်။ သို့တစေ ယင်းသို့သော ပျော်ရွှင်မှုအခြေအနေသည် နိဗ္ဗာန်၏ စစ်မှန်သော အခြေအနေနှင့် နှိုင်းယှဉ်၍မရသည်မှာ ထင် ရှားသည်။ ယင်းပျော်ရွှင်မှုအခြေအနေသည် အန္တရာယ်မှလွတ်မြောက်သူများအဖို့ သာမန်ငြိမ်းချမ်းပျော်ရွှင်မှုဖြစ်သည်။ သို့ ရာတွင် ယင်းသည် နိဗ္ဗာန်၏ အခြေအနေမှန် မဟုတ်ချေ[၂၂၀]။

(၃) တဒင်္ဂနိဗ္ဗာန်ဟူသည် အကယ်၍တစ်စုံတစ်ယောက်သည် သူ့အသက်သတ်ခြင်း၊ ခိုးခြင်း၊ မှားယွင်းသော အသက်မွေးမှုကဲ့သို့သော အကုသိုလ်မှုများကို ခဏတာရှောင်ကြဉ်ခြင်းဖြင့် ကိလေသာကို ပယ်ရှားနိုင်စွမ်းရှိလျှင် ထိုပုဂ္ဂိုလ်သည် ငြိမ်းချမ်းပျော်ရွှင်မှုကို ရရှိနိုင်သည်ဟု ဆိုလိုသည်။ ယင်းသည် တဒင်္ဂနိဗ္ဗာန်မည်သည်။ အကြောင်းမှာ တစ်စုံတစ်ယောက်သည် အကုသိုလ်မှုကိုပြုပြီး သူတစ်ပါးအား နှိပ်စက်ညှဉ်းပန်းလျှင် သူသည် ထိုအပြုအမူအတွက် စိုးရိမ်ရလျက် ယင်းအပြုအမူအတွက် ပူဆွေးသောကကို ခံစားရသည်။ ထို(ကိလေသာမဲ့)အခိုက်အတံ့၌ ၎င်း၏စိတ်တွင် အကုသိုလ်ဒုစရိုက်မှုများ မရှိသဖြင့် ယင်းကို တဒင်္ဂနိဗ္ဗာန်ဟုခေါ်သည်။ ယင်းကိုလည်း နိဗ္ဗာန်တစ်မျိုးဟု သတ်မှတ်သော်လည်း နောက်ဆုံး နိဗ္ဗာန်အဆင့်အဖြစ် မယူဆချေ[၂၂၁]။

(၄) ဝိက္ခမ္ဘနနိဗ္ဗာန်ဟူသည် ဈာန်ဝင်းစားသည့် အခြေအနေကို ရည်ညွှန်းခြင်းဖြစ်သည်။ ဝိက္ခမ္ဘနနိဗ္ဗာန်ဟူသည် ဤနေရာ၌ တည်ငြိမ်မှုဖြင့် ကိလေသာတို့ကို ဖယ်ခွာခြင်း သို့မဟုတ် တစ်စုံတစ်ခုသောကာလအထိ နီဝရဏတရားများ၏ လွှမ်းမိုးမှုကိုရပ်စဲခြင်း ဖြစ်သည်။ တစ်စုံတစ်ယောက်သည် နီဝရဏတရားငါးပါးကို ချုပ်တည်းပယ်ခွာနိုင်ခြင်းဖြင့် ဈာန်တရားကိုရရှိနိုင်သည်။ စိတ်၏ဆူးပြောင့်ခလုတ်ဖြစ်ပြီး စိတ်ပိုင်းကြည်လင်မှုကို တားဆီးတတ်သော နီဝရဏတရားငါးမျိုးရှိသည်။ လက်တွေ့ရှုထောင့်အရသော် ယင်းတရားများရှိနေခြင်းဖြင့် ဉပစာရသမာဓိနှင့် အပ္ပနာသမာဓိအဆင့်သို့ မရောက်နိုင်ချေ။ သို့ဖြစ်မူ အမှန်ကို မသိမြင်နိုင်တော့ချေ။ နီဝရဏတရားငါးပါးမှာ ၁) ကာမစ္ဆန္ဒနီဝရဏ ၂) ဗျာပါဒနီဝရဏ ၃) ထိနမိဒ္ဓနီဝရဏ ၄) ဥဒ္ဓစ္စနီဝရဏ ၅) ဝိစိကိစ္ဆာနီဝရဏတို့ဖြစ်သည်။ ဖော်ပြပါ နီဝရဏတရားငါးပါးရှိနေမူ ဈာန်တရားကို မရနိုင်။ သို့ဖြစ်၍ ယင်း (နီဝရဏတရားကင်းဆိတ်မှုသုခ)ကို သီအိုရီရှုထောင့်အရ ဝိက္ခမ္ဘနနိဗ္ဗာန်၌ သွင်းယူခြင်းဖြစ်သည်[၂၂၂]။

ဒိဋ္ဌဓမ္မနိဗ္ဗာန်နှင့် ပတ်သက်သော ဝိက္ခမ္ဘနနိဗ္ဗာန်အကြောင်းကို ရှင်းလင်းစွာ ရရှိနိုင်ရန် အင်္ဂုတ္တရနိကာယ်၊ ဒိဋ္ဌဓမ္မနိဗ္ဗာနသုတ်၌ မှတ်တမ်းတင်ထားခဲ့သည်ကို လေ့လာနိုင်သည်။ ယင်းပါဠိတော် ဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

> အရှင်ဘုရား အာနန္ဒာ၊ မျက်မှောက်နိဗ္ဗာန် (ယခုဘဝ၌ နိဗ္ဗာန်ကိုရရှိခြင်း) မျက်မှောက်နိဗ္ဗာန်ဟု ဆိုပါ၏၊ အဘယ်မျှဖြင့် မျက်မှောက်နိဗ္ဗာန်ဟု မြတ်စွာဘုရားဟောတော်မူပါသနည်း။ ငါ့ရှင်၊ ဤသာသနာတော်၌ ရဟန်းသည် ကာမတို့မှ ကင်းဆိတ်၍သာလျှင် အကုသိုလ်တရားတို့မှ ကင်းဆိတ်၍သာလျှင် ဝိတက် ဝိစာရနှင့်တကွဖြစ်သော နီဝရဏကင်းဆိတ်ခြင်းကြောင့်ဖြစ်သော ပီတိ သုခဖြင့်ပြည့်သော ပဌမဈာန်သို့ ဆိုက်ရောက်၍နေ၏။ ဤမျှဖြင့် မြတ်စွာဘုရားသည် မျက်မှောက်နိဗ္ဗာန်ဟု (ပရိယာယ်အားဖြင့်) ဟောတော်မူ၏[၂၂၃]။

အထက်ပါဖော်ပြချက်ကို အခြေခံ၍ နိဗ္ဗာန်သို့မရောက်မီ ကမ္မဋ္ဌာန်းရှုမှတ်သူသည် သန္ဒိဋ္ဌိကနိဗ္ဗာန် သို့မဟုတ် ဝိက္ခမ္ဘနနိဗ္ဗာန်ဟုခေါ်ဆိုသော ဈာန်ချမ်းသာကို တွေ့ကြုံခံစားကြောင်း သိရသည်။ ဤသည်မှာ တစ်စုံတစ်ယောက်သည် တစ်စုံတစ်ခုသော အချိန်အတိုင်းအတာအတွင်း နီဝရဏတရားတို့၏ပြတ်စဲမှုကို နားလည်ပြီး ယင်းအတွေ့အကြုံသည် နိဗ္ဗာန်ကို သိရှိမှုနှင့်တူသည်။ သို့တစေ ဤနေရာ၌ ဝိက္ခမ္ဘနနိဗ္ဗာန်သည် နိဗ္ဗာန်အစစ်အမှန်ကို လုံးဝနားလည်သွားခြင်းဖြစ်ကြောင်း မဆိုလိုချေ။ သို့တိုင်အောင် ယင်းကို သီအိုရီရှုထောင့်မှ ဝိက္ခမ္ဘနနိဗ္ဗာန်အဖြစ် ထည့်သွင်းဖော်ပြသည်။

---

[၂၂၀] Ni-Di, 714-716.

[၂၂၁] Ibid, 717-724.

[၂၂၂] Vi-M, 88-91.

[၂၂၃] အင်္ဂုတ္တရပါဠိ၊ အင်္ဂုတ္တရနိကာယ၊ အတွဲ ၃ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၄)၊ ၂၄၆-၂၄၇။ ကျမ်းပြုပုဂ္ဂိုလ်၏ အင်္ဂလိပ်ဘာသာပြန်ဖြစ်သည်။ ပါဠိတော်မူရင်းမှာ အောက်ပါအတိုင်းဖြစ်သည် - ဒိဋ္ဌဓမ္မနိဗ္ဗာနံ ဒိဋ္ဌဓမ္မနိဗ္ဗာနန္တိ အာဝုသော ဝုစ္စတိ၊ ကိတ္တာဝတာ နု ခေါ အာဝုသော ဒိဋ္ဌဓမ္မနိဗ္ဗာနံ ဝုတ္တံ ဘဂဝတာတိ။ ဣဓာဝုသော ဘိက္ခု ဝိဝိစ္စေဝ ကာမေဟိ ဝိဝိစ္စ အကုသလေဟိ ဓမ္မေဟိ သဝိတက္ကံ သဝိစာရံ ဝိဝေကဇံ ပီတိသုခံ ပဌမံ ဈာနံ ဥပသမ္ပဇ္ဇ ဝိဟရတိ။

(၅) သမုစ္ဆေဒနိဗ္ဗာန်ဟူသည် အရဟတ္တမဂ်စွမ်းရည်ဖြင့် ကိလေသာအားလုံးကို အကြွင်းမဲ့ပယ်သတ်မှုကို ဆိုလိုကြောင်း နားလည်ရသည်။ ကမ္မဋ္ဌာန်းရှုမှတ်သူသည် သမုစ္ဆေဒနိဗ္ဗာန်အဆင့်ကို ဝင်ရောက်နိုင်သည်။ ဤနေရာ၌ သမုစ္ဆေဒနိဗ္ဗာန်ဟူသည် 'ကိလေသာပြတ်စဲခြင်းဖြင့် ချုပ်ငြိမ်းခြင်း'ဟု အဓိပ္ပာယ်ရသည်။ မဂ်ဉာဏ်၏အစွမ်းဖြင့် ကိလေသာပြတ်စဲခြင်းမှာ သမုစ္ဆေဒကိစ္စဖြစ်သည်။ ကိလေသာအကြွင်းမဲ့ ပြတ်စဲခြင်းကြောင့်ဖြစ်သော ငြိမ်းချမ်းမှုအဆင့်ကို ရရှိခြင်းမှာ သမုစ္ဆေဒနိဗ္ဗာန်ဖြစ်သည်။ သမုစ္ဆေဒနိဗ္ဗာန်ဟူသောအမည်သည် ကိလေသာအကြွင်းမဲ့ ချုပ်ငြိမ်းခြင်းဟူသော သဉပါဒိသေသနိဗ္ဗာန်၊ ကိလေသနိဗ္ဗာန်ဟူသော ဝေါဟာရများနှင့် အဓိပ္ပာယ်တူသည်[၂၂၄]။

(၆) ပဋိပဿဒ္ဓိနိဗ္ဗာန်ဟူသည် သောတာပတ္တိဖိုလ်စိတ်ကို တိုက်ရိုက်ရည်ညွှန်းခြင်းဖြစ်သည်။ ဤနေရာ၌ ပဋိပဿဒ္ဓိနိဗ္ဗာန်ဟူသည် တည်ငြိမ်အေးချမ်းမှုဖြင့် ကိလေသာချုပ်ငြိမ်းခြင်းဟု ဆိုလိုသည်။ ယင်းသို့သော နိဗ္ဗာန်မျိုးကို ဤဘဝတွင် လက်ငင်းထင်ထင်ရရှိသော ပဋိပဿဒ္ဓိနိဗ္ဗာန်အဆင့်အဖြစ် နားလည်နိုင်သည်။ ခုဒ္ဒကနိကာယ်လာ၊ မင်္ဂလသုတ်တွင် ဤနိဗ္ဗာန်မျိုးကို အထူးပြုလျက် 'နိဗ္ဗာနသစ္ဆိကိရိယာ = ဤဘဝ၌ နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း'ဟု ဗုဒ္ဓရှင်တော်မြတ် ဖော်ပြတော်မူခြင်းဖြစ်သည်။ ယခုမျက်မှောက်ဘဝတွင် နိဗ္ဗာန်၏ငြိမ်းချမ်းသာယာမှုကို မျက်မှောက်ပြုနိုင်သောကြောင့် ယင်းနိဗ္ဗာန်အဆင့်ကို ပဋိပဿဒ္ဓိနိဗ္ဗာန်ဟုခေါ်သည်[၂၂၅]။

(၇) နောက်ဆုံးအနေဖြင့် အဆုံးစွန်နိဗ္ဗာန်ဟူသည် နိဿရဏနိဗ္ဗာန်ဖြစ်သည်။ ဤနိဗ္ဗာန်အမျိုးအစားမှာ ကိလေသာအလုံးစုံ ချုပ်ငြိမ်းခြင်း (သဉပါဒိသေသနိဗ္ဗာန်) နှင့် ဘဝအလုံးစုံချုပ်ငြိမ်းခြင်း (အနုပါဒိသေသနိဗ္ဗာန်) ဟူသော နိဗ္ဗာန်နှစ်မျိုးလုံးပါဝင်သည်။ ဤလေ့လာမှုသည် အဘိဓမ္မာအလိုအရ ပရမတ္ထသစ္စာဖြစ်သည့် ဤနိဿရဏနိဗ္ဗာန်အမျိုးအစားကို ပညာရှင်တို့နားလည်နိုင်ရန် အချက်အလက်များစွာကို ပေးထားသည်။ ဖော်ပြပါ နိဗ္ဗာန်အမျိုးအစားတို့၏ ရည်ရွယ်ချက်မှာ ဗုဒ္ဓဘာသာဝင်တို့သည် မည်သည့်နိဗ္ဗာန်အမျိုးအစားကို ပန်းတိုင်အနေဖြင့် အထူးပြုပြောဆိုကြောင်း ယင်းနိဗ္ဗာန်ကို မည်သည့်အတွက်ကြောင့် ပန်းတိုင်အဖြစ်ယူဆကြောင်း ရှင်းပြခြင်းဖြစ်သည်။ အဘယ်ကြောင့် ၎င်းတို့ ယင်းသို့ယူဆသည် ဟူသောအချက်နှင့် ပတ်သက်၍ ရိုးရှင်းသောအဖြေရှိသည်။ ယင်းကား ၎င်းတို့အနေဖြင့် ဘဝသံသရာ (ဘဝကြိမ်ဖန်ဖြစ်ခြင်းနှင့် အဆုံးမဲ့ဒုက္ခ) နှင့် ဆက်နွှယ်နေသောဆင်းရဲပင်ပန်းမှုမှ လွတ်မြောက်လိုသောကြောင့်ဖြစ်သည်။ အမှန်စင်စစ် အလုံးစုံလွတ်မြောက်ခြင်း နိဿရဏနိဗ္ဗာန်ကို နောက်ဆုံးနိဗ္ဗာန်၏ အဆုံးစွန်ငြိမ်းချမ်းမှု၌ ထည့်သွင်းသည်[၂၂၆]။

နိဗ္ဗာန်အမျိုးအစားနှင့် ပတ်သက်၍ ဖော်ပြပြီးနိဗ္ဗာန်အမျိုးအစားထက်ပင် ပိုများနိုင်သည်။ သစ္စာလေးပါးတရားမှ ကိလေသာ အဆုံးစွန်ချုပ်ငြိမ်းမှု သို့မဟုတ် တဏှာကြောင့်ဖြစ်သော ဆင်းရဲဒုက္ခအဆုံးစွန်ချုပ်ငြိမ်းမှုဟူသော နိရောဓသစ္စာဟူသည်ကို စဉ်းစားသင့်သည်။ နိရောဓသစ္စာဟူသည် နိဗ္ဗာန်ကို ဆိုလိုပြီး နိဗ္ဗာန်ဟူသည် နိရောဓသစ္စာပင်ဖြစ်သောကြောင့် နိဗ္ဗာန်ဟူသည်ကို တဏှာချုပ်ပြတ်မှုဟု ဖော်ပြနိုင်သည်။ သို့ဖြင့် နိဗ္ဗာန်သည် သီအိုရီအရ များစွာရှိနိုင်သည်။ ဥပမာအားဖြင့် စက္ခုပသာဒရုပ် (စက္ခာယတန)ကို တပ်မက်ခြင်းမှ ချုပ်ငြိမ်းခြင်းကို နိဗ္ဗာန်တစ်ခုအဖြစ် ယူဆနိုင်သည်။ ထိုအတူ သောတာယတန၊ ဃာနာယတန၊ ဇိဝှါယတန၊ ကာယာယတနနှင့် မနာယတနတို့ကို စွဲလန်းခြင်းမှ ချုပ်ငြိမ်းခြင်းတို့ကိုလည်း နိဗ္ဗာန်အဖြစ်ယူဆနိုင်သည်။ အာယတနခြောက်ပါးကို အခြေပြု၍ နိဗ္ဗာန်ခြောက်မျိုး ဖြစ်လာနိုင်သည်[၂၂၇]။

ထိုအတူ ရူပါရုံ သဒ္ဒါရုံစသော အာရုံခြောက်ပါးရှိပြန်သည်။ ဝိညာဏ်ခြောက်ပါး၊ သမ္ဖဿဝေဒနာခြောက်ပါး၊ သညာခြောက်ပါး၊ စေတနာခြောက်ပါး၊ သဉ္စေတနာခြောက်ပါး၊ တဏှာခြောက်ပါး၊ ဝိတက်ခြောက်ပါး၊ ဝိစာရခြောက်ပါး (လည်း) ရှိပြန်သည်။ ဤသို့ဖြင့် ခြောက်ဆယ်သော နိရောဓကိစ္စကိုရည်ညွှန်းလျက် နိဗ္ဗာန်အပြား စုစုပေါင်းခြောက်ဆယ်ရှိသည်[၂၂၈]။ သို့ဖြစ်၍ ဗုဒ္ဓဝါဒီတို့အနေဖြင့် အရိယာပုဂ္ဂိုလ်တစ်ယောက်သည် ချုပ်ငြိမ်းပုံကိစ္စအမျိုးမျိုးကို အမှီပြု၍ ချုပ်ငြိမ်းမှုပုံစံအမျိုးမျိုးကိုသိပြီးဖြစ်လျှင် နိဗ္ဗာန်အမျိုးပေါင်း ထောင်ချီ၍ရှိနိုင်ကြောင်း ဆိုနိုင်သည်။ သို့ရာတွင် နိဗ္ဗာန်၏တစ်ခုတည်းသော အနှစ်သာရမှာ သန္တိသုခဟူသော တစ်ခုတည်းသောတရား (ဧကော ဓမ္မော) ဖြစ်သည်။

> နိဗ္ဗာန်မှတစ်ပါး ငြိမ်းချမ်းသောတရားမရှိ။ နိဗ္ဗာန်ဟူသည် ငြိမ်းချမ်းမှုမှ တစ်ပါးအခြားမဟုတ်။ ငြိမ်းချမ်းမှုဟူသော ယင်းတရားသည် ဤနေရာ၌ သစ္စာတရားအဖြစ် ယူဆအပ်သောအရာတည်း။
> နာညာ နိဗ္ဗာနတော သန္တိ၊ သန္တံ န စ န တံ ယတော။

[၂၂၄] Ni-Di, 728-729.
[၂၂၅] ခုဒ္ဒကပါဠပါဠိ၊ ခုဒ္ဒကနိကာယ်၊ စာ- ၄။
[၂၂၆] Ni-Di, 731.
[၂၂၇] Ni-Di, 733.
[၂၂၈] Ni-Di, 734-735.

သန္တဘာဝနိယာမေန၊ တတော သစ္စမိဒံ မတံ။ (ဝိသုဒ္ဓိမဂ္ဂ ၂၊ ၁၂၀)

**နိဗ္ဗာန်ဟူသည် အလုံးစုံ ချမ်းမြေ့သောအရာလော**

ခုဒ္ဒကနိကာယ်၊ မိလိန္ဒပဉှပါဠိတော်၌ မှတ်တမ်းတင်ထားသော နိဗ္ဗာန်၏ ငြိမ်းချမ်းသောအခြေအနေနှင့် ပတ်သက်သည့် မိလိန္ဒမင်း၏ ဒဿနဆိုင်ရာ ငြင်းဆိုချက်တစ်ရပ်ရှိသည်။ အဓိကအကြောင်းအရာမှာ နိဗ္ဗာန်ဟူသည် လုံးဝငြိမ်းချမ်းသည့်သဘောလော သို့တည်းမဟုတ် ဒုက္ခနှင့် ရောနှောပတ်သက်ခြင်းရှိသလောဟုဖြစ်သည်။ အမှန်စင်စစ် မင်းကြီးငြင်းဆိုသည်မှာ နိဗ္ဗာန်သည် လုံးဝငြိမ်းချမ်းနိုင်သည်မဟုတ်ဘဲ ဆင်းရဲဒုက္ခနှင့် ရောနှောပတ်သက်ခြင်းရှိရမည်ဟု ဖြစ်သည်။ နိဗ္ဗာန်ကို ရှာဖွေနေကြသူအချို့၌ ဆင်းရဲဒုက္ခရောက်သည့် အထောက်အထားများတွေ့ရသောကြောင့် ယင်းသို့ယူဆထားခြင်းဖြစ်သည်။ ကမ္မဋ္ဌာန်းရှုမှတ်သူများ နိဗ္ဗာန်ကို ရရှိရန်ကြိုးပမ်းကြသောအခါ ကာမနယ်ပယ်လွှမ်းမိုးမှုကို အောင်မြင်ဖယ်ရှားရန် ကာမနယ်ပယ်၌ ကြိုးစားအားထုတ်ရသည်မှာ ထင်ရှားသည်။ ယောဂီပုဂ္ဂိုလ်များသည် ကာမဂုဏ်ပျော်ရွှင်မှုအားလုံးကို ဖျက်ဆီးရန်နှင့် ပုထုဇဉ်ပုဂ္ဂိုလ်များ ထင်ရှားစွာ တွယ်တာငြိကပ်နေသည့် ကာမဂုဏ်ပျော်ရွှင်မှုငါးမျိုးကို ဖယ်ရှားရန် ကြိုးပမ်းကြသည်။ နိဗ္ဗာန်ကို ရရှိခြင်းအတွက် ယောဂီပုဂ္ဂိုလ်များသည် ကိုယ်ခန္ဓာဆင်းရဲဒုက္ခရောက်ပြီး စိတ်အားဖြင့်လည်း ပြင်းထန်သောဝေဒနာကို ခံစားကြရသည်အထိ မိမိကိုယ်ကို များစွာနှိပ်စက်ညှဉ်းပန်းကြသည်။ သို့ဖြစ်၍ နိဗ္ဗာန်ဟူသည် လုံးဝချမ်းသာသောအရာမဟုတ်ဘဲ ဆင်းရဲဒုက္ခနှင့် ရောနှောနေရလိမ့်မည်ဖြစ်သည်။

မိလိန္ဒမင်း၏ယူဆချက်နှင့် ပတ်သက်၍ အရှင်နာဂသေနမထေရ်က နိဗ္ဗာန်ဟူသည် လုံးဝပျော်ရွှင်ချမ်းမြေ့သောနေရာဖြစ်ပြီး ဒုက္ခနှင့်ရောနှောခြင်းမရှိကြောင်း အတည်ပြုမြွက်ဆိုသည်။ အရှင်မြတ်၏ရပ်တည်ချက်မှာ နိဗ္ဗာန်ကိုရှာဖွေခြင်းသည် ဆင်းရဲဒုက္ခတစ်မျိုးဖြစ်သည်။ အကြောင်းမူ ယင်းသည် သာယာဖွယ်စက္ခုအာရုံ၊ သောတအာရုံ၊ ဃာနအာရုံ၊ ဇိဝှါအာရုံဟူသော သာယာဖွယ်အာရုံအားလုံးကို ယောဂီပုဂ္ဂိုလ်၏သန္တာန်မှ ဖယ်ရှားမှုနှင့် သက်ဆိုင်သောကြောင့်ဖြစ်သည်။ သို့တစေ ယင်းဆင်းရဲဒုက္ခကို နိဗ္ဗာန်ဟု မခေါ်ကြောင်း အရှင်မြတ်ကငြင်းဆိုသည်။ အမှန်စင်စစ် ယင်းသည် နိဗ္ဗာန်ကို ရရှိခြင်းအတွက် အခြေခံအဆင့်သာဖြစ်သည်။ အမှန်စင်စစ် နိဗ္ဗာန်တရားမူကား အလိုရမ္မက်ကြောင့်ဖြစ်သော ဆင်းရဲဒုက္ခနှင့် မပတ်သက်သောကြောင့် လုံးဝပျော်ရွှင်ချမ်းမြေ့သော အရာဖြစ်သည်[၂၂၉]။

ထို့ပြင် နိဗ္ဗာန်နှင့်ပတ်သက်၍ အထင်အရှားငြင်းခုံဖွယ် အခြားအချက်တစ်ရပ်ရှိသေးသည်။ ဥပမာ နိဗ္ဗာန်သည် အကယ်၍ အာရုံခြောက်ပါးနှင့် ပတ်သက်မှုမရှိခဲ့သော် နိဗ္ဗာန်သည် အခြားမည်သည့် ပျော်ရွှင်မှုနှင့်မျှပတ်သက်ခြင်းမရှိတော့ချေ။ ဤလောက၌ လူတို့သည် ပျော်ရွှင်မှုဟူသည် အာရုံခြောက်ပါး သို့မဟုတ် ရူပါရုံ သဒ္ဒါရုံစသည်နှင့် ဆက်နွယ်နေသည့် ပျော်ရွှင်မှုဟူသော အာရုံခြောက်ပါး၌တပ်မက်မှုနှင့် တိုက်ရိုက်ဆက်နွယ်သည်ဟု ထင်မှတ်ကြသည်။ ခံစားမှုကာမဂုဏ်အာရုံများကို လိုချင်တပ်မက်မှုမရှိဘဲ မည်သည့်အခြေအနေမျိုးဖြင့်မဆို ပျော်ရွှင်မှုရှိသည်ဟုဆိုရန် ခဲယဉ်းသည်။ ထိုအကြောင်းကြောင့် နိဗ္ဗာန်၌ ဝေဒနာနှင့် သညာမရှိတော့သဖြင့် ယင်းပျော်ရွှင်မှုနှင့် ပတ်သက်သည်ဟု မဆိုနိုင်။

အထက်ပါဖော်ပြချက်ကို နောက်ထပ်လေ့လာနိုင်ရန် အိပ်မောကျနေသည့် ဘုရင်ဥပမာဖြင့် ဖော်ပြလိုသည်။ ပင်ပန်းသည့်ခရီးရှည်မှ ရောက်ပြီးနောက် တစ်နေကုန်အိပ်မောကျနေသော ဘုရင်တစ်ပါးရှိသည်။ ၎င်းအိပ်မောကျနေစဉ် အခြွေအရံများက ညစာအတွက် အရသာအရှိဆုံး အစားအစာနှင့် ဇိမ်ကျသည့် ထိုင်ခုံစားပွဲများကို ပြင်ဆင်ထားသည်။ စားဖွယ်သောက်ဖွယ်တို့ဖြင့် အဆင်သင့်ဖြစ်သောအခါ အခြွေအရံများသည် ဘုရင်အားနှိုးကြသည်။ ၎င်းတို့၏တောင်းပန်မှုကြောင့် ဘုရင်ကြီးသည် မထချင်ဘဲထရသည်။ အခြွေအရံများ၏ အပြုအမူကြောင့် ဘုရင်ကြီးနှစ်သက်ခံရမည့်အစား မိမိကိုနှိုးသည့်အတွက် ၎င်းတို့အား ဘုရင်ကကြိမ်းမောင်းသည်။ ထိုအခါ အခြွေအရံများက 'အရှင်မင်းကြီး၊ အဘယ်ကြောင့် ကျွန်ုပ်တို့ကို စိတ်ဆိုးပါသနည်း။ အမှန်စင်စစ် ကျွန်ုပ်တို့သည် အရသာအရှိဆုံးအစားအစာဖြင့် (ပြင်ဆင်ထားသည့်) ဤညစာအတွက် နှိုးရခြင်းဖြစ်ပါသည်။ အမှန်စင်စစ် အရှင်မင်းကြီးအိပ်မောကျနေခြင်းသည် ပျော်ရွှင်ခံစားမှုနှင့် မသက်ဆိုင်ဘဲ ခံစားမှုမရှိသဖြင့် အိပ်မောကျနေခြင်း၌ ပျော်ရွှင်မှုမရှိနိုင်ပါ'ဟု လျှောက်ထားကြသည်။ သို့ရာတွင် မင်းကြီးက ဤသို့ဆိုသည် 'မှန်ပေသည်၊ မောင်မင်းတို့က ငါအိပ်မောကျခြင်းသည် ပျော်ရွှင်ခံစားမှုမရှိဟု ဆိုနိုင်သည်။ သို့ရာတွင် ငါ့ရဲ့အိပ်မက်မဲ့ အိပ်ပျော်မှုသည် အရသာမရှိသော်လည်း မောင်မင်းတို့ အရသာမွန်ထက် ငါပိုပြီးနှစ်ခြိုက်သည်။ နောင်အခါ အိပ်ပျော်နေခိုက် ငါ့ကို မနှောင့်ယှက်ကြနှင့်'။ ဤဖော်ပြချက်၌ အိပ်မောကျခြင်းသည် ခံစားမှုနှင့် မသက်ဆိုင်သည်မှာ မှန်သော်လည်း ယင်းသည် အမှန်တကယ် နှစ်သက်ဖွယ်ဖြစ်သည်။ ဤဥပမာ၌ နိဗ္ဗာန်၏ငြိမ်းချက်မှုသဘာဝကို အိပ်မောကျနေသည့်အခြေအနေနှင့်တူကြောင်း နားလည်နိုင်သည်။ သို့ရာတွင် နိဗ္ဗာန်၏ အမှန်တကယ်ငြိမ်းအေးမှုသဘာဝကို မည်သည့်အရာ

[၂၂၉] Q-Mi, 129-123.

နှင့်မျှ မနှိုင်းယှဉ်နိုင်ချေ။ အကြောင်းမူ နိဗ္ဗာန်သည် စကားလုံးများ၊ ရှင်းလင်းချက်များ သို့မဟုတ် ဖော်ပြချက်များ၏ တစ်ဖက်တွင် ရှိသောကြောင့်ဖြစ်သည်[၂၈၀]။

နိဗ္ဗာန်သည် သာယာဖွယ် အာရုံတရားများနှင့် ပတ်သက်သောခံစားမှု မရှိပုံကို နားလည်ရန် နည်းလမ်းတစ်ခုသာရှိသည်။ နှစ်သက်ဖွယ်အာရုံများမရှိဘဲ နိဗ္ဗာန်သည် ပျော်ရွှင်ချမ်းမြေ့သည်ဟူသည်ကို ထောက်ခံရန် အကြောင်းတရားတစ်ရပ်မှာ နိရောဓသမာပတ်ဝင်စားမှုဖြစ်သည်။ ခုနစ်ရက်မျှကြာနိုင်သော နိရောဓသမာပတ်ဝင်စားစဉ်အတွင်း သမာပတ်ဝင်စားသူသည် တစ်စုံတစ်ရာ မစားသောက်ဘဲ ဆက်တိုက် ကမ္မဋ္ဌာန်းရှုမှတ်သွားနိုင်သည်။ ထိုပုဂ္ဂိုလ်များသည် ယင်း လောကီလွန် အခိုက်အတန့်၌ အလွန်ငြိမ်းချမ်းပြီး ယင်းငြိမ်းချမ်းမှုဖြင့် ရောင့်ရဲနိုင်ကြသည်။ နိဗ္ဗာန်၏သဘာဝမှန်သည် မည်သို့သောငြိမ်း ချမ်းမှုမျိုးနှင့် သက်ဆိုင်သည်ဟူသည်ကို ရှင်းပြရန်မဖြစ်နိုင်လောက်အောင် နက်နဲခက်ခဲလှသည်။ ဤသည်မှာ နိဗ္ဗာန်အစစ်အမှန်သည် လူ့ဘာသာစကားနှင့် ဖွင့်ဆိုရှင်းပြသည့် နည်းလမ်းများဖြင့် မဖြစ်နိုင်သော လောကီလွန်အခြေအနေဖြစ်သည်[၂၈၁]။

ထို့အပြင် ခံစားမှုဖြင့် ပျော်ရွှင်မှု (ဝေဒယိတသုခ)နှင့် ခံစားမှုမဲ့ပျော်ရွှင်မှု (သန္တိသုခ) တို့၏ မတူညီပုံကို ခွဲခြားပြနိုင်သော် ယင်းနှစ်မျိုးခြားနားချက်ကို နှိုင်းယှဉ်နိုင်ပြီး မည်သည်ကပို၍ ကောင်းမွန်ကြောင်း နားလည်မည်ဖြစ်သည်။ ပျော်ရွှင်မှုနှစ်မျိုးတွင် ဝေဒယိတသုခကို ချမ်းသာမှု၊ အောင်မြင်မှု၊ အာဏာ၊ ကြီးစွာသောစည်းစိမ်နှင့် ပျော်ရွှင်ဖွယ်ခံစားမှုများရှိသည့် အရာအားလုံးဟူသော လောကီပိုင်ဆိုင်မှုများနှင့် ကြီးစွာကျေနပ်အားရမှုကြောင့် ကောင်းမွန်သော ခံစားမှုအဖြစ် ဖော်ပြနိုင်သည်။ ယင်းခံစားမှုမျိုးကို နှစ်သက်ဖွယ်အာရုံအဖြစ် တိုက်ရိုက်သိကြသည်။ ဆိုလိုသည်မှာ ခံစားမှုမရှိခဲ့သော် ပျော်ရွှင်မှုလုံးဝမရှိဟုဖြစ်သည်။ အမှန်သော် ဝေဒယိတသုခသည် ပျော်ရွှင်ဖွယ်ခံစားမှုများနှင့် သက်ဆိုင်သော လောကီပျော်ရွှင်မှုတစ်ရပ်သာဖြစ်သည်။ ယင်းသည် ပြုပြင်ခံအခြေအနေ (သင်္ခါရတရား)၌ အကျုံးဝင်သည်[၂၈၂]။

ယင်းနှင့်ဆန့်ကျင်လျက် သန္တိသုခဟူသည်ကို ဝေဒနာချုပ်ငြိမ်းမှုနှင့် တိုက်ရိုက်သက်ဆိုင်သော ပျော်ရွှင်မှုမျိုးအဖြစ် ရှင်းလင်းစွာပြဆိုသည်။ လက်တွေ့ရှုထောင့်အရသော် ဝေဒနာခံစားမှုမရှိသော်လည်း နိဗ္ဗာန်၌ လုံးဝချမ်းသာသည်။ ယင်း နိဗ္ဗာန်ကို သန္တိသုခ (ဝေဒနာမဲ့ချမ်းသာမှု)၊ ဝိမုတ္တိသုခ (လွတ်မြောက်မှုချမ်းသာ) ဟုခေါ်သည်။ ဗုဒ္ဓဝါဒကျမ်းဂန်များ၌ နိဗ္ဗာန်ဟူသည်ကို လောကုတ္တရာချမ်းသာ ပြုပြင်ခံမဟုတ်သော ငြိမ်းချမ်းမှုလက္ခဏာရှိသော နိဗ္ဗာနဓာတ်ဟု ရည်ညွှန်းဖော်ပြကြသည်။ နိဗ္ဗာန်ရှိ ယင်းလုံးဝငြိမ်းချမ်းမှုမျိုးသည် စိတ်ပိုင်းနှင့်ရုပ်ပိုင်းဆိုင်ရာ အနှောင်အယှက်များမှ လွတ်မြောက်မှု၊ နောက်ဆုံး၌ အိုခြင်း နာခြင်းနှင့် သေခြင်းမှလွတ်မြောက်မှုကြောင့် ဖြစ်ပေါ်လာသည်။ သန္တိသုခဟူသည် သာယာဖွယ်ခံစားမှု သို့မဟုတ် မည်သည့်ကာမအာရုံခံစားနှင့်မှ မသက်ဆိုင်ဘဲ ထူးကဲသာလွန်သည့် လောကုတ္တရာချမ်းသာမှုတစ်မျိုးဖြစ်ကြောင်း နားလည်ရသည်။ အမှန်သော် ဗောဓိဉာဏ်ကို ရပြီးသူများသာ ၎င်းတို့၏ မဂ်ဉာဏ်ဖိုလ်ဉာဏ်ထူးဖြင့် ယင်းထူးကဲ မြင့်မြတ်သော ချမ်းသာကို နားလည်နိုင်ကြသည်[၂၈၃]။

## နိဗ္ဗာန်သည် သံသရာ၌ ရှိသလော

နိဗ္ဗာန်အကြောင်းအရာသည် ရွှေကျင်ဆရာတော်၊ လယ်တီဆရာတော်၊ မဟာစည်ဆရာတော်ကဲ့သို့သော ဗုဒ္ဓဘာသာပညာရှင်များနှင့် (ဗုဒ္ဓဝါဒီ) စတီဗင်ကောလင်းစ် (Steven Collins) နှင့် ဂိုင်ရစ်ချတ် ဝဲလ်ဘုန်း (Guy Richard Welbon) ကဲ့သို့သော ဗုဒ္ဓဘာသာဝင်မဟုတ်သူ ပညာရှင်များကိုပင် တစ်နည်းနည်းဖြင့် ဆွဲဆောင်မှုရှိသည်။ ဗုဒ္ဓဝါဒ၌ တရားဓမ္မများနှင့် ယင်းတို့ကို အဓိပ္ပာယ်ဖွင့်ဆိုချက်တို့မှာ နည်းပညာနှင့် ယုတ္တိနည်းအခြေအမြစ်များနှင့် ပတ်သက်သည်။ ယင်းတို့သည် အဆိုအမိန့်နှင့် လက်တွေ့အမြင်တို့နှင့် ဆက်စပ်သည်။ သုည ကင်းဆိတ်ခြင်းအယူအဆနှင့် နိဗ္ဗာန်၏အလုံးစုံချုပ်ငြိမ်းမှုကဲ့သို့သော ဓမ္မရေးရာအဓိပ္ပာယ်ဖွင့်ဆိုမှုအချို့မှာ အနောက်တိုင်းတွေးခေါ်မှု၌ ရှုပ်ထွေးနိုင်ဖွယ်ရှိသည်။ ဤနေရာ၌ ဖရစ်ချ်ရစ်ချ် မက်ခ်စ် မူလာ (Frichrich Max Muller)လို အနောက်တိုင်းပညာရှင်အချို့က နိဗ္ဗာန်ကို 'အကြွင်းမဲ့ချုပ်ငြိမ်းသွားခြင်း'ဟု အဓိပ္ပာယ်ဖွင့်ဆိုခဲ့ကြသည်[၂၈၄]။ ထို့ကြောင့် နိဗ္ဗာန်ဟူသည်ကို သီအိုရီအရရှင်းပြရန်နှင့် ဗုဒ္ဓဝါဒကမည်သို့ဆိုသည်ကို ဝေဖန်ရန် နိဗ္ဗာန်နှင့်ပတ်သက်သည့် အချက်အလက်အများအပြားကို အသေးစိတ်ဆွေးနွေးထားပြီဖြစ်သည်။

[၂၈၀] အရှင်ဇနကာဘိဝံသ၊ ဆရာတော်၊ အဘိဓမ္မတ္ထသင်္ဂဟဘာသာဋီကာ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၇၉)၊ ၆၄၀-၆၄၁။
[၂၈၁] Vi-M-Tran., 735.
[၂၈၂] Ni-Di, 706-708.
[၂၈၃] Ibid, 706-707.
[၂၈၄] Welbon, 113.

သို့ရာတွင် လက်တွေ့ရှုထောင့်မှ နိဗ္ဗာန်ကို မည်သို့ရရှိသည်ဟူသောအချက်နှင့်ပတ်သက်၍ ဆွေးနွေးရန် အမှန်ပင် လိုအပ်နေသေးသော်လည်း ယင်းကို အခန်း ၅ ၌ ဆွေးနွေးမည်ဖြစ်သည်။

အမှန်စင်စစ် ဗုဒ္ဓဝါဒ၌ အချက်အလက်များသည် အလွန် နည်းစနစ်ကျလျက် ညီညွတ်မှုရှိပြီး ကြောင်းကျိုးဆီလျော်သည်။ ဥပမာဆိုသော် နိဗ္ဗာန်ကို ဓမ္မဓာတ်၌ ထည့်သွင်းထားသည်။ ဤ၌ အခြေခံသဘောတရားကို ဓာတုဟုခေါ်သည်။ အကြောင်းမူ ကိုယ်ပိုင် တည်မြဲသောသဘာဝ ရှိသောကြောင့် (ဓာရေတီတိ ဓာတု) ဖြစ်သည်။ ယင်းဖော်ပြချက်မျိုးသည် နည်းပညာနှင့် သက်ဆိုင်သော်လည်း ဘာသာစကားအမျိုးမျိုးကို ပြောဆိုကြလင့်ကစား ဗုဒ္ဓဝါဒီများအတွက်ရော ဗုဒ္ဓဝါဒီမဟုတ်သူများအတွက်ပါ ရှင်းလင်းသည်။ သို့တစေ အချို့ဖော်ပြချက်များမှာ ဗုဒ္ဓဝါဒအစဉ်အလာတစ်ခုတည်းအတွင်းမှာပင် ရှုပ်ထွေးပုံရသည်။ ဥပမာအားဖြင့် အဘိဓမ္မတ္ထသင်္ဂဟကျမ်း၌ နိဗ္ဗာန်ကို ခန္ဓာငါးပါးမှ ထုတ်ပယ်သည် (ခန္ဓဝိမုတ္တ၊ ခန္ធသင်္ဂဟနိဿဋ္ဌ)။ ဆိုလိုသည်မှာ နိဗ္ဗာန်သည် ဝိညာဏက္ခန္ဓာ၊ စေတသိက္ခန္ဓာနှင့် ရူပက္ခန္ဓာတို့၌ မပါဝင်ဟု ဖြစ်သည်[၂၄၅]။ ယမကအဋ္ဌကထာ (အဘိဓမ္မအဋ္ဌကထာ)၌ နိဗ္ဗာန်ကို စိတ်၊ စေတသိက် မဟုတ်ဘဲ (ယင်းတို့မှသီးခြား) နာမ်တရား၌ ထည့်သွင်းဖော်ပြသည်။ သို့ရာတွင် နိဗ္ဗာန်ကို နာမ်တရားတစ်မျိုးအဖြစ်ယူဆသောကြောင့် နာမ်တရားအုပ်စု၌ ထည့်သွင်းခြင်းဖြစ်သည်။ အကြောင်းမူ နိဗ္ဗာန်သည် လောကုတ္တရာ စိတ်စေတသိက်တို့၏ အာရုံအပြုခံတရားအဖြစ် ပါဝင်လျက် ယင်းတို့ကို မိမိ(နိဗ္ဗာန်)သို့ ညွတ်စေသည်[၂၄၆]။ သို့ဖြစ်၍ ယမကအဋ္ဌကထာ၌ '**နာမဓမ္မာ**တိ နာမသင်္ခါတာ ဓမ္မာ၊ တေ အတ္ထတော စတ္တာရော အရူပိနော ခန္ဓာ နိဗ္ဗာနဉ္စ (နာမဓမ္မာ ဟူသည် နာမ်တရားတို့တည်း။ ယင်းတို့မှာ သရုပ်အားဖြင့် ဝေဒနာ သညာ သင်္ခါရ ဝိညာဏဟူသော နာမ်ခန္ဓာလေးပါးနှင့် နိဗ္ဗာန်တို့တည်း)ဟု ဖော်ပြသည်[၂၄၇]။ အမှန်စင်စစ် ယင်းဖော်ပြချက်များမှာ ပါဠိအဋ္ဌကထာကျမ်းတို့၌ နောက်ဆက်တွဲ ဖော်ပြခြင်းဖြစ်သည်။ အဘိဓမ္မတ္ထသင်္ဂဟ၌ အောက်ပါအတိုင်းဖော်ပြသည် 'တတ္ထ ရူပဓမ္မာ ရူပက္ခန္ဓောဝ၊ စိတ္တစေတသိကသင်္ခါတာ စတ္တာရော အရူပိနော ခန္ဓာ နိဗ္ဗာနဉ္စေတိ ပဉ္စဝိဓမ္ပိ အရူပန္တိ စ နာမန္တိ စ ပဝုစ္စတိ' (ထိုရုပ်နာမ်တရားနှစ်ပါးတို့တွင် ရူပက္ခာသည် ရုပ်တရားမည်၏။ စိတ်စေတသိက်ဟူသော နာမ်ခန္ဓာလေးပါးနှင့် နာမ်တရားဟူသော တရားငါးမျိုးကို ရုပ်မဲ့တရားဟုလည်းကောင်း နာမ်တရားဟုလည်းကောင်း ခေါ်သည်)[၂၄၈]။

ယင်းဖော်ပြချက်သည် အဘိဓမ္မာပိဋ္ဋက ကထာဝတ္ထုပါဠိ၌ တွေ့ရသည့် ဖော်ပြချက်နှင့်လည်း ညီညွတ်သည်။ ယင်းဖော်ပြချက်မှာ 'အညေ ခန္ဓာ၊ အညံ နိဗ္ဗာနံ၊ အညော ပုဂ္ဂလောတိ န ဟေဝံ ဝတ္တဗ္ဗေ (ခန္ဓာငါးပါး၊ နိဗ္ဗာန်၊ မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရပြီးသူတို့သည် တစ်ခုနှင့်တစ်ခု လုံးဝခြားနား၏ မဆိုသင့်ချေ)[၂၄၉]။ အကြောင်းမူ နိဗ္ဗာန်သည် ခန္ဓာကိုအမှီပြု၍ ဖြစ်ပေါ်လာသောကြောင့်တည်း။ သို့ဖြစ်၍ နိဗ္ဗာန်နှင့် ခန္ဓာငါးပါးကို တစ်သီးတစ်ခြားစီမဟုတ်ဟု ယူဆခြင်းဖြစ်သည်[၂၅၀]။ သို့ရာတွင် ခန္ဓာငါးပါးသည်ပင် နိဗ္ဗာန်ကားမဟုတ်ချေ။ ဆိုလိုသည်မှာ အရိယာပုဂ္ဂိုလ်တစ်ယောက်သည် နိဗ္ဗာန်ကို ရသည်နှင့်တစ်ပြိုင်နက် နောက်ဆုံးနိဗ္ဗာန် အတိအကျဆိုသော် နိဗ္ဗာနဓာတ်သည် ထိုပုဂ္ဂိုလ်၏ပရိနိဗ္ဗုတအခါတွင် တစ်ပြိုင်နက်ဖြစ်ပေါ်သည်။ အရိယာပုဂ္ဂိုလ်များသည် နိဗ္ဗာနဓာတ်အနေဖြင့် သာလွန်မြင့်မြတ်သော တရားအဖြစ်ယူဆသော်လည်း မိန်းမဖြစ်စေ ယောကျ်ားဖြစ်စေ ရဟန္တာအနေဖြင့်ရှိသောကြောင့် ၎င်းတို့အတွက် ခေါ်ဝေါ်စရာ အခြားအမည်နာမများ မရှိတော့ချေ။ အကြောင်းမူ နောက်ဆုံးနိဗ္ဗာန်သို့ ရောက်သွားပြီဖြစ်သောကြောင့်တည်း။

အဆုံးစွန်နိဗ္ဗာန်သို့မဝင်မီ အရိယာပုဂ္ဂိုလ်တို့သန္တာန်၌ရှိသော ယင်းပြောင်းလဲတတ်သည့်နိဗ္ဗာန်နှင့် နောက်ဆုံးနိဗ္ဗာန်သို့ ဝင်ရောက်သွားပြီးနောက် ယင်းနိဗ္ဗာန်ဟူသောအရာ ပျောက်သွားမှုမှာ ဖွင့်ဆိုရှင်းပြရာ၌ အလွန်ရှုပ်ထွေးလှသည်။ သို့ရာတွင် အဘိဓမ္မာဗဟုသုတ ရှိသူများအဖို့မူ နိဗ္ဗာန်၌ စိတ်ပိုင်းအခြေအနေတို့ မည်သို့ဖြစ်ပေါ်သည်ကို နားလည်ကောင်းနားလည်နိုင်ရာသည်။ နိဗ္ဗာန်အကြောင်းကို ဆွေးနွေးခဲ့ကြသည့် ထင်ရှားသော ပညာရှင်နှစ်ဦးရှိသည်။ ယင်းပုဂ္ဂိုလ်နှစ်ဦးအနက် ရွှေကျင်ဆရာတော်သည် 'အညေ ခန္ဓာ၊ အညံ နိဗ္ဗာနံ၊ အညော ပုဂ္ဂလောတိ န ဟေဝံ ဝတ္တဗ္ဗေ (ခန္ဓာငါးပါး၊ နိဗ္ဗာန်၊

---

[၂၄၅] Ab-S, 128.

[၂၄၆] ပါဠိ အဋ္ဌကထာတို့၌ ရုပ်မဟုတ်သည့် ခန္ဓာလေးပါးကို ကိစ္စအားဖြင့် အာရုံကို အသိအမှတ်ပြုခြင်းအားဖြင့် အာရုံသို့ညွတ်တတ်သောကြောင့် နာမ်တရားဟု ခေါ်သည်။ ယင်း (ခန္ဓာလေးပါး) သည် အာရုံသို့ အချင်းချင်းညွတ်စေတတ်သောကြောင့်လည်း နာမ်တရားဟု ခေါ်သည်။ ညွတ်စေတတ်သောကြောင့် နိဗ္ဗာန်ကို နာမ်ဟုခေါ်သည်။ နိဗ္ဗာန်နှင့်ပတ်သက်ရာ၌ နိဗ္ဗာန်သည် လောကုတ္တရာ စိတ်စေတသိက်တို့၏ အာရုံအပြုခံတရားအဖြစ်ပါဝင်လျက် ယင်းတို့ကို မိမိ (နိဗ္ဗာန်)သို့ ညွတ်စေသည်။

[၂၄၇] ဘဒ္ဒန္တဗုဒ္ဓဃောသတ္ထေရ၊ ပဉ္စပကရဏအဋ္ဌကထာ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၂)၊ ၂၉၁။

[၂၄၈] Ab-S, 325.

[၂၄၉] ကထာဝတ္ထုပါဠိ၊ အဘိဓမ္မာပိဋ္ဋက (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီဌာန၊ ၁၉၉၁)၊ ၅၃။

[၂၅၀] G-M-Ni, 220.

မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရပြီးသူတို့သည် တစ်ခုနှင့်တစ်ခု လုံးဝခြားနား၏ မဆိုသင့်ချေ)’ဟူသော ကိုးကားချက်ကို အခြေပြု၍ ၎င်း၏ယူဆချက်ကို အခိုင်အမာဆိုခဲ့သည်။ အမှန်သော် အရိယာပုဂ္ဂိုလ်တို့ ကွယ်လွန်ပြီးနောက်မကြာမီ တစ်ချိန်တည်း လောက်နီးပါးတွင် နိဗ္ဗာန်ဖြစ်ပေါ်သည်။ ဆရာတော်သည် နိဗ္ဗာန်ဖြစ်စဉ်မည်သို့ ပေါ်လာသည်ကို အောက်အပါအတိုင်း ဖော်ပြခဲ့သည်[၂၄၁] -

ဇယား ၄

နိဗ္ဗာနဝီထိ

| | | နောက်ဆုံးစိတ် | |
|---|---|---|---|
| အာရုံ = နိဗ္ဗာန်သို့ကိုင်းညွတ်သော စိတ်အာရုံ | | | နိဗ္ဗာန်၏အဆုံးစွန်ငြိမ်းချမ်းမှု |
| | | ----- | |
| ဘွင် ဘွင် ဘွင် ဘွင် ဘွင် | န ဒ မ ဇ ဇ ဇ ဇ ဇ | စု | နိဗ္ဗာန် |
| ဘဝဟောင်း | | | (ပဋိသန္ဓေစိတ်မဖြစ်) |

အတိုကောက်။ ။ ဘွင် = ဘဝင်၊ န = ဘဝင်္ဂစလန၊ ဒ = ဘဝင်္ဂုပစ္ဆေဒ၊ မ = မနောဒွါရာဝဇ္ဇန၊ ဇ = ဇဝန၊ စု = စုတိ[၂၄၂]။

ရွှေကျင်ဆရာတော်သည် ယခင်က ဗုဒ္ဓဝါဒကျမ်းဂန်တို့၌ နိဗ္ဗာနဝီထိကို ရှေးဆရာတို့ မပြဆိုခြင်းမှာ နိဗ္ဗာန်ဟူသည် ခန္ဓာငါးပါးဖြစ်စဉ်၌ တိုက်ရိုက်မပါဝင်သောကြောင့်ဖြစ်ကြောင်း ထောက်ပြခဲ့သည်။ သို့တစေ နိဗ္ဗာန်သည် အရိယာပုဂ္ဂိုလ်တို့ ကွယ်လွန်ပြီးနောက် ချက်ချင်း ဖြစ်ပေါ်လာသောကြောင့် အထက်တွင်ဖော်ပြသည့်အတိုင်း နိဗ္ဗာနဝီထိကို ဖော်ပြနိုင်သည်။ သို့ရာတွင် ဆရာတော်၏ဖော်ပြချက်သည် ‘နိဗ္ဗာနမ္ပိ ခန္ဓပဋိဗဒ္ဓမေဝ = နိဗ္ဗာန်သည်လည်း ခန္ဓာငါးပါး၌အကျုံးဝင်သည်သာတည်း’[၂၄၃]၊ ‘ပဉ္စန္နံ ခန္ဓာနံ နိရောဓော နိဗ္ဗာနံ = ခန္ဓာငါးပါးတို့၏ ချုပ်ငြိမ်းခြင်းသည် နိဗ္ဗာန်တည်း’[၂၄၄] ဟူသော ပါဠိကျမ်းဂန်များကို အခြေပြု၍ဆိုခြင်းဖြစ်သည်။

နိဗ္ဗာန်တည်ရှိသည့်နေရာနှင့်နှင့် ပတ်သက်၍ ရွှေကျင်ဆရာတော်သည် နိဗ္ဗာန်သည် ခန္ဓာနှင့်ပတ်သက်စွာ တည်ရှိနေသော်လည်း ခန္ဓာငါးပါးသည် နိဗ္ဗာန်မဟုတ်ဟု ယုံကြည်သည်။ ယင်းသို့ ဖော်ပြရခြင်းအကြောင်းမှာ နိဗ္ဗာန်ကို လောကနိရောဓ (လောကချုပ်ရာ)အဖြစ် ယူဆပြီး နိဗ္ဗာန်သည် ခန္ဓာငါးပါးမှတစ်ပါး အခြားပေါ်လာမည့် နေရာမရှိသောကြောင့်ဖြစ်သည်။ ဆိုလိုသည်မှာ အရိယာပုဂ္ဂိုလ်တစ်ယောက် အသက်ထင်ရှားရှိစဉ် လောကနိရောဓအခြေအနေသည် ထိုပုဂ္ဂိုလ်၏ ခန္ဓာငါးပါး၌ ဖြစ်ပေါ်လာသည်ဟု ဆိုလိုသည်။ အမှန်စင်စစ် နိဗ္ဗာန်သည် အရိယာပုဂ္ဂိုလ်တို့သန္တာန်၌ အခြားတစ်နေရာမှ ဖြစ်ပေါ်လာသည်မဟုတ်ချေ[၂၄၅]။

နောက်ဗုဒ္ဓဘာသာပညာရှင်တစ်ယောက်ဖြစ်သူ ဘိက္ခုဗုဒ္ဓဒါသမထေရ်က အခြားရှုထောင့်တစ်မျိုးဖြင့် နိဗ္ဗာန်၏အခြေအနေကို ဖော်ပြခဲ့သည်။ နိဗ္ဗာန်၏ သရုပ်သကန်ကို ရှင်းလင်းစွာဖော်ပြရန် ထိုအရှင်က ‘နိဗ္ဗာန်သည် သံသရာ၌ ရှိ၏’[၂၄၆]ဟုဆိုသည်။ ၎င်း၏ရှင်းပြချက်မှာ ‘နိဗ္ဗာန်သည် သံသရာ၌တည်ရှိ၏’ ဆိုသော်လည်း ‘နိဗ္ဗာန်ဟူသည် သံသရာဖြစ်၏၊ သံသရာဟူသည် နိဗ္ဗာန်တည်း’ဟူသော အယူအဆကိုမူ ၎င်းက ငြင်းဆိုသည်။ ယင်းသို့ဖော်ပြရခြင်းမှာ အရိယာပုဂ္ဂိုလ်တို့သည် နိဗ္ဗာန်ကိုရသည်အထိ သံသရာ၌ ကျင်လည်ကြရသောကြောင့်ဖြစ်သည်။ ၎င်းက ဤသို့ဆိုသည် ‘နိဗ္ဗာန်သည် သံသရာ၌

[၂၄၁] Ka, 53.
[၂၄၂] Ibid, 187.
[၂၄၃] ဘဒ္ဒန္တဓမ္မပါလ၊ ဝိသုဒ္ဓိမဂ္ဂဋီကာ၊ တွဲ ၂ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၃)၊ ၇၀။
[၂၄၄] ဘဒ္ဒန္တဗုဒ္ဓဃောသတ္ထေရ၊ မဟာဝဂ္ဂအဋ္ဌကထာ၊ ဒီဃနိကာယ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၂)၊ ၁၄၇။
[၂၄၅] G-M-Ni, 53.
[၂၄၆] Bhikkhu Buddhadasa, *Nibbana Exists in Samsara*, in *Me and Mire* (New Your: State University of New Your Press, 1989), 141.

တည်ရှိ၏၊ အန္တပုထုဇဉ်သည် ယင်းနိဗ္ဗာန်ကို ဘယ်တော့မှ သိမြင်နိုင်လိမ့်မည်မဟုတ်၊ ကလျာဏပုထုဇဉ်မူကား မိမိခန္ဓာကိုယ်အပြင်၌ ရှာဖွေရန်မလိုဘဲ တွေ့မြင်လိမ့်မည် ကျွန်ုပ် ယူဆပါသည်'[၂၄၇]။ အမှန်စင်စစ် ဖော်ပြပါ ထင်ရှားသော ပညာရှင်နှစ်ပါးလုံးသည် ၎င်းတို့၏ယူဆချက်ကို သံယုတ္တနိကာယ်လာ ရောဟိတဿသုတ္တန်ကို တူညီစွာ ကိုးကားလျက် မိမိတို့၏အယူအဆကို မိန့်ဆိုကြခြင်းဖြစ်သည်။ ယင်းပါဠိတော်မှာ အောက်ပါအတိုင်းဖြစ်သည် -

န ခေါ ပနာဟံ အာဝုသော အပတွာ လောကဿ အန္တံ ဒုက္ခဿ အန္တကိရိယံ ဝဒါမိ။ အပိ စ ခွာဟံ အာဝုသော ဣမသ္မိံယေဝ ဗျာမမတ္တေ ကလေဝရေ သသညိမှိ သမနကေ လောကဉ္စ ပညပေမိ လောကသမုဒယဉ္စ လောကနိရောဓဉ္စ လောကနိရောဓဂါမိနိဉ္စ ပဋိပဒန္တိ[၂၄၈]။
အချင်းနတ်သား၊ လောက၏အဆုံး(နိဗ္ဗာန်)ကို မရောက်ဘဲ ဆင်းရဲ၏အဆုံးပြုခြင်းကို ငါမဟောတော်မူ။ အချင်းနတ်သား၊ စင်စစ်အားဖြင့် သညာလည်းရှိ စိတ်လည်းရှိသော တစ်လံမျှလောက်သော ဤခန္ဓာကိုယ်၌ လောက(ဒုက္ခသစ္စာ)၊ လောကဖြစ်ကြောင်း (သမုဒယသစ္စာ)၊ လောကချုပ်ရာနိဗ္ဗာန် (နိရောဓသစ္စာ)နှင့် လောကချုပ်ရာနိဗ္ဗာန်သို့ရောက်ကြောင်းအကျင့် (မဂ္ဂသစ္စာ) ကို ငါဘုရားဟောတော်မူ၏[၂၄၉]။

အထက်ပါဖော်ပြချက်အရ ဒုက္ခငြိမ်းခြင်း (ဒုက္ခနိရောဓ)ဟူသည် တဏှာငြိမ်းခြင်းဖြစ်ကြောင်း နားလည်ရသည်။ ဘဝကို တပ်နှစ်သက်မှုတဏှာသည် သီအိုရီအရ နိဗ္ဗာန်၏ဆန့်ကျင်ဘက်ဖြစ်သည်။ ခုဒ္ဒကနိကာယ်၊ နေတ္တိပါဠိတော်၌ ဖော်ပြထားချက်တစ်ရပ်မှာ 'တဏှက္ခယာ ဒုက္ခက္ခယော၊ ဒုက္ခက္ခယာ နိဗ္ဗာနံ (တဏှာကုန်ခြင်းကြောင့် ဒုက္ခချုပ်၏၊ ဒုက္ခချုပ်ခြင်းကြောင့် နိဗ္ဗာန်ဖြစ်ပေ၏)'[၂၅၀] ဟုဖြစ်သည်။ ယင်းဖော်ပြချက်၌ ရှေးကျင်ဆရာတော်သည် ဒုက္ခကုန်ခြင်းကြောင့် နိဗ္ဗာန်ဖြစ်ပေါ်သည်ဆိုသော်လည်း ဒုက္ခကုန်ဆုံးသွားခြင်းမှာ နိဗ္ဗာန်ကြောင့် မဟုတ်ကြောင်း အထူးပြုဖော်ပြခဲ့သည်။
ထို့ပြင် အထက်ပါဖော်ပြချက်၌ ဘိက္ခုဗုဒ္ဓဒါသမထေရ်က ၎င်း၏ မူရင်းခံယူချက်ကို ပြန်လည်ဖြေရှင်းခဲ့သည် -

နိဗ္ဗာန်နှင့် သံသရာသည် ကျွန်ုပ်တို့၏ ဤတစ်လံမျှလောက်သော ခန္ဓာကိုယ်၌ တည်ရှိ၏။ နိဗ္ဗာန်ကို ပြီးပြည့်စုံစွာမရောက်သေးမူ တစ်ခါတစ်ရံ နိဗ္ဗာန်၌ တစ်ခါတစ်ရံ သံသရာ၌ စဉ်ဆက်မပြတ် တပြောင်းပြန်ပြန် ကျင်လည်ရလိမ့်မည်။ ကျွန်ုပ်တို့၏ ကာမဂုဏ်အာရုံများကို ယူနေသရွေ့၊ ငါ ငါ့ဥစ္စာဟု စွဲလန်းနေသရွေ့ ကျွန်ုပ်တို့သည် သံသရာတွင်ရှိကြ၏။ ကျွန်ုပ်တို့၏ မသိမှုအဝိဇ္ဇာဖြင့်စွဲလမ်းမှုကို ကျော်လွန်သောအခါ ကျွန်ုပ်တို့သည် အဆုံးမဲ့ မပြောင်းမလဲထာဝရတည်ရှိသော နိဗ္ဗာန်ကို သိရှိနိုင်၏[၂၅၁]။

ထိုအရှင်မြတ်၏ဖော်ပြချက်၌ 'နိဗ္ဗာန်သည် ထာဝရ (နိစ္စ) တည်မြဲ၏ (သဿတ)'ဟူသည် ကိလေသာအညစ်အကြေးအားလုံးကို ဖယ်ခွာပြီးနောက် ထာဝရတည်မြဲသော နိဗ္ဗာန်ကို ရရှိနိုင်သည်ဟု ဖြစ်သည်။ ယင်းသို့သော နိဗ္ဗာန်၏ငြိမ်းချမ်းမှုသည် သံသရာသို့ လုံးဝပြန်မရောက်နိုင်တော့ချေ။ သို့ဖြစ်၍ နိဗ္ဗာန်ဟူသည် ထာဝရတည်မြဲပြီး လုံးဝငြိမ်းချမ်းသောအရာဖြစ်သည်ဟု ယူဆသည်။

**နိဗ္ဗာန်နှင့်ပတ်သက်၍ ဝေဖန်မှုများ**
နိဗ္ဗာန်အား လုံးဝချုပ်ပျောက်သွားခြင်းအနေဖြင့် ယူဆခြင်းနှင့်ပတ်သက်၍ ဝေဖန်ဆွေးနွေးပါမည်။ ဗုဒ္ဓဝါဒကျမ်းဂန်တို့၌ ဖော်ပြချက်နှင့် နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုသူတို့ ယူဆချက်နှစ်ရပ်အကြား ဆက်နွယ်ပတ်သက်မှုကို ဆင်ခြင်ရန်လိုသည်။ ဗုဒ္ဓဝါဒသည် ယင်း၏တရားဓမ္မကို တွေးခေါ်မြော်မြင်မှုဆိုင်ရာ ဟောကြားချက်များအဖြစ် အသုံးပြုရန်မကြိုးစားဘဲ တရားဓမ္မကို လက်တွေ့အသုံးဝင်မှုအတွက် ဖွင့်ဆိုသည်။ နိဗ္ဗာန်၏ အဆုံးစွန်ပြတ်စဲမှုဆိုင်ရာ ဝေဖန်ပြောဆိုချက်နှင့် ပတ်သက်၍ အကယ်၍ နိဗ္ဗာန်အား ပြတ်စဲခြင်းဟူသော ဝေါဟာရကို သုံးစွဲခဲ့သော် ယင်းအဓိပ္ပာယ် ဖွင့်ဆိုချက်ကို ဘာသာရပ်ဆိုင်ရာအဓိပ္ပာယ်ဖွင့်ဆိုချက်နှင့် ညှိနှိုင်းရန်လိုအပ်သည်။ အကယ်၍ နိဗ္ဗာန်ဟူသည် ပြတ်စဲသွားခြင်းသာဖြစ်သည်ဟုဆိုခဲ့သော်

[၂၄၇] Ibid, 141.
[၂၄၈] သဂါထာဝဂ္ဂသံယုတ္တပါဠိ၊ သံယုတ္တနိကာယ၊ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၁)၊ ၆၁။
[၂၄၉] Sa-N NT Vol.1, 158.
[၂၅၀] နေတ္တိပါဠိ၊ ခုဒ္ဒကနိကာယ (ရန်ကုန်၊ မြန်မာ၊ သာသနာရေးဦးစီးဌာန၊ ၁၉၈၅)၊ ၁၇၂။
[၂၅၁] Buddhadasa, 144.

ယင်းသို့သောဖွင့်ဆိုချက်ကို ယင်းသို့ဆိုတိုင်း ဟုတ်မဟုတ် သုံးသပ်ရန်လိုသည်။ အမှန်စင်စစ် ပြတ်စဲသွားခြင်းဝါဒသည် နိဗ္ဗာန်အကြောင်းနှင့် မပတ်သက်ချေ။ နိဗ္ဗာန်ဟူသည် လူသားတို့၏ ဝေါဟာရနယ်ကို ကျော်လွန်သော အရာသာဖြစ်သည်။

ဤအခန်း၌ ဖော်ပြပြီးဖြစ်သည့်အတိုင်း နိဗ္ဗာန်၏ အရည်အသွေးများနှင့် သာဓကများကို အကျယ်ပြဆိုရန် နည်းလမ်းများစွာရှိသည်။ ပါဠိပညာရှင်များက အစိတ်အပိုင်းအများစုအတွက် နိဗ္ဗာန်သည် အမှန်တကယ်တည်ရှိကြောင်း ယူဆကြသည်။ သို့ရာတွင် အထက်တွင်ဖော်ပြခဲ့သည့် အနောက်တိုင်းပညာရှင်များ၊ ဟိန္ဒူဘာသာဝင်များ၊ ခရစ်ယန်ဘာသာဝင်များကမူ နိဗ္ဗာန်ဟူသည် အလုံးစုံချုပ်ပြတ်သွားခြင်းဖြစ်သည်ဟု ၎င်းတို့၏ဖော်ပြချက်ကို ဆုပ်ကိုင်ထားကြသည်။ ဗုဒ္ဓဝါဒီပညာရှင်များကမူ နိဗ္ဗာန်၏အဓိပ္ပာယ်မှန် မည်သို့ဖြစ်သည်ဟူသောအချက်ကို နားလည်ရန် ကြိုးစားကြသည်။ အလုံးစုံချုပ်ပြတ်သွားခြင်းဟု အဓိပ္ပာယ်ဖွင့်ဆိုချက်ကို ဖယ်ရှားရန် နိဗ္ဗာန်၏အဓိပ္ပာယ်ကို ပြန်လည်ညှိနိုင်းရန် လိုအပ်သည်။ အနောက်တိုင်းအဓိပ္ပာယ်ကောက်ယူသူများက ရဟန္တာပုဂ္ဂိုလ်တို့သည် ကွယ်လွန်ပြီးနောက် ဘဝမရှိတော့ဟူသော ယူဆချက်အား ဆွဲကိုင်ထားခြင်းကို ယုံကြည်ကြောင်း ပြဆိုသည်ဆိုပါမူ ၎င်းတို့၏ယူဆချက်သည် အလုံးစုံချုပ်ပြတ်သွားခြင်းဝါဒသာဖြစ်သည်။ ၎င်းတို့၏ယူဆချက်မှာ ကြောင်းကျိုးအရ မမှားချေ။ အကြောင်းမူ ရဟန္တာပုဂ္ဂိုလ်တို့သည် သုံးဆယ့်တစ်ဘုံ၌ မတည်ရှိတော့သောကြောင့်ဖြစ်သည်။ သို့တစေ နောက်ဆုံးနိဗ္ဗာန်သည် လုံးဝပြတ်စဲသွားခြင်းမဟုတ်ဘဲ လုံးဝငြိမ်းချမ်းမှုသာဖြစ်သည်။ အမှန်စင်စစ် နိဗ္ဗာန်ဟူသည် လက်တွေ့အားဖြင့် ပြုပြင်ခံမဟုတ်သည့် ပရမတ္ထတရားအနေဖြင့် တည်ရှိသောကြောင့် နည်းလမ်းအရ ပြီးပြတ်ချုပ်ငြိမ်းသွားသည့်အမြင်နှင့် ပတ်သက်မှုမရှိချေ။ လက်တွေ့အားထုတ်ခြင်းအားဖြင့် နိဗ္ဗာန်ကို ရနိုင်သည်။ အကြောင်းမူ နိဗ္ဗာန်သည် လောကီလွန်အဆင့်တွင် ပြုပြင်မဲ့ အနေဖြင့်တည်ရှိသောကြောင့်ဖြစ်သည်။

နိဗ္ဗာန်၏ လုံးဝချုပ်ငြိမ်းသွားခြင်း သို့မဟုတ် မတည်ရှိခြင်းနှင့်ပတ်သက်၍ ရွှေကျင်ဆရာတော်က အကယ်၍ နိဗ္ဗာန်ကို ပြတ်စဲမှုအဖြစ်ယူခဲ့သော် ယင်းသည် ဥစ္ဆေဒဒိဋ္ဌိ (ပြတ်စဲသည်ဟု ယူဆသည့် အယူမှား) အဖြစ်သို့ ရောက်သွားသည်ဟုဆိုသည်။ ဆရာတော်အနေဖြင့် နိဗ္ဗာန်သည် အမှန်တည်ရှိသည်ဟု ယူဆသောကြောင့်ဖြစ်သည်။ ယင်းသို့ယူဆရခြင်းမှာ နိဗ္ဗာနဓာတ်၊ အသင်္ခတဓာတ်ဟူသော ပရမတ္ထတရားများ တည်ရှိသောကြောင့်ဖြစ်သည်။ နိဗ္ဗာန်၌ ပကတိမျက်စိဖြင့် မမြင်နိုင်သော ရုပ်လွန် အရောင်အဆင်းတစ်မျိုးရှိလည်း ရှိသည်။ သို့ရာတွင် ပုထုဇဉ်ပုဂ္ဂိုလ်တို့သည် ယင်းလှပသည့် သဘာဝလွန် အရောင်အဆင်းကို မမြင်နိုင်။ အကြောင်းမူ ယင်းအရောင်သည် ထူးကဲစွာတောက်ပပြီး အလွန်ကြည်လင်လျက် ပကတိမျက်စိဖြင့် မမြင်နိုင်သောကြောင့်ဖြစ်သည်။ ဥပမာအားဖြင့် လူသာမန်တို့သည် နတ်ဒေဝါတို့၌ရှိသော ကိုယ်ရောင်ကိုယ်ဝါကိုပင် မမြင်နိုင်ချေ။ ယင်းရုပ်သဘာဝလွန် အရောင်အဆင်းသည် လူ့လောက၌ရှိသော မြင်နိုင်မမြင်နိုင်ကောင်းသော အလင်းရောင်များထက် များစွာ သိမ်မွေ့သည်[၂၅၂]။

နိဗ္ဗာန်တည်ရှိမှုနှင့်ပတ်သက်၍ လယ်တီဆရာတော်က အခြားနည်းတစ်မျိုးဖြင့် ဖော်ပြခဲ့သည်။ အမှန်စင်စစ် မဆွကတည်းက တည်ရှိနေသော နိဗ္ဗာန်တစ်ခုတည်းသာရှိသည်မဟုတ်ဘဲ ရဟန္တာပုဂ္ဂိုလ်အသီးသီး၌ ကွယ်လွန်ပြီးနောက် ၎င်းတို့၏ ကိုယ်ပိုင်နိဗ္ဗာန်များတည်ရှိနေသည်။ လယ်တီဆရာတော်သည် ယုတ္တိနယ်နှင့်စမ်းသပ်နယ်ကို ကျော်လွန်လျက် သဘာဝလွန် အလွန်သိမ်မွေ့နူးညံ့သော ဘက်တွင်ရှိသည့် ပြုပြင်မဲ့တည်ရှိမှု (အသင်္ခတဓာတ်) အဖြစ်တည်ရှိကြောင်း သဘောတူသည်။ ပရိနိဗ္ဗာန်စံပြီးသူ ပုဂ္ဂိုလ်တိုင်း၌ တည်ရှိသောကြောင့် နိဗ္ဗာန်သည် ထာဝရတည်ရှိသည်။ သန္တိသုခသည် သဘာဝအားဖြင့် ပရိနိဗ္ဗာန်စံပြီးသူများအား ပြုပြင်မဲ့တည်ရှိမှု (အသင်္ခတဓာတ်)ဟူသော အရည်အချင်း၊ မအိုခြင်း (နိစ္စ)၊ အချိန်မဲ့ (ဓုဝ)၊ တည်မြဲခြင်း (သဿတ)ဟူသော အရည်အချင်းများကို ပေးသည်။ သို့ရာတွင် လယ်တီဆရာတော်က ရှေးဆရာ (ပုဗ္ဗာစရိယ)၏ ဖော်ပြချက်ကို ဘဝင်မကျကြောင်း၊ အကြောင်းမှာ ရှေးဆရာသည် အသင်္ခတဓာတ်၏ သန္တိသုခသဘာဝသည် ရဟန္တာပုဂ္ဂိုလ်တို့ ကွယ်လွန်ပြီးနောက် တည်ရှိနေလိမ့်မည်ဟု ယူဆသောကြောင့်ဖြစ်ကြောင်း ညွှန်ပြခဲ့သည်။ သို့တစေ ရဟန္တာပုဂ္ဂိုလ်တို့သည် အသက်ရှင်လျက်ရှိစဉ် အသင်္ခတနိဗ္ဗာန်မှာ တည်ရှိနေသည်သာဖြစ်ကြောင်း ဖော်ပြသည်။ ပရိနိဗ္ဗာန်စံပြီးနောက် အသင်္ခတဓာတ်၏ သန္တိသုခသဘာဝသည် ဆက်လက်၍တည်ရှိလိမ့်မည်။ ယင်းသို့ဖြစ်မူ ရဟန္တာပုဂ္ဂိုလ်များအနေဖြင့် ဤဘဝမှာပင် နိဗ္ဗာန်ကိုသိရှိမှု သို့မဟုတ် ဒိဋ္ဌဓမ္မိကသမ္ပရာယိကနိဗ္ဗာန (ဤဘဝကို သိမြင်ခြင်း) ကို ရနိုင်မည်ဖြစ်ကြောင်း ဆရာတော်က ရှင်းပြသည်[၂၅၃]။

နောက်ပါဠိပညာတစ်ဦးဖြစ်သူ မဟာဂန္ဓာရုံဆရာတော်ကမူ မိမိနည်းလမ်းဖြင့် နိဗ္ဗာန်တည်ရှိမှုကို အဓိပ္ပာယ်ဖွင့်ဆိုလိုခဲ့သည်။ နိဗ္ဗာန်တွင် စိတ်၊ စေတသိက်နှင့် ရုပ်တရားတို့ မရှိတော့သဖြင့် နိဗ္ဗာန်အား စိတ်အထူး (နာမဝိသေသ) ရုပ်အထူး (ရူပဝိသေသ) အဖြစ်မယူဆချေ။ နိဗ္ဗာနဓာတ်အား ဘာမျှမရှိခြင်း (အဘာဝ) ကိုလည်း လက်မခံဘဲ သန္တိသုခအဖြစ်သာ

---

[၂၅၂] G-M-Ni, 133, 128-308. The quotation comes from the commentary, Mulapannasa-atthakatha (310) : *Nibbanato hi anno supabhavantataro va sujotivantataro va parisuddhataro va pandarataro va natthi.*

[၂၅၃] Ni-Di, 780-781.

လက်ခံခဲ့သည်။ ဆရာတော်သည် နိဗ္ဗာန်၌ သာမန်လူတို့ မမြင်နိုင်သော အလင်းရောင်းရှိသည်ဟူသော အယူအဆကို လက်ခံလိုပုံရသည်။ ယင်းအခြေအနေသည် ကိလေသာတို့မှ ကင်းလွတ်သောအခါ အရောင်အဝါတောက်ပသော စိတ်၏မူလအခြေအနေနှင့် တူသည်။ ကိလေသာဟူသည် စိတ်ကို ညစ်နွမ်းမှေးမှိန်စေသော စိတ်၏အခြေအနေများဖြစ်သည်။ နိဗ္ဗာန်၌ ထူးခြားထင်ရှားသော အရောင်ရှိသည်ဆိုသောကြောင့် ၎င်းအဖို့ နိဗ္ဗာန်သည် အမှန်တကယ်တည်ရှိသည်ဟူသော အယူအဆကို ငြင်းဆိုခြင်းမရှိချေ[၂၅၄]။

ပါဠိပညာရှင်များအကြား၌ နိဗ္ဗာန်နှင့် ပတ်သက်သည့် အငြင်းပွားမှုတစ်ရပ်ရှိသည်။ ယင်းထင်ရှားသည့် ပါဠိပညာရှင်မှာ မဟာစည်ဆရာတော်ဖြစ်ပြီး ဆရာတော်၏ 'သဗ္ဗတော ပဘံ (အလုံးစုံ တောက်ပ၏)'ဟူသော ပါဠိဝါကျကို အဓိပ္ပာယ်ကောက်ယူမှုမှာ ဖော်ပြပြီးပညာရှင်များ၏ ယူဆချက်နှင့် ခြားနားသည်။ ဆရာတော်က နိဗ္ဗာန်၌ အလင်းရောင်းရှိသည်ဟူသော အဆိုကို ငြင်းပယ်သည်။ ဆရာတော်အလိုအရ နိဗ္ဗာန်၌ သာလွန်ထူးကဲသော အလင်းရောင်းမရှိဟုဖြစ်သည်။ သို့ရာတွင် နိဗ္ဗာန်ဟူသည် အသင်္ခတဓာတ်ဖြစ်ပြီး ပရမတ္ထအားဖြင့် တည်ရှိကြောင်း လက်ခံသည်[၂၅၅]။ အမှန်သော် ဆရာတော်သည် နိဗ္ဗာန်ဟူသည် မြင်သာထင်ရှားသည့် အရာအနေဖြင့် တည်ရှိမှုကို အခိုင်အမာငြင်းဆိုသည်။ ဆရာတော်၏ အယူအဆကို အောက်ပါဖော်ပြချက်ဖြင့် ခိုင်မာစွာ ပြဆိုထားသည် -

> နိဗ္ဗာန်ဟူသည် ဗိမာန် သို့မဟုတ် နန်းတော်တစ်ခုမဟုတ်။ မြို့တော်တစ်ခုလည်း မဟုတ်။ အလင်းရောင် မဟုတ်။ နိဗ္ဗာန်၌ အလင်းရောင်ထွက်နေခြင်းမရှိ။ နိဗ္ဗာန်သည် မြင်သာထင်ရှားသည့် အရာမဟုတ် အရောင်အဆင်းမရှိ။ ဗိမာန် နန်းတော် မြို့တော် အလင်းရောင် မြင်သာထင်ရှားသည့် အရာတို့မှာ အသင်္ခါရ သို့မဟုတ် ပရမတ္ထတရားများ မဟုတ်[၂၅၆]။

အထက်ပါဖော်ပြချက်ကို ကြည့်လျှင် မဟာစည်ဆရာတော်သည် နိဗ္ဗာန်၌ အသွင်သဏ္ဌာန် အရောင် အလင်းမရှိသော်လည်း သန္တိသုခ ပရမတ္ထသစ္စာတရားဖြစ်သည်ဟု အဓိပ္ပာယ်ဖွင့်ဆိုသည်။ အမှန်စင်စစ် နိဗ္ဗာန်ဟူသည် ကိလေသာ လွှမ်းမိုးမှုမှ ကင်းလွတ်ပြီး အတိတ်ကံတို့ အကျိုးမပေးဘဲ ဘဝသစ်တည်ဆောက်မှုကို လုံးဝမဖြစ်ပေါ်စေနိုင်သော အရာဖြစ်သည်ဟု ဆရာတော်က အဓိပ္ပာယ်ဖွင့်ဆိုလိုသည်။ သို့ဖြင့် နိဗ္ဗာန်ဟူသည် ကိလေသာငြိမ်းခြင်းဖြင့် ဆိုက်ရောက်နိုင်သော အရိယာသူတော်ကောင်းတို့၏ တရားဖြစ်ကြောင်းဆိုသည်။

အထက်ဖော်ပြပါ ပညာရှင်ပုဂ္ဂိုလ်၏ဖော်ပြချက်ကို အခြေခံလျက် နိဗ္ဗာန်ဟူသည် အမှန်တကယ်တည်ရှိသော်လည်း ယင်းနိဗ္ဗာန်သည် လုံးဝပြတ်စဲချုပ်ငြိမ်းသွားခြင်းမဟုတ်ဟု အခိုင်အမာဆိုနိုင်သည်။ နိဗ္ဗာန်အား ပြတ်စဲခြင်းဟု သိခြင်းမှာ အဓိပ္ပာယ်ဖွင့်ဆိုခြင်းမျှသာဖြစ်၍ နိဗ္ဗာန်အား သန္တိသုခဟုသိခြင်းမှာ နိဗ္ဗာန်ကို ထိုထွင်း၍သိမြင်ခြင်းဖြစ်သည်။ သီအိုရီအရ နိဗ္ဗာန်တွင် အမည်နာမအမျိုးမျိုးရှိသော်လည်း ယင်း၏လက္ခဏာမှာ သန္တိသုခလက္ခဏတစ်ပါးသာဖြစ်သည်။ နိဗ္ဗာန်၏ အထူးခြားဆုံး မြင့်မြတ်မှုမှာ သင်္ခါရလောက သတ္တလောက ဩကာသလောကဟူသော လောကသုံးပါးမှ လွတ်မြောက်မှုပင်ဖြစ်သည်။ ယင်းသုံးမျိုးအနက် သင်္ခါရလောကဟူသည် ပြုပြင်ဖန်တီးမှုအောက်တွင်ရှိသော ခန္ဓာငါးပါးကို ရည်ညွှန်းခြင်းဖြစ်သည်။ သတ္တလောကဟူသည် စကြဝဠာအတွင်းရှိ မြင်နိုင်မမြင်နိုင်သတ္တဝါအားလုံးကို ရည်ညွှန်းသည်။ ဩကာသလောကဟူသည် သတ္တဝါတို့မွေးဖွားရာ သုံးဆယ့်တစ်ဘုံဌာနကို ရည်ညွှန်းသည်။ ရဟန္တာပုဂ္ဂိုလ်တို့သည် ပရိနိဗ္ဗာန်စံပြီးနောက် ဒုက္ခလောကမှ လုံးဝလွတ်မြောက်သွားလိမ့်ဖြစ်သည်[၂၅၇]။

**ရဟန္တာပုဂ္ဂိုလ်များအတွက် နိဗ္ဗာန်သည် တည်ရှိ၏**

ဤလေ့လာချက်သည် နောက်ဆုံးအနေဖြင့် နိဗ္ဗာန်ဟူသည် သဘာဝထက်လွန်ကဲထူးမြတ်သော သို့မဟုတ် နိဗ္ဗာနဓာတ်ဟုခေါ်သော အရာတစ်မျိုးနှင့် ဆက်နွယ်နေသည့် သဘောတရားတစ်ခုဖြစ်သည်ဟု နိဂုံးဆွဲယူသည်။ ထေရဝါဒဗုဒ္ဓဘာသာအလိုအရ နိဗ္ဗာန်ဟူသည် သန္တိသုခသဘာဝ၏အပြင်တွင်မဟုတ်သော ပရမတ္ထသစ္စာဖြစ်သည်။ သန္တိသုခ (နိဗ္ဗာန်)ဟူသည်

---

[၂၅၄] Ab-T, 640-643.

[၂၅၅] မဟာစည်ဆရာတော်၊ ဝိပဿနာရှုနည်းကျမ်း အတွဲ ၂ (ရန်ကုန်၊ မြန်မာ၊ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ ပုံနှိပ်တိုက်၊ ၁၉၉၉)၊ ၃၄၁။

[၂၅၆] Mahasi Sayadwe, *Nibbanaptisamyutta-katha*: *ON the Nature of Nibbana*, (Kuala Lumpur, Malaysia: Subang Jaya Buddhist Association, 1992), 59.

[၂၅၇] Kuala Lumpur Dhammajiti, Asanga Tilakaratne, and Kapila Abhayawansa. *Recent Researches in Buddhist Studies* (Colombo, Sri LankaL Y. Karunadasa Felicitation committee, 1997), 23.

ကို မဖောက်ပြန်သော ငြိမ်းချမ်းမှု၊ ပြုပြင်ပြောင်းလဲခြင်းမရှိသော ပျော်ရွှင်မှုအဖြစ် အမည်နာမပြုသည်။ ယင်းသို့သော ငြိမ်းချမ်းပျော်ရွှင်မှုကို တွေးခေါ်စဉ်းစားမှုဖြင့် တိုင်းတာ၍မရ။ အကြောင်းမူ ယင်း၌ လက်တွေ့မျက်မြင်ကို အခြေခံသော အရည်အချင်း မရှိသောကြောင့်ဖြစ်သည်။ ဤအချက်နှင့်ပတ်သက်၍ အချို့သော ပျော်ရွှင်ငြိမ်းချမ်းမှုများသည် ဤစကြဝဠာတွင် လက်တွေ့မျက်မြင်ကို အခြေခံမှု၌ အကျုံးဝင်ကြသည်။ သို့တစေ နတ်ဗြဟ္မာတို့၏ ပျော်ရွှင်မှုသည်ပင် လူသားတို့အဖို့ လက်တွေ့မျက်မြင်တွေ့ကြုံမှုကို ကျော်လွန်ကြသည်။ အကြောင်းမူ နတ်ဗြဟ္မာတို့သည်သာ နတ်ဗြဟ္မာတို့၏ ပျော်ရွှင်မှုကို ရနိုင်သောကြောင့်ဖြစ်သည်။ ထိုအတူပင် အရိယာပုဂ္ဂိုလ်တို့သည်သာ လောကုတ္တရာပျော်ရွှင်မှု မည်သို့ဖြစ်ကြောင်းကို နားလည်နိုင်ကြသည်။ ဤအခြေအနေမှာ မွေးရာပါမျက်မမြင်ပုဂ္ဂိုလ်နှင့် တူသည်။ ယင်းမျက်မမြင်အဖို့ သာမန်ပုဂ္ဂိုလ်တို့ မြင်တွေ့နိုင်သည့် အရောင်နှင့် အလင်းရောင်တည်ရှိမှုကို လက်ခံရန် ခက်ခဲသကဲ့သို့ဖြစ်သည်။ ဤဥပမာ၌ မျက်မမြင်ပုဂ္ဂိုလ်သည် ပုထုဇဉ်ပုဂ္ဂိုလ်နှင့်တူသည်။ ပုထုဇဉ်ပုဂ္ဂိုလ်အဖို့ အရိယာပုဂ္ဂိုလ်တို့အဖို့ အမှန်တကယ်တည်ရှိသော နိဗ္ဗာန်ကို လက်ခံရန် အလွန်ခဲယဉ်းသည်။

ဗုဒ္ဓဝါဒ၌ နိဗ္ဗာန်အယူအဆသည် ဒဿနသဘောအားဖြင့် အလွန်ရှုပ်ထွေးသော်လည်း လက်တွေ့ကျင့်စဉ်အားဖြင့် ယင်းကို နားလည်သဘောပေါက်နိုင်သည်။ ဗုဒ္ဓဝါဒအစဉ်အလာများ အကြား၌လည်း နိဗ္ဗာန်အယူအဆနှင့် ပတ်သက်၍ ယေဘုယျအားဖြင့် သဘောတူညီချက် မရှိပေ။ သို့ရာတွင် ထေရဝါဒရှုထောင့်မှ နိဗ္ဗာန်ကို ရှင်းပြရန် ထေရဝါဒဗုဒ္ဓဘာသာနိုင်ငံတို့၌ မြင့်မားစွာ အသိအမှတ်ပြုထားသော မူရင်းပါဠိတော်များနှင့် ပါဠိစာပေကို မေ့ထား၍ မဖြစ်နိုင်ချေ။

ထေရဝါဒဗုဒ္ဓဘာသာနိုင်ငံများမှာ သီရိလင်္ကာ၊ မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဒီးယားနှင့် လာအိုတို့ဖြစ်ကြသည်။ ယင်းပင်မ ထေရဝါဒငါးနိုင်ငံအနက် မြန်မာနိုင်ငံမှာ ပါဠိကျမ်းဂန်များနှင့် ထေရဝါဒအစဉ်အလာကို ထိမ်းသိမ်းထားသော နိုင်ငံတစ်ခု ဖြစ်သည်။ ထိုအတူပင် သီရိလင်္ကာနှင့် ယိုးဒယားနိုင်ငံတို့၌လည်း ယင်းအစဉ်အလာ ပါဠိတော်နှင့် ပါဠိစာပေကို ထိန်းသိမ်းထားကြသည်။ မြန်မာနိုင်ငံသည် ထေရဝါဒဗုဒ္ဓဝါဒ၏ တန်ဖိုးနှင့် ယဉ်ကျေးမှုကို နှစ်ပေါင်းတစ်ထောင်ကျော် ထိန်းသိမ်းထားပြီးဖြစ်သည်။ ယင်းအစဉ်အလာသည် ရဟန်းတော်များ၊ သီလရှင်များ၊ လူဥပါသကာများအား ကောင်းမြတ်သောနည်းလမ်းဖြင့် ဘာသာတရားလေ့ကျင့်မှုကို ပေးခဲ့ပြီးဖြစ်သည်။ ယင်းလေ့ကျင့်မှုတွင် ဗုဒ္ဓသာသနာကို အကြောင်းပြု၍ တွေးခေါ်မြော်မြင်မှုနှင့် လက်တွေ့ရှုထောင့်များ ပါဝင်သည်။ ထေရဝါဒဗုဒ္ဓဘာသာနိုင်ငံများ၌ ရဟန်းတော်များသည် နိဗ္ဗာန်အဓိပ္ပာယ်ကိုဖွင့်ဆိုရာ၌ ဥစ္ဆေဒ (ပြတ်စဲခြင်း)နှင့် သဿတ (ထာဝရတည်မြဲ)ဟူသော အစွန်းနှစ်ရပ်ကို ရှောင်ကြဉ်ရန် အထူးဂရုစိုက်ခဲ့ကြသည်။

မြန်မာဗုဒ္ဓဘာသလောကအတွင်းရှိ ပညာရှင်ရန်ဟန်းတော်များအနက် ရွှေကျင်ဆရာတော်သည် ထင်ရှားကျော်ကြားသော ပါဠိပညာရှင်ဖြစ်သည့်ပြင် ဆရာတော်ပြုစုသည့် **ဂမ္ဘီရာရမ္ဘီရမဟာနိဗ္ဗုဒီပနီကျမ်း**နှင့် ဆရာတော်၏ နိဗ္ဗာန်အယူအဆတို့ကြောင့် အထူးထင်ရှားသည်။ ဆရာတော်၏အလိုအရ နိဗ္ဗာန်ဟူသည် လုံးဝချုပ်ငြိမ်းသွားခြင်းလည်းမဟုတ် လုံးဝပြတ်စဲ သွားခြင်းလည်းမဟုတ်၊ အကြောင်းမူ နိဗ္ဗာန်ဟူသည် လုံးဝချုပ်ငြိမ်းသွားခြင်းနှင့် မပတ်သက်ဘဲ ယင်းသည် လုံးဝပျော်ရွှင် ငြိမ်းချမ်းခြင်းနှင့်သာ ပတ်သက်သည်။ နိဗ္ဗာန်တည်ရှိမှုသည် လုံးဝမျက်မှောက်ထင်ရှားဖြစ်သည်။ နိဗ္ဗာန်၌ ခန္ဓာငါးပါး တည် ရှိမှုသည် အဆုံးသတ်သွားသည်။ ဤဖော်ပြချက်၌ နိဗ္ဗာန်ဟူသည် မတည်ရှိသကဲ့သို့ဖြစ်ကြောင်း ဆိုကြသည်။ သို့တစေ သန္တိသုခနှင့် အမတသဘာဝ (နိဗ္ဗာနဓာတု) သည် တည်ရှိနေသည်။ အမှန်စင်စစ် နိဗ္ဗာန်သည် အရိယာပုဂ္ဂိုလ်တို့အတွက် တည်ရှိနေသည်။

အထက်ပါ နိဗ္ဗာန်အယူအဆကို တွေ့ရခြင်း၌ သီအိုရီရှုထောင့်အရသော် နိဗ္ဗာန်အယူအဆတိုင်းကို ဖော်ပြနိုင်သော နည်းလမ်းမရှိသည်အထိ နက်ရှိုင်းပုံရသည်။ ဤမှစ၍ ရှေ့တွင် ဤလေ့လာမှုသည် နိဗ္ဗာန်ဟူသည်မည်သို့သောအရာ ဖြစ်ကြောင်း မဆွေးနွေးတော့ဘဲ လက်တွေ့ထိုးထွင်းသိမြင်မှုရှုထောင့်မှ ဦးတည်တင်ပြမည်ဖြစ်သည်။ ဗုဒ္ဓဝါဒ၌ လက်တွေ့နှင့်အဆိုအမိန့်သည် ဓမ္မအနှစ်သာရကိုနားလည်ရန် တူမျှစွာအရေးပါသည်။ ဗုဒ္ဓဝါဒီတို့သည် ကျမ်းဂန်စာပေ သို့မဟုတ် ကျမ်းဂန်စာပေကို သင်ကြားခြင်းသည် အသိဉာဏ်အတွက်သာဖြစ်ပြီး ထိုးထွင်းသိမြင်၍ လွတ်မြောက်မှုနှင့် ပတ်သက်သောကြောင့် ကျမ်းဂန်စာပေထက် ကမ္မဋ္ဌာန်းဘာဝနာပွားများအားထုတ်ကို ပို၍တန်ဖိုးထားကြောင်း အထူးပြုပြောဆိုကြသည်။

စိတ်ပိုင်းဆိုင်ရာ အသိပညာသည် ဝိပဿနာပညာ၊ မဂ်ဉာဏ်ဖိုလ်ဉာဏ်တို့နှင့် ပတ်သက်သည်။ ဝိပဿနာပညာဟူသည် ဤနေရာ၌ အနိစ္စ၊ ဒုက္ခနှင့် အနတ္တသဘာဝကို လက်ခနဲသိမြင်ပြီး အလိုအလျောက်ဖြစ်ပေါ်သော အသိဉာဏ်ကို ဆိုလိုသည်။ ပညာကို သီလနှင့် သမာဓိဟူသော အခြားသိက္ခာနှစ်မျိုးနှင့်အတူ ပွားများအားထုတ်နိုင်သည်။ ဝိပဿနာပညာသည် အသိပညာဖြင့်နားလည်မှု၏ ရလဒ်မျှသာမဟုတ်ဘဲ ရုပ်နာမ်ဖြစ်စဉ်နှစ်မျိုးလုံးပါဝင်သည့် မိမိ၏သဘာဝကို

ကမ္မဋ္ဌာန်းရှုမှတ်၍ တိုက်ရိုက်စောင့်ကြည့်ခြင်းဖြင့် ရရှိနိုင်သည်။ သတိပဋ္ဌာန်ဟုလည်းထင်ရှားသည့် ဝိပဿနာကမ္မဋ္ဌာန်းသည် မဂ်ဉာဏ် ဖိုလ်ဉာဏ်အဆင့်ဆီသို့ ရောက်အောင် ဦးဆောင်သွားသည်[၂၅]။

ဗုဒ္ဓဝါဒရှုထောင့်အရ ကျမ်းဂန်စာပေကို လေ့လာခြင်းသည် ထိုးထွင်း၍သိမြင်ခြင်းမဟုတ်၊ သို့သော် ကိုယ်တိုင်ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်ခြင်းနှင့်အတူ ကျမ်းဂန်များကို သင်ယူခြင်းဖြင့် ထိုးထွင်း၍သိမြင်နိုင်ကြောင်း နားလည်ရသည်။ ဗုဒ္ဓဝါဒီတို့သည် လက်တွေ့လေ့ကျင့်အားထုတ်ခြင်းမရှိဘဲ နိဗ္ဗာန်၏သန္တိသုခသဘာဝကို မည်သူမျှမရနိုင်ဟူသည်ကို အမှန်အဖြစ်ယူဆကြသည်။ ဤလေ့လာချက်၏ ရည်ရွယ်ချက်ကို ပြီးပြည့်စုံစေရန် ကမ္မဋ္ဌာန်းရှုမှတ်ပုံနည်းလမ်းကို လေ့လာရန်လိုအပ်သည်။ သို့ဖြစ်၍ ရှေ့အခန်းတွင် လက်တွေ့ရှုထောင့်မှ နိဗ္ဗာန်အကြောင်းကို ပိုမိုနားလည်နိုင်ရန် ဗုဒ္ဓဘာသာဆိုင်ရာ ကမ္မဋ္ဌာန်းရှုမှတ်ခြင်းနှင့် ယင်း၏နည်းလမ်းများကို အဓိကဆွေးနွေးမည်းဖြစ်သည်။

oooooo

**အခန်း ၅**

# ဝိမုတ္တိကို ဦးတည်သည့် ကမ္မဋ္ဌာန်းဘာဝနာ

## ဗုဒ္ဓဝါဒ၏လွတ်မြောက်မှု (ဝိမုတ္တိ) အယူအဆ

ဤအခန်းတွင် ထေရဝါဒဗုဒ္ဓဘာသာဆိုင်ရာ ကမ္မဋ္ဌာန်းရှုမှတ်ခြင်းနှင့် နည်းလမ်းအမျိုးမျိုးကို အသိပညာအဆင့်အတန်းအလိုက် အသုံးချလျက် အထူးပြုဖော်ပြမည်ဖြစ်သည်။ အချို့သော ကမ္မဋ္ဌာန်းရှုမှတ်မှုအတွေ့အကြုံကို သုတေသနပြုသူ၏ကိုယ်ပိုင် ကမ္မဋ္ဌာန်းရှုမှတ်မှုအတွေ့အကြုံနှင့် ဆက်နွယ်ဖော်ပြမည်ဖြစ်သည်။ ရည်ရွယ်ချက်မှာ ဗုဒ္ဓဝါဒဆိုင်ရာ ကမ္မဋ္ဌာန်းရှုမှတ်မှုသည် စိတ်ပိုင်းဘဝလွတ်မြောက်မှုဆီသို့ ဦးတည်ပုံ၊ ကမ္မဋ္ဌာန်းရှုမှတ်မှုအတွေ့အကြုံသည် နိဗ္ဗာန်အဓိပ္ပာယ်ကို နားလည်အောင်မည်သို့ ကူညီပုံတို့ကို စူးစမ်းလေ့လာရန်ဖြစ်သည်။ ဗုဒ္ဓဓမ္မ၏ အဓိကမဏ္ဍိုင်မှာ လက်တွေ့သိရှိမှုသည် ကျမ်းဂန်လေ့လာမှုနှင့် အသိပညာနှင့်ဆိုင်သော နှစ်သက်မှုထက် ပိုမိုအရေးပါသောအချက်ဖြစ်သည်။ ခြုံ၍ဆိုရသော် လေ့ကျင့်အားထုတ်မှုမရှိဘဲ မည်သူမျှ နိဗ္ဗာန်ကို မရနိုင်ဟုဖြစ်သည်။ အမှန်စင်စစ် ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်မှုကို ထည့်သွင်းခြင်းသည် ဤလေ့လာမှု၏ ရည်ရွယ်ချက်ကို ပြီးပြည့်စုံစေရန် မရှိမဖြစ်လိုအပ်သည်။ ဤအခန်း၌ အောက်ပါ ဖော်ပြချက်များကို အဓိကလေ့လာမည်ဖြစ်သည်။ ပထမ စိတ်ပိုင်းဘဝလွတ်မြောက်မှုအယူအဆနှင့် ကမ္မဋ္ဌာန်းရှုမှတ်မှု၏ အခြေခံရည်ရွယ်ချက်ကို ဆွေးနွေးမည်။ ဒုတိယ ထေရဝါဗုဒ္ဓဝါဒအရ ကမ္မဋ္ဌာန်းရှုမှတ်မှု နည်းစနစ်အမျိုးမျိုးကို လေ့လာ မည်။ တတိယ ပင်မ

[၂၅] BD, 230-231.

ဗုဒ္ဓဝါဒကမ္မဋ္ဌာန်းရှုမှတ်မှု အမျိုးအစားများနှင့် ဝိပဿနာပညာတိုးတက်ပုံတို့ကိုဖော်ပြမည်။ နောက်ဆုံးအနေဖြင့် ကမ္မဋ္ဌာန်းရှုမှတ်မှုသည် နိဗ္ဗာန်၏သန္တိသုခသဘာဝကို နားလည်မှုဆီသို့ ဆောင်ယူသွားပုံတို့ကို လေ့လာမည်ဖြစ်သည်။

ဗုဒ္ဓဝါဒီတို့သည် များသောအားဖြင့် နိဗ္ဗာန်ဟူသည် မည်သို့အဓိပ္ပာယ်ရှိသည်ဟူသည်ကို နားမလည်သော်လည်း နိဗ္ဗာန်သို့ရောက်လိုကြောင်း ပြောဆိုကြသည်။ ထို့ပြင် ၎င်းတို့အနေဖြင့် ကမ္မဋ္ဌာန်းရှုမှတ်၍ နိဗ္ဗာန်သို့ရောက်နိုင်ကြောင်း မကြာခဏဖော်ပြကြသည်။ သေမှုကင်းခြင်း အမတ၊ ဒုက္ခဆုံးခြင်း၊ အနှောင်အဖွဲ့မှ လွတ်မြောက်ခြင်းဟူသော အနှစ်သာရရှိသည့် နိဗ္ဗာန်သည် ဗုဒ္ဓဝါဒီတို့၏ အမြင့်ဆုံးပန်းတိုင်ဖြစ်သည်။ နိဗ္ဗာန်ဟူသည် လူတိုင်းရောက်နိုင်သောအရာ ဖြစ်သည်ဟု ဗုဒ္ဓဝါဒီတို့ ယူဆကြသည်။ သို့တစေ ဒဿနနည်းဖြင့် နိဗ္ဗာန်၏အနှစ်သာရကိုရှင်းပြရန် ၎င်းတို့အဖို့ ခဲယဉ်းသည်။ သို့တစေ ဒဿနဆိုင်ရာဖော်ပြချက်ကို ဗုဒ္ဓဝါဒီမဟုတ်သည့် လေ့ကျင့်အားထုတ်သူများက ဖော်ပြလေ့ရှိသည်မှာ အကယ်၍ နိဗ္ဗာန်သည် လုံးဝချုပ်ငြိမ်းသွားခြင်းမဟုတ်ခဲ့သော် နိဗ္ဗာန်ဟူသည် မည်သို့သောလွတ်မြောက်မှုကို ဆိုလိုသနည်းဟုဖြစ်သည်။

ဗုဒ္ဓဝါဒီအများစုက နိဗ္ဗာန်ဟူသည် ပရမတ္ထသစ္စာဖြစ်ပြီး နိဗ္ဗာန်ကို မရသေးသူများအား နိဗ္ဗာန်၏အနှစ်သာရကို ရှင်းပြရန်ခက်ခဲကြောင်း ရှင်းပြလိမ့်မည်ဖြစ်သည်။ ယင်းသို့ဖော်ပြချက်မှာ နိဗ္ဗာန်ဟူသည်ကို စကားလုံးများ၊ ဘာသာစကားများနှင့် ကြံစည်တွေးတောခြင်းများဖြင့် မသိနိုင်ကြောင်း၊ အရိယာပုဂ္ဂိုလ်များမှတစ်ပါး မည်သူမျှ လောကီအသိဉာဏ်ဖြင့် နိဗ္ဗာန်ကို မသိမြင်နိုင်ကြောင်းပြဆိုသော အဘိဓမ္မာကျမ်းများနှင့်အညီဖြစ်သည်။ အရိယာပုဂ္ဂိုလ်များသည် ၎င်းတို့၏ ဝိပဿနာပညာဖြင့် နိဗ္ဗာန်ကိုနားလည်နိုင်သည်။ ဗုဒ္ဓဝါဒီတို့သည် ပုဂ္ဂိုလ်အသီးသီး၏ ဝိပဿနာပညာဖြင့်ရရှိသည့် ကမ္မဋ္ဌာန်းရှုမှတ်မှု၏အကျိုးတရားများကို ယုံကြည်ကြသဖြင့် ၎င်းတို့သည် ကမ္မဋ္ဌာန်းတရားကို ကြိုးစားအားထုတ်ကြသည်။ ဤသည်မှာ ဗုဒ္ဓဝါဒီတို့ မိမိတို့၏ စိတ်ပိုင်းဘဝလမ်းစဉ်ကို ချဉ်းကပ်ကြပုံဖြစ်သည်။ ဗုဒ္ဓ၏တရားဓမ္မအပေါ် ယင်းသို့သော သဘောထားကြောင့် ၎င်းတို့က ဝိပဿနာကမ္မဋ္ဌာန်းသည် နိဗ္ဗာန်သို့ရောက်ရှိရန် ဝင်ပေါက်ဖြစ်ကြောင်း အခိုင်အမာ ဆိုကြသည်။

နိဗ္ဗာနဓမ္မနှင့်ပတ်သက်၍ ဝိပဿနာပညာနှင့် နိဗ္ဗာန်တို့အကြား ဆက်နွယ်မှုရှိသည်။ ဤယူဆချက်၌ နိဗ္ဗာန်သို့မဟုတ် အသခ်ိတဓာတ်ဟူသည်ကို လွတ်မြောက်မှု (ဝိမုတ္တိ) ဟု ပြန်ဆိုနိုင်သည်။ ကမ္မဋ္ဌာန်းရှုမှတ်ပုံ နည်းလမ်းများကို မဂ္ဂင်ရှစ်ပါးနည်းနှင့် သတိပဋ္ဌာန်လေးပါးနည်းတို့နှင့် ဆက်နွယ်နိုင်သည်။ အမှန်စင်စစ် ဗုဒ္ဓဟောကြားတော်မူသော တရားတော်ကို ဓမ္မနှင့် လေ့ကျင့်အားထုတ်မှုဟု နှစ်ပိုင်းခွဲခြားနိုင်သည်။

> ဓမ္မ၏အခြေခံအုတ်မြစ်မှာ သစ္စာလေးပါးဖြစ်ပြီး ကျင့်ကြံအားထုတ်မှု၏ အခြေခံအုတ်မြစ်မှာ မဂ္ဂင်ရှစ်ပါးဖြစ်၏။ သို့သော် ယင်းအခြေခံနှစ်မျိုးမှာ နီးကပ်စွာ ဆက်နွယ်နေ၏။ အကြောင်းမူ ကျွန်ုပ်တို့ တွေ့ရသည့်အတိုင်း မဂ္ဂင်ရှစ်ပါးဟူသည် လေးခုမြောက်သစ္စာဖြစ်လျက် မဂ္ဂင်ရှစ်ပါး၏ ပထမဆုံးအဆင့်မှာ သစ္စာလေးပါးကို နားလည်ခြင်းဟူသော မှန်သောအမြင် (သမ္မာဒိဋ္ဌိ) ဖြစ်သောကြောင့်တည်း[၂၉]။

မဂ္ဂင်ရှစ်ပါးတွင် မှန်သောအမြင်သည် လမ်းစဉ်၏ ပထမဆုံးအချက်ဖြစ်ပြီး အခြားလမ်းစဉ်များအတွက် လိုအပ်သော လမ်းညွှန်ဖြစ်သည်။ မှန်သောအမြင်၏ တူညီသော လုပ်ဆောင်ချက်ကို ကိုယ် နှုတ် နှလုံးသုံးပါး၌ စောင့်စည်းမှုနှင့် စိတ်ပိုင်းဘဝ ထူးခြားကောင်းမွန်မှု နှုန်းစံဖြင့် မှန်သောကိုယ်ကျင့်တရားကို ဆက်စပ်ထားသည်။ မှန်သောသတိသည် ခုနစ်ခုမြောက် ကျင့်စဉ်ဖြစ်ပြီး ကိုယ် နှုတ် စိတ်တို့၌ ခဏတိုင်းတွင် သတိရှိခြင်းကို ဆိုလိုသည်။ သတိ၏စွမ်းအားကား ဝိပဿနာပညာဖြစ်ပေါ်စေရန်နှင့် ဒုက္ခမှလွတ်မြောက်မှုကို ရရှိခြင်းဖြစ်သည်။

သတိပဋ္ဌာန်ကမ္မဋ္ဌာန်းသည် ရက်ရှည်ကမ္မဋ္ဌာန်းရှုမှတ်မှုကာလအတွင်း ဝိပဿနာပညာတိုးတက်မှုကို ဖြစ်ပေါ်စေနိုင်သည်။ ဝိပဿနာဉာဏ်တိုးတက် ရင့်ကျက်မှု၌ လွတ်မြောက်မှု (ဝိမုတ္တိ)အဆင့် အမျိုးမျိုးပါဝင်သည်။ သို့ရာတွင် ခုဒ္ဒကနိကာယ်၊ နိဗ္ဗာနဓာတုသုတ်အရ အဓိကလွတ်မြောက်မှုအဆင့် နှစ်မျိုးရှိသည်။ ယင်းတို့မှာ ၁) သဉပါဒိသေသနိဗ္ဗာနဓာတ်နှင့် ၂) အနုပါဒိသေသနိဗ္ဗာနဓာတ်တို့ဖြစ်သည်။ ဤနေရာ၌ သဉပါဒိသေသနိဗ္ဗာနဓာတ်ဟူသည် ပြုပြင်ခံ ခန္ဓာငါးပါး အကြွင်းအကျန်ရှိသော နိဗ္ဗာနဓာတ်ဖြစ်ပြီး အနုပါဒိသေသနိဗ္ဗာနဓာတ်ဟူသည် ပြုပြင်ခံ ခန္ဓာငါးပါး အကြွင်းအကျန်မရှိသော နိဗ္ဗာနဓာတ်ဖြစ်သည်။

သဉပါဒိသေသနိဗ္ဗာန်ဟူသည် တဏှာ သမုဒယတို့ကြောင့်ဖြစ်သော စိတ်ပိုင်းဆိုင်ရာပျက်စီးမှုမှ လွတ်မြောက်မှုကို ဆိုလိုသည်။ ဥပမာအားဖြင့် အဝိဇ္ဇာနှင့်တဏှာတို့ ချုပ်ငြိမ်းသွားသောအခါ မပျော်ရွှင်ခြင်း၊ စိုးရိမ်ခြင်း၊ ပူဆွေးခြင်း၊ ဝမ်းနည်း

[၂၉] Bhikkhu Bodhi, *The Buddha and His Dhamma: Two Lectures on Buddhism* (Kandy, Sri Lanka, Buddhist Publication Society, 1999), 23.

ခြင်းနှင့် အခြားစိတ်ပိုင်းဆိုင်ရာ ခံစားရမှုကဲ့သို့သော ကိလေသာတရားများကို ဖယ်ရှားနိုင်သည်[၂၆၀]။ သဉပါဒိသေသနိဗ္ဗာန်သည် စိတ်နှင့်ဆက်နွယ်နေသည့် လွတ်မြောက်မှုကို တိုက်ရိုက်ရည်ညွှန်းသည်။ စိတ်သည် ရာဂ၊ တဏှာ၊ အဝိဇ္ဇာကဲ့သို့သော ကိလေသာတို့မှ လွတ်မြောက်သောအခါ မပျော်ရွှင်မှု၊ စိတ်ဖိစီးမှုစသော စိတ်၏အခြေအနေနှင့် ဆက်နွယ်နေသည့် စိတ်ပိုင်းဘဝဆင်းရဲဒုက္ခမှ လွတ်မြောက်သွားနိုင်သည်။

အဘိဓမ္မာအလိုအရ ငြိမ်းချမ်းမှုနှင့် ပျော်ရွှင်မှုသည် စိတ်အတွင်းငြိမ်းချမ်းမှုအခြေအနေနှင့် ဆက်နွယ်သည်။ အရိယာပုဂ္ဂိုလ်များအဖို့ ဤဘဝတွင် နိဗ္ဗာန်ကိုသိမြင်ပြီးနောက် စိတ်ပိုင်းဘဝဆင်းရဲဒုက္ခမှ လွတ်မြောက်မှုဖြစ်သည့် သဉပါဒိသေသနိဗ္ဗာန်ဟူသော ငြိမ်းချမ်းမှုနှင့် ပျော်ရွှင်မှုအထူးကို ခံစားရသည်။ မင်္ဂလသုတ်တွင် ရဟန္တာပုဂ္ဂိုလ်များသည် အဝိဇ္ဇာ တဏှာတို့မှ လွတ်မြောက်ပြီးဖြစ်၍ စိုးရိမ်ခြင်း၊ ကြောက်ရွံ့ခြင်းတို့မှ လုံးဝကင်းဝေးကြောင်း မှတ်တမ်းတင်ထားသည်။ လာဘ (အောင်မြင်ခြင်း)၊ အလာဘ (ဆုံးရှုံးခြင်း)၊ ယသ (အခြွေအရံပေါ်များခြင်း)၊ အယသ (အခြွေအရံဆုတ်ယုတ်ခြင်း)၊ နိန္ဒာ (ကဲ့ရဲ့ခြင်း)၊ ပသံသာ (ချီးမွမ်းခြင်း)၊ သုခံ (ချမ်းသာခြင်း)၊ ဒုက္ခံ (ဆင်းရဲခြင်း) ဟူသော လောကဓံတရား ရှစ်ပါးကြောင့် ၎င်းတို့၏စိတ်မှာ လုံးဝတုန်လှုပ်ခြင်းမရှိ။ ၎င်းတို့မှာ သောကကင်းသူ၊ အညစ်အကြေးကင်းသူ၊ ဘေးကင်းသူများ ဖြစ်ကြသည်[၂၆၁]။ ဗုဒ္ဓဝါဒ၌ ယင်းသို့သော စိတ်ပိုင်းဘဝလွတ်မြောက်မှုကို 'သဉပါဒိသေသ' ခေါ်နိုင်သည်။

အနုပါဒိသေသနိဗ္ဗာန်သည် ရဟန္တာပုဂ္ဂိုလ်တို့ ပရိနိဗ္ဗာန်စံပြီးနောက် ဖြစ်ပေါ်လာသော နိဗ္ဗာန်ဖြစ်သည်။ တစ်ချိန်တည်းတွင် ရဟန္တာပုဂ္ဂိုလ်ဟုဆိုသော ယင်းနာမ်ရုပ်ဖြစ်စဉ်သည် လုံးဝရပ်စဲသွားပြီး ယင်းဖြစ်၏ ကမ္မစွမ်းအင်သည် ဆုံးခန်းတိုင်သွားသည်။ ယင်းနောက် ၎င်းတို့၏ ဘဝသံသရာသည် ပြတ်စဲသည်။ ယင်းအခြေအနေကို အနုပါဒိသေသနိဗ္ဗာနဓာတ်ဟုခေါ်သည်။ ရဟန္တာပုဂ္ဂိုလ်တို့ နိဗ္ဗာန်ကို မျက်မှောက်ပြုပြီးနောက် ပြုပြင်ခံဘဝအတွက် ဓာတ်သဘာဝ အကြွင်းအကျန်မရှိတော့ချေဟု နားလည်ရသည်။ နာမ်ရုပ်ဖြစ်စဉ်သဘာဝ မတည်ရှိတော့သော်လည်း သေခြင်းမဲ့သဘာဝနှင့် သန္တိသုခသည်သာ တည်ရှိသည်။ ယင်းအခြေအနေကို မမွေးဖွားခြင်း (အပ္ပဋိသန္ဓိ)၊ ဖြစ်ပေါ်မလာခြင်း (အနုပ္ပတ္တိ)၊ မဖြစ်ခြင်း (အဇာတ)၊ ပြုပြင်ခဲ့မဲ့ (အသင်္ခတ)ဟု ခေါ်ဆိုသည်[၂၆၂]။

ဗုဒ္ဓဝါဒရှုထောင့်မှ စိတ်ပိုင်းဘဝလွတ်မြောက်မှုကို ဝိမုတ္တိဟုလည်း ခေါ်သည်။ ဤနေရာ၌ မည်သို့သော စိတ်ပိုင်းဘဝလွတ်မြောက်မှုကို ဗုဒ္ဓဝါဒီတို့ ရည်ရွယ်သနည်း။ ရှေ့တွင် ဖော်ပြပြီးသည့်အတိုင်း စိတ်ပိုင်းဘဝလွတ်မြောက်မှု၌ သဉပါဒိသေသနှင့် အနုပါဒိသေသဟု အဆင့်နှစ်မျိုးပါရှိသည်။ သို့ရာတွင် ကမ္မဋ္ဌာန်းဘာဝနာရှုမှတ်သည့် နည်းစနစ်သည် စိတ်ပိုင်းဘဝလွတ်မြောက်မှု၏ အဓိပ္ပာယ်ကို လက်တွေ့နားလည်ရန် ကူညီသည်။ ထို့ပြင် စိတ်ပိုင်းလွတ်မြောက်မှုတွင် လွတ်မြောက်မှုအရသာ (ဝိမုတ္တိရသ) လက္ခဏာရှိသည်။ အမှန်စင်စစ် ဓမ္မကို သိနားလည်မှု၌ အာရုံငါးဖြင့် မြည်းစမ်းနိုင်သော အရသာမရှိချေ။ သို့တစေ ဓမ္မသည် တင်စား၍ဆိုခြင်းဖြင့် ဓမ္မရသအရည်အသွေး သို့မဟုတ် စိတ်ပိုင်းဘဝလွတ်မြောက်မှု အရသာရှိသည်။ အင်္ဂုတ္တရနိကာယ်၊ ပဟာရာဒသုတ်တွင် ဤအချက်ကို အောက်ပါအတိုင်း မိန့်ဆိုသည် -

> သေယျထာပိ ပဟာရာဒ မဟာသမုဒ္ဒေါ ဧကရသော၊ ဝေမေဝံ ခေါ မဟာရာဒ အယံ ဓမ္မဝိနယော ဧကရသော ဝိမုတ္တိရသော။ ယမ္ပိ ပဟာရာဒ အယံ ဓမ္မဝိနယော ဧကရသော ဝိမုတ္တိရသော။ အယံ ပဟာရာဒ ဣမသ္မိံ ဓမ္မဝိနယေ ဆဋ္ဌော အစ္ဆရိယော အဗ္ဘုတော ဓမ္မော။ ယံ ဒိသွာ ဒိသွာ ဘိက္ခူ ဣမသ္မိံ ဓမ္မဝိနယေ အဘိရမန္တိ[၂၆၃]။
> ပဟာရာဒ၊ ဉပမာသော်ကား မဟာသမုဒ္ဒရာသည် တစ်ခုတည်းသော အရသာရှိသကဲ့သို့ ထိုအတူ ဤဓမ္မဝိနယသည် ဝိမုတ္တိရသဟူသော တစ်ခုတည်းသော အရသာရှိ၏။ ပဟာရာဒ၊ ယင်းသည် ဤဓမ္မဝိနယ၌ ခြောက်ခုမြောက်သော အံ့သြဖွယ် မဖြစ်ဖူးမြဲထူးကဲသော အရည်အချင်းဖြစ်၏။ ယင်းအရည်အချင်းကို သိ၍သိ၍ ရဟန်းတို့သည် ဤသာနာတော်၌ ပျော်မွေ့ကြကုန်၏[၂၆၄]။

အထက်ပါဖော်ပြချက်၌ စိတ်ပိုင်းဘဝလွတ်မြောက်မှုဟူသည် အခြခံအားဖြင့် ဘဝသစ်မွေးဖွားခြင်း၊ အိုမင်းခြင်း၊ နာမကျန်းဖြစ်ခြင်း၊ သေခြင်း၊ စိုးရိမ်ခြင်း၊ ပူဆွေးခြင်းနှင့် အလုံးစုံသော ကိုယ်ဆင်းရဲခြင်း စိတ်ဆင်းရဲခြင်းဟူသော ဒုက္ခအစုအဝေးကို ဖြစ်ပေါ်စေတတ်သော အဝိဇ္ဇာနှင့် တဏှာမှလွတ်မြောက်ခြင်းဖြစ်သည်။ အကယ်၍ လောကီပျော်ရွှင်မှုများကို တပ်

---

[၂၆၀] Ibid, 9.
[၂၆၁] Kh-N, 319.
[၂၆၂] Bhikkhu Bodhi, *The Buddha and his Dhamma: Two Lectures on Buddhism* (Kandy, Sri Lanka, Buddhist Publication Society, 1999), 23.
[၂၆၃] An-N Vol III, 42-43.
[၂၆၄] Nyanaponika-thera and Bhikkhu Bodhi, 204.

နှစ်သက်ခြင်းတဏှာ၊ ဘဝတစ်ဖန်ဖြစ်ခြင်းကို စွဲလန်းမှုဥပါဒါန်နှင့် နေ့စဉ်ဘဝလှုပ်ရှားမှုများကို မသိခြင်းအဝိဇ္ဇာ မရှိခဲ့သော် သတ္တဝါတို့အား ဒုက္ခမရှိတော့ချေ။ ဗုဒ္ဓဝါဒ၌ ဒုက္ခအလုံးစုံပြတ်စဲသွားခြင်းကို နားလည်သဘောပေါက်ခြင်းအား နိဗ္ဗာန်ကိုရရှိမှုအဖြစ် ယူဆသည်။ သို့တစေ ဗုဒ္ဓဝါဒီ ကမ္မဋ္ဌာန်းဆရာများအား နိဗ္ဗာန်ကို မည်သို့ရရှိသနည်းဟု မကြာခဏ မေးကြသည်။ ယင်းမေးခွန်းအတွက် ကမ္မဋ္ဌာန်းဆရာတို့၏ ရိုးရိုးရှင်းရှင်းအဖြေမှာ စိတ်စင်ကြယ် (စိတ္တဝိသုဒ္ဓိဖြစ်) ရမည်ဟူ၍ပင်။ လေ့ကျင့်မှုအတွက် မည်သည့်နည်းလမ်းများကို အသုံးပြုပါသနည်း။ တစ်ဖန် ရိုးရိုးရှင်းရှင်းအဖြေမှာ လေ့ကျင့်ရန် အင်္ဂါရှစ်ရပ်ပါသည့် မဂ္ဂင်ရှစ်ပါး(အဋ္ဌမဂ္ဂင်)ကို အသုံးချရမည်ဟုဖြစ်သည်[၂၆၅]။ သို့ဖြင့် တစ်စုံတစ်ယောက်သည် နိဗ္ဗာန်နှင့်ပတ်သက်သည့် အဆုံးမဲ့ ဒဿနမေးခွန်းများကို မေးမြန်းနိုင်ရာသည်။ သို့တစေ တစ်စုံတစ်ယောက်သည် ကမ္မဋ္ဌာန်းရှုမှတ်ခြင်းမှတစ်ဆင့် နိဗ္ဗာန်သို့ဦးတည်သည့် ဓမ္မအရသာကို ကိုယ်တိုင်မသိမချင်း နိဗ္ဗာန်၏အနှစ်သာရကို နားလည်နိုင်မည် မဟုတ်ချေ။

**ဗုဒ္ဓဝါဒကမ္မဋ္ဌာန်းရှုမှတ်မှု၏ ရည်ရွယ်ချက်**

ယေဘုယျအားဖြင့် ကမ္မဋ္ဌာန်းထိုင်ခြင်း၏ရည်ရွယ်ချက်မှာ အစဉ်အလာနောက်ခံအမျိုးမျိုး သို့မဟုတ် ဘာသာတရား သဘောထားအထွေထွေကို အခြေခံ၍ ရည်ရွယ်ချက် အများအပြားရှိနိုင်သည်။ အချို့အစဉ်အလာအဖို့ ကမ္မဋ္ဌာန်းသည် စိတ်ငြိမ်းချမ်းမှုကို တိုးတက်စေရန်ဖြစ်ပြီး အချို့က စိတ်စွမ်းရည်အားဖြင့် ရုပ်ပိုင်းဆိုင်ရာရောဂါများကို ကုသရန်၊ အချို့မှု စိတ်တန်ခိုးရရှိရန်၊ အချို့မှု အခြားတစ်စုံတစ်ခုကို ရရှိရန်ဖြစ်သည်။ အစဉ်အလာတို့သည် အချင်းချင်း မတူခြားနားသောကြောင့် ၎င်းတို့၏ ကမ္မဋ္ဌာန်ထိုင်ခြင်း ရည်ရွယ်ချက်မှာ တစ်ခုနှင့်တစ်ခု ခြားနားကြသည်။

သို့ရာတွင် ဗုဒ္ဓဝါဒကမ္မဋ္ဌာန်းရှုမှတ်မှု၏ အခြေခံရည်ရွယ်ချက်မှာ စိတ်ကိုစင်ကြယ်စေရန်နှင့် နိဗ္ဗာန်သို့ရောက်ရန်ဖြစ်သည်[၂၆၆]။ တစ်ဖန် သမာဓိနှင့် စိတ်၏ငြိမ်းချမ်းသည့် အခြေအနေကို တိုးတက်စေရန် သမထနည်းဖြင့် ကမ္မဋ္ဌာန်းရှုမှတ်ကြပြီး ဝိပဿနာကမ္မဋ္ဌာန်းကိုမူ ဘဝတွင်ရှိသော ရုပ်နာမ်တရားတို့၏ အမြဲမရှိခြင်းအနိစ္စ၊ ဆင်းရဲခြင်းဒုက္ခနှင့် ငါကောင်သူကောင်မဲ့မှု အနတ္တသဘာဝကို ထိုးထွင်း၍သိမြင်လာရန် အားထုတ်ခြင်းဖြစ်သည်။ ဘဝတစ်ခုဟူသည် ခန္ဓာငါးပါး အစုအပေါင်းပင်ဖြစ်သည်[၂၆၇]။

အထူးပြု၍ဖော်ပြရသော် ထေရဝါဒဗုဒ္ဓဝါဒီတို့သည် စိတ်ကိုစင်ကြယ်အောင်လုပ်ခြင်းဖြင့် နိဗ္ဗာန်သို့ရောက်ရန် သတိပဋ္ဌာန်ကမ္မဋ္ဌာန်းဟုလည်းခေါ်သော ဝိပဿနာကမ္မဋ္ဌာန်းသည် မရှိမဖြစ်လိုအပ်ကြောင်း အလေးအနက်ဆိုကြသည်[၂၆၈]။ စိတ်ကိုစင်ကြယ်အောင် ပြုလုပ်ခြင်းမရှိဘဲ နိဗ္ဗာန်ဟူသည် မည်သို့သောအရာဖြစ်ကြောင်း နားလည်ရန် ခက်ခဲသည်။ သို့ရာတွင် ဗုဒ္ဓဝါဒကမ္မဋ္ဌာန်းရှုမှတ်ခြင်းနှင့် ပတ်သက်၍ ဆိုဖွယ်တစ်ရပ်ရှိသည်။ ယောဂီသည် စိတ်စင်ကြယ်မှုအခြေအနေနှင့် နိဗ္ဗာန်ကို နားလည်မှုတို့အကြား ဆက်နွယ်မှုကို မည်သို့နားလည်နိုင်သနည်း။ စိတ်ကိုစင်ကြယ်စေရန်မှာ မိမိကိုယ်ကို အရှိကိုအရှိအတိုင်း နားလည်ရမည်ဖြစ်သည်။ ဥပမာအားဖြင့် စိတ် စေတသိက် ရုပ် နိဗ္ဗာန်ဟူသော ပရမတ္ထတရားတို့၏ ဖြစ်စဉ်သဘာဝကို အရှိအတိုင်း နားလည်ရမည်ဖြစ်သည်။ ယောဂီပုဂ္ဂိုလ်အနေဖြင့် ယင်းဖြစ်စဉ်တို့သည် အမှန်တကယ်တည်ရှိကြောင်းသိမြင်သည်။ ဗုဒ္ဓဝါဒသည် ယောဂီပုဂ္ဂိုလ်အား နိဗ္ဗာန်၏သဘာဝကို နားလည်စေနိုင်သော ဝိပဿနာပညာ တိုးတက်လာစေရေးအတွက် စိတ်စင်ကြယ်မှုဟုလည်းခေါ်သည့် သမာဓိ၏အရေးပါပုံကို အထူးပြုသင်ကြားသည်။ သမာဓိသုတ္တန်၌ ဤအချက်နှင့် ပတ်သက်၍ ဗုဒ္ဓရှင်တော်မြတ်က အောက်ပါအတိုင်း မြွက်ကြားသည် -

> သမာဓိံ ဘိက္ခဝေ ဘာဝေထ၊ သမာဟိတော ဘိက္ခဝေ ဘိက္ခု ယထာဘူတံ ပဇာနာတိ။ ကိဉ္စ ယထာဘူတံ ပဇာနာတိ၊ ရူပဿ သမုဒယဉ္စ အတ္ထင်္ဂမဉ္စ ဝေဒနာယ သမုဒယဉ္စ အတ္ထင်္ဂမဉ္စ သညာယ သမုဒယဉ္စ အတ္ထင်္ဂမဉ္စ သင်္ခါရာနံ သမုဒယဉ္စ အတ္ထင်္ဂမဉ္စ ဝိညာဏဿ သမုဒယဉ္စ အတ္ထင်္ဂမဉ္စ[၂၆၉]။
>
> ရဟန်းတို့၊ သမာဓိကို ပွားများကြလော့။ သမာဓိကို ပွားများခြင်းဖြင့် ဟုတ်တိုင်းမှန်စွာ သိမြင်၏။ မည်သို့ ဟုတ်တိုင်းမှန်စွာ သိသနည်းဟူမူ ရုပ်တရား၏ ဖြစ်ခြင်းပျက်ခြင်းကို သိ၏။ ဝေဒနာ၏ ဖြစ်ခြင်းပျက်ခြင်းကို သိ၏။

---

[၂၆၅] ဓမ္မစက္ကပဝတ္တနသုတ်အလိုအရ မဂ္ဂင်ရှစ်ပါးမှာ သမ္မာဒိဋ္ဌိ (မှန်သောအမြင်)၊ သမ္မာသင်္ကပ္ပ (မှန်သောအကြံအစည်)၊ သမ္မာဝါစာ (မှန်သော စကား)၊ သမ္မာကမ္မန္တ (မှန်သော အလုပ်)၊ သမ္မာအာဇီဝ (မှန်သောသက်မွေးဝမ်းကျောင်း)၊ သမ္မာဝါယာမ (မှန်သောလုံ့လ)၊ သမ္မာသတိ (မှန်သော သတိ)၊ သမ္မာသမာဓိ (မှန်သော တည်ကြည်မှု)တို့ဖြစ်သည်။ Bodhi, *The Connected Discourses of the Buddha*, 1844.

[၂၆၆] Di-N Vol. III, 131.

[၂၆၇] BD, 36.

[၂၆၈] Di-N Vol. III, 230.

[၂၆၉] Sa-N Vol. II, 12.

သညာ၏ ဖြစ်ခြင်းပျက်ခြင်းကို သိ၏။ သင်္ခါရတရားတို့၏ ဖြစ်ခြင်းပျက်ခြင်းကို သိ၏။ ဝိညာဏ်၏ ဖြစ်ခြင်းပျက်ခြင်းကို သိ၏[၂၇၀]။

ဤပါဠိတော်၌ ဗုဒ္ဓရှင်တော်မြတ် အစစ်အမှန် ရည်ရွယ်ခဲ့သည်ကို နားလည်ရန် သတိပဋ္ဌာန်လေးပါးကို ပွားများ လျက် သတိပဋ္ဌာန်ကမ္မဋ္ဌာန်းကို အသုံးချရမည်ဖြစ်သည်။ အားထုတ်မှုအစတွင် ယောဂီသည် ရုပ်နာမ်ပရမတ္ထတရားများကို ကွဲပြားစွာ နားလည်လာလိမ့်မည်။ နာမ်ဟုဆိုရာ၌ နာမ်တရား၏ လုပ်ဆောင်မှုနှစ်ရပ်ဖြစ်သည့် စိတ်နှင့် စေတသိက်တို့ကို ဤလေ့လာမှုက အသိအမှတ်ပြုလိမ့်မည်ဖြစ်သည်။ အမှန်စင်စစ် ယောဂီပုဂ္ဂိုလ်များသည် ပရမတ္ထတရားတို့၏ ထင်ရှားမှု၊ ယင်းတို့၏ ထင်ရှားသော ကိစ္စ (လုပ်ဆောင်ချက်)တို့ကို သတိပဋ္ဌာန်ကမ္မဋ္ဌာန်းမှတစ်ဆင့် နားလည်နိုင်စွမ်းရှိသည်။

အဘိဓမ္မာပိဋကေ ပထမဆုံးကျမ်းစာ ဓမ္မသင်္ဂဏီပါဠိတော်အရ စိတ်ကို အောက်ပါအတိုင်း အုပ်စုခွဲနိုင်သည် ၁) ကုသလစိတ္တ ၂) အကုသလစိတ္တ ၃) အဗျာကတစိတ္တ (ဝိပါက်နှင့်ကြိယာစိတ်) ဟု သုံးမျိုးခွဲခြားပြီး စုစုပေါင်း စိတ်အကျဉ်း ၈၉-ပါးရှိသည်။ စေတသိက်တို့မှာ ငါးဆယ့်နှစ်ပါးရှိသည်။ ယင်းတို့မှာ ဝိတက်၊ ဝေဒနာ၊ သညာ၊ စေတနာ၊ သတိ၊ ဧကဂ္ဂတာ၊ ပညာ စသည်တို့ဖြစ်သည်။ သို့ရာတွင် အဘိဓမ္မာပိဋကေ၌ ပရမတ္ထတရားလေးပါးကို အုပ်စုသုံးစုခွဲသည်။ ပါဠိ ဘာသာဖော်ပြချက်မှာ 'ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ၊ အဗျာကတာ ဓမ္မာ' ဟုဖြစ်သည်။ အဘိဓမ္မာပိဋကအလိုအရ ကုသလဓမ္မဟူသည် ကုသိုလ်စိတ် နှစ်ဆယ့်တစ်ပါးနှင့် ယင်း၌ယှဉ်သည့် စေတသိက် သုံးဆယ့်ရှစ်ပါးဖြစ်သည်။ အကုသလ ဓမ္မဟူသည် အကုသိုလ်စိတ် ဆယ့်နှစ်ပါးနှင့် ယင်းနှင့်ယှဉ်သည့် စေတသိက် နှစ်ဆယ့်ခုနစ်ပါးတို့ဖြစ်သည်။ အဗျာကတ ဓမ္မတွင် ကျန်ပရမတ္ထတရားလေးပါးတို့ ပါဝင်သည်။ ယင်းတို့မှာ ဝိပါက်စိတ် သုံးဆယ့်ခြောက်ပါးနှင့် စေတသိက် သုံးဆယ့် သုံးပါး၊ ကြိယာစိတ် နှစ်ဆယ်နှင့် စေတသိက် သုံးဆယ့်ငါးပါး၊ ရုပ် နှစ်ဆယ့်ရှစ်ပါး နှင့် နိဗ္ဗာန်တို့ဖြစ်သည်[၂၇၁]။ သို့တစေ ယောဂီသည် ကမ္မဋ္ဌာန်း၏ စွမ်းရည်ဖြင့် စိတ်စေတသိက်တို့၏ ကိစ္စအားလုံးကို သတိပြုမိလိမ့်မည် မဟုတ်ပေ။ သို့ရာတွင် ယောဂီသည် လောဘ၊ ဒေါသ၊ ဥဒ္ဒစ္စကဲ့သို့သော ထင်ရှားသည့် စိတ်၏လုပ်ဆောင်ချက်အများစုကို သိလိမ့်မည်ဖြစ်သည်။

ဆက်လက်၍ အားထုတ်သွားမည်ဆိုင်လျှင် ကမ္မဋ္ဌာန်းဘာဝနာသည် စိတ်စေတသိက်တို့၏ လုပ်ဆောင်ချက်ကို ပိုမို နက်ရှိုင်းစွာ လေ့လာမည်ဖြစ်သည်။ ယင်းနှစ်မျိုးအနက် စိတ်သည် အဓိကအနေဖြင့် လှုပ်ရှားပြီး စေတသိက်တို့က ဒုတိယ အခန်းကဏ္ဍမှ လှုပ်ရှားသည်။ လက်တွေ့သိရှိမှုမရှိဘဲ ကျမ်းစာအသိမျှဖြင့် စိတ်စေတသိက်တို့၏ သဘာဝခြားနားချက်ကို နည်းလည်ရန် ခဲယဉ်းသည်။ ယင်း စေတသိက် ငါးဆယ့်နှစ်မျိုးသည် သဘာဝအားဖြင့် ဆက်သွယ်မှုအမျိုးမျိုးဖြင့် မိမိ (စေတသိက်)အချင်းချင်းနှင့် စိတ်တို့နှင့်ယှဉ်တွဲသည်။ စေတသိက်တို့သည် စိတ်နှင့်အတူဖြစ်ပေါ်ပြီး အတူချုပ်ကြသည်[၂၇၂]။

ဤဖော်ပြချက်၌ အကယ်၍ ကျွန်ုပ်တို့သည် စိတ်နှင့်စေတသိက်တို့၏လုပ်ဆောင်ချက်ကို ခွဲခြားလိုသော် သမထ ဝိပဿနာဟူသော နည်းစနစ်များကို အသုံးပြုလျက် စတင်ကမ္မဋ္ဌာန်းရှုမှတ်ရမည်ဖြစ်သည်။ မိမိ၏သဘာဝအတွေ့အကြုံအ တွင်း အထင်ရှားဆုံးအာရုံတစ်ခုဖြင့် စတင်အားထုတ်လျှင် အကောင်းဆုံးဖြစ်သည်။ ထေရဝါဒဗုဒ္ဓဝါဒီတို့၏ ကမ္မဋ္ဌာန်းရှု မှတ်မှုတွင် အသုံးများသည့် နည်းလမ်းမှာ အာနာပါနဿတိ (ထွက်လေဝင်လေကို သိနေခြင်း)နှင့် ကာယဂတာသတိ (ခန္ဓာကိုယ်လှုပ်ရှားမှုများ သို့မဟုတ် ဝမ်းဗိုက်၏ ဖောင်းခြင်းပိန်ခြင်းကို သိနေခြင်း)ဖြစ်သည်။ လေ့ကျင့်အားထုတ်စဉ် အတွင်း ကမ္မဋ္ဌာန်းအာရုံကို အပြည့်အဝ သိမှတ်မှုအဆင့်ကို ရရှိစေရန် ယောဂီပုဂ္ဂိုလ်သည် ကမ္မဋ္ဌာန်းအာရုံကို အနီးကပ် ရှုမှတ်ရန်လိုပြီး ယင်းအာရုံအား ကြံစည်ခြင်း၊ တွေးတောခြင်း၊ ခွဲခြမ်းစိတ်ဖြာခြင်း သို့မဟုတ် မျှော်လင့်ခြင်းမပြုဘဲ အဆက် မပြတ် ရှုမှတ်ရသည်။ ယောဂီပုဂ္ဂိုလ်၏ သမာဓိစွမ်းအားသည် ကမ္မဋ္ဌာန်းအာရုံကို အနီးစပ်ဆုံးရှုမှတ်နိုင်စွမ်းရှိသော ကြောင့် ခဏတိုင်းခဏတိုင်း၌ ဖြစ်ပေါ်နေသော စိတ်ပိုင်း ရုပ်ပိုင်းအနှောင့်အယှက်များကို ကျော်လွှားနိုင်သည်။ ဗုဒ္ဓဝါဒတွင် ငြိမ်းချမ်းပြီး ထိုးထွင်းသိမြင်သောစိတ်မှာ သမာဓိဟု ထင်ရှားသည်။ တည်ကြည်သောစိတ်သည် စိတ်ဓာတ်စင်ကြယ်မှု (စိတ္တဝိသုဒ္ဓိ)ဆီသို့ ဆိုက်ရောက်စေသည်[၂၇၃]။

အင်္ဂုတ္တရနိကာယ်အလိုအရ စိတ်သည် သဘာဝအားဖြင့် အရောင်တောက်ပသည်။ ဆိုလိုသည်မှာ ကိလေသာများ အနှောင့်အယှက်များမှ ကင်းဝေးသောအခါ စိတ်သည် တောက်ပသည် သို့မဟုတ် အရောင်ထုတ်လွှတ်သည်ဟု ဖြစ်သည်။ ယင်းသို့ စိတ်တောက်ပမှုအခြေအနေကို စိတ်စင်ကြယ်မှု (စိတ္တဝိသုဒ္ဓိ) ဟု ခေါ်သည်။ သို့ရာတွင် စိတ်သည် တစ်ခါတစ်ရံ၌

---

[၂၇၀] Sa-N-NT 863.

[၂၇၁] Ab, Vol. I, 1-3, 17-144; Ab-S, 2-38, 95-98,113.

[၂၇၂] Ibid, 104.

[၂၇၃] Mahasi Sayadaw, *The Progress of Insight* (Kandy, Sri Lanka: Buddhist Publication Society, 1978), 4-7.

မှိန်ပြီး ညစ်ညူး၏။ ဤအချက်နှင့်ပတ်သက်၍ ပါဠိတော်၌ ယင်းသို့ဖြစ်ရခြင်း၏ အကြောင်းတရားများကို ဖော်ပြသည်။ ယင်းဖော်ပြချက်သည် အင်္ဂုတ္တနိကာယ်၊ အစ္ဆရာသင်္ဃာတဝဂ်၌ လာသည် -

> ပဘဿရမိဒံ ဘိက္ခဝေ စိတ္တံ။ တဉ္စ ခေါ အာဂန္တုကေဟိ ဥပက္ကိလေသေဟိ ဥပက္ကိလိဋ္ဌံ။ တံ အဿုတဝါ ပုထုဇ္ဇနော ယထာဘူတံ နပ္ပဇာနာတိ။ တသ္မာ အဿုတဝတော ပုထုဇ္ဇနဿ စိတ္တဘာဝနာ နတ္ထီတိ ဝဒါမိ။ ပဘဿရမိဒံ ဘိက္ခဝေ စိတ္တံ။ တဉ္စ ခေါ အာဂန္တုကေဟိ ဥပက္ကိလေသေဟိ ဝိပ္ပမုတ္တံ။ တံ သုတဝါ အရိယသာဝကော ယထာဘူတံ ပဇာနာတိ။ တသ္မာ သုဝတော အရိယသာဝကဿ စိတ္တဘာဝနာ အတ္ထီတိ ဝဒါမိ[၂၃၄]။
>
> ရဟန်းတို့၊ ဤ (ဘဝင်)စိတ်သည် ပြိုးပြိုးပြက်ပြက် တောက်ပ၏။ ထိုစိတ်သည်ပင် (အကုသိုလ်ဇောခဏ၌) ဧည့်သည် သဖွယ်ဖြစ်ကုန်သော ညစ်ညူးကြောင်း ကိလေသာတို့ကြောင့် ညစ်ညူးရ၏။ ထို (အခြင်းအရာ)ကို အကြားအမြင် မရှိသော ပုထုဇဉ်ပုဂ္ဂိုလ်သည် ဟုတ်တိုင်းမှန်စွာ မသိ၊ ထို့ကြောင့် အကြားအမြင်မဲ့သော ပုထုဇဉ်ပုဂ္ဂိုလ်အား စိတ်ကို ပွားများခြင်းမရှိဟု ငါဆို၏။ ရဟန်းတို့၊ ဤ (ဘဝင်)စိတ်သည် ပြိုးပြိုးပြက်ပြက် တောက်ပ၏။ ထိုစိတ်သည်ပင် (ကုသိုလ်ဇောခဏ၌) ဧည့်သည် သဖွယ်ဖြစ်ကုန်သော ညစ်ညူးကြောင်း ကိလေသာတို့မှ ကင်းလွတ်၏။ ထို (အခြင်း အရာ)ကို အကြားအမြင်ရှိသော အရိယာသာဝကသည် ဟုတ်တိုင်းမှန်စွာ သိ၏၊ ထို့ကြောင့် အကြားအမြင်ရှိသော အရိယာသဝကအား စိတ်ကို ပွားများခြင်းရှိ၏ဟု ငါဆို၏[၂၃၅]။

ဤနည်းဖြင့် ဗုဒ္ဓရှင်တော်မြတ်သည် စိတ်သည် သဘာဝအားဖြင့် အရောင်ထွက်သော်လည်း ယင်းသို့အရောင်ထွက် ခြင်းမှာ ကိလေသာတို့ကြောင့် အမြဲတမ်းမဟုတ်ကြောင်း သိမြင်တော်မူခဲ့သည်။ အထက်ပါဖော်ပြချက်၌ တွေ့ရသည့် အတိုင်း စိတ်ပိုင်းဘဝတိုးတက်ရန် စိတ်သည် အစမှတ်ဖြစ်ပြီး ကမ္မဋ္ဌာန်းနည်းကို အဓိကအသုံးပြုရမည်ဖြစ်သည်။ သည် သာမက နိဗ္ဗာန်ကို လိုလားသူများ၏ လွတ်မြောက်စင်ကြယ်သောစိတ် အထွတ်အထိပ်သို့ ရောက်သည့် အဓိကအချက် လည်းဖြစ်သည်။ ဗုဒ္ဓဝါဒပါဠိတော်များ၌ ကောင်းသောအရာအားလုံးသည် စိတ်တွင်ဖြစ်ပေါ်ပြီး ဆိုးသောအရာအားလုံး လည်း စိတ်၌ပင် ဖြစ်ပေါ်သည်၊ ကောင်းသောအရာများရှိနေသရွေ့ ကောင်းခြင်းသည် စိတ်နှင့်ဆက် နွယ်နေမည်ဖြစ်ပြီး မကောင်းသောအရာများရှိနေသရွေ့ မကောင်းခြင်းသည် စိတ်နှင့်ဆက်နွယ်နေလို့မ်မည် ဟုဖော်ပြသည်[၂၃၆]။ စိတ်၏မူလ အခြေအနေနှင့် အမှန်စင်စစ် ရုပ်နာမ်တို့၏သဘာဝအပါအဝင် အစစ်အမှန်အားလုံးကိုသိရန် စိတ်သည် ကိလေသာ အညစ်အကြေးအားလုံးမှ စင်ကြယ်ရမည်ဖြစ်သည်။ စိတ်စင်ကြယ်ရေးအတွက် စိတ်၏အဖျက်အရည်အချင်းများနှင့် ညစ် နွမ်းနေသော စိတ်ထားအမှန်ကို သိရမည်ဟု ဆိုရန်ရှိသည်။ အနှောင်အဖွဲ့တွင် ရှိနေသောစိတ်ကို လွတ်မြောက်စေရန် တဏှာ၊ ရာဂနှင့် အဝိဇ္ဇာတို့ကို ဖယ်ရှားပစ်ရမည်။

**အခြေခံ ဗုဒ္ဓဝါဒကမ္မဋ္ဌာန်း ထိုင်နည်းများ**

ဖော်ပြပြီးသည့်အတိုင်း အခြေခံအားဖြင့် ကမ္မဋ္ဌာန်းထိုင်နည်း နှစ်မျိုးရှိသည်။ ၁) သမထ နှင့် ၂) ဝိပဿနာတို့ဖြစ်သည်[၂၃၇]။ ကမ္မဋ္ဌာန်း၏ စာလိုအဓိပ္ပာယ်မှာ 'အလုပ်လုပ်သည့် နေရာ'ဟုဖြစ်သည်။ မည်သည့်အလုပ်လုပ်သည့်နေရာကို ရည်ညွှန်းပါ သနည်း။ ပွားများအားထုတ်မှုနယ်ပယ်၌ စိတ်ပိုင်းဘဝတိုးတက်မှုကို အလိုရှိသူ ယောဂီပုဂ္ဂိုလ်၏စိတ်ကို ရည်ညွှန်းသည်။ စိတ်သည် ယောဂီပုဂ္ဂိုလ်အဖို့ တရားရှုမှတ်မှုကြောင့်ဖြစ်သော အကျိုးထူးများကို တိုးတက်ရေးအတွက် အလုပ်လုပ်သည့် နေရာဖြစ်သည်။ သို့တစေ ဗုဒ္ဓဝါဒလေ့ကျင့်အားထုတ်မှု၌ ဘာဝနာဟူသောဝေါဟာရကို မကြာခဏအသုံးပြုကြသည်။ ဘာဝနာဟူသည် စာအလို စိတ်ပိုင်းဆိုင်ရာ ပွားများအားထုတ်မှုဖြစ်သည်။ ဗုဒ္ဓဝါဒဆိုင်ရာ ယူဆမှုအတွင်း ကမ္မဋ္ဌာန်းဟူ သော ဝေါဟာရသည် ဘာဝနာမှဆင်းသက်လာသည်။ ဘာဝနာနှစ်မျိုးရှိသည်။ ယင်းတို့မှာ ၁) သမထဘာဝနာနှင့် ၂) ဝိပဿနာဘာဝနာတို့ဖြစ်သည်။ ယင်းသည် ကမ္မဋ္ဌာနနှစ်မျိုးဟူသည်နှင့် အတူတူပင်ဖြစ်သည်။ ယင်းနှစ်မျိုးအနက် ဝိပဿ နာကမ္မဋ္ဌာန်းသည်သာ ဗုဒ္ဓဝါဒကမ္မဋ္ဌာန်းထိုင်နည်း အတိအကျဖြစ်သည်။ အခြားကမ္မဋ္ဌာန်းထိုင်နည်းများကို ဗုဒ္ဓဝါဒမဟုတ်

---

[၂၃၄] An-N Vol. I, 9.

[၂၃၅] Nyanaponkka thera and Bhikkhu Bodhi, *Numerical Discourses fo the Buddha*, 36.

[၂၃၆] Dhammapada, Kh-N, 13.

[၂၃၇] Ab-S, 146.

သည့် ကမ္မဋ္ဌာန်းဂိုဏ်းများ၌လည်း တွေ့ရသည်။ အခြားကမ္မဋ္ဌာန်းထိုင်နည်းဟူရာ၌ သမထကမ္မဋ္ဌာန်းကို ရည်ညွှန်းခြင်းဖြစ်သည်။ သမထကမ္မဋ္ဌာန်း၌ စုစုပေါင်း အမျိုးအစားလေးဆယ်ရှိသည်[၂၇၈]။

သမထကမ္မဋ္ဌာန်းဟူရာ၌ သမထဟူသည် စိတ်၏တည်ငြိမ်မှု၊ စိတ်၏အနှောင့်အယှက်များကို ဖယ်ခွာခြင်းဟုအဓိပ္ပာယ်ရှိသည်။ သမာဓိနှင့် သမထဟူသော ဝေါဟာရသည် အဓိပ္ပာယ်တူသည်။ နည်းပညာအရ သမာဓိဟူသောပုဒ်ကို ဗုဒ္ဓဝါဒကျမ်းဂန်တို့၌ ဧကဂ္ဂတာဟု အဓိပ္ပာယ်ဖွင့်ဆိုသည်။ ယင်းသည် အများဆုံး ဈာနကမ္မဋ္ဌာန်း၌ တွေ့ရသည်။ အဆင့်မြင့်စွာ တိုးတက်ပြီးသော ယင်းသမာဓိ၌ သမာပတ်ရှစ်မျိုးရှိသည်။ ရူပဈာန်လေးပါးနှင့် အရူပဈာန်လေးပါး တို့ဖြစ်သည်။

ဝိပဿနာဟူသောဝေါဟာရကို ထိုးထွင်း၍သိမြင်မှုပညာဟု ဘာသာပြန်ကြသည်။ နည်းပညာအရ ယင်း ဝေါဟာရကို ပါဠိဘာသာဖြင့် 'အနိစ္စာဒိဝသေန ဝိဝိဓာကာရေန ပဿတီတိ ဝိပဿနာ။ အနိစ္စာနုပဿနာဒိကာ ဘာဝနာ ပညာ။ (အနိစ္စစသော အခြင်းအရာအမျိုးမျိုးဖြင့် ရှုမြင်တတ်သောကြောင့် ဝိပဿနာမည်၏။ အနိစ္စစသည်ဖြင့် ရှုမြင်တတ်သော ဘာဝနာပညာကို ဆိုလို၏။)'[၂၇၉] ဝိပဿနာကမ္မဋ္ဌာန်းသည် အနိစ္စ ဒုက္ခ အနတ္တဟူသော လက္ခဏာရေးသုံးပါးနှင့် တိုက် ရိုက်ပတ်သက်သော သဘာဝတရားတို့ကို တိုက်ရိုက်ရှုမှတ်၍ ချဉ်းကပ်ခြင်းဖြစ်သည်။ အဘိဓမ္မာအလိုအရ ထိုးထွင်း၍သိမြင်ခြင်းသည် စေတသိက် ငါးဆယ့်နှစ်ပါး၌ပါဝင်သော ပညာစေတသိက်၏ ကိစ္စဖြစ်သည်။ ယင်း၏အရေးအကြီးဆုံးကိစ္စမှာ သဘာဝမှန်ကိုသိခြင်းဆီသို့ စိတ်ကို လမ်းညွှန်ပေးသည်။

သမထကမ္မဋ္ဌာန်းနှင့် ဝိပဿနာကမ္မဋ္ဌာန်းတို့၏ ထူးခြားချက်ကား အဘယ်နည်း။ ပါဠိကျမ်းဂန်တို့၌ သမထကမ္မဋ္ဌာန်းအား အဓိပ္ပာယ်ဖွင့်ဆိုချက်မှာ ဤသို့ဖြစ်သည် 'ကာမစ္ဆန္ဒာဒယော ပစ္စနီကဓမ္မေ သမေတိ ဝိနာသေတီတိ သမထော၊ သမာဓိဿေတံ နာမံ။ ကာမစ္ဆန္ဒစသော ဆန့်ကျင်ဘက်တရားတို့ကို ပျက်စီးစေတတ်သောကြောင့် သမထမည်၏။ ယင်းသည် သမာဓိ၏ အမည်ဖြစ်သည်'။ ဤနေရာ၌ သမထဟူသည် ကမ္မဋ္ဌာန်းရှုမှတ်၍ရရှိသည့် သမာဓိကို ရည်ညွှန်းသည်။ ကာမအလိုဆန္ဒများ၊ မကောင်းစိတ်ထားများ၊ ဝိစိကိစ္ဆာစသော နီဝရဏတရားများကဲ့သို့သော စိတ်၏သွင်ပြင်ပုံစံမျိုးစုံတို့သည် လေ့ကျင့်အားထုတ်နေစဉ်အတွင်း ငြိမ်းအေးသွားကြသည်။ ဤဖော်ပြချက်၌ သမထသည် သမာဓိ၏ ပရိယာယ်တူပုဒ်ဖြစ်သည်။ ဝိပဿနာ၏ အဓိပ္ပာယ်ဖွင့်မှာ 'အနိစ္စာဒိဝသေန ဝိဝိဓေဟိ အာကာရေဟိ ဓမ္မေ ပဿန္တီတိ ဝိပဿနာ၊ ပညာယေတံ နာမံ။ အနိစ္စစသည်၏အစွမ်းဖြင့် အထူးထူးသော အခြင်းအရာအားဖြင့် တရားတို့ကို ရှုတတ်သောကြောင့် ဝိပဿနာ မည်၏။ ယင်းသည် ပညာ၏အမည်တည်း'ဟု ဖြစ်သည်။ သို့ဖြင့် အဘိဓမ္မာအလိုအရ ဝိပဿနာဉာဏ်ဟူသည် ပညာအနေဖြင့် ဖြစ်ပေါ်လာသော ထိုးထွင်းသိမြင်မှု၏ လုပ်ဆောင်ချက်ဖြစ်သည်[၂၈၀]။

သမာဓိတိုးတက်ရေးအတွက် အခြေခံကမ္မဋ္ဌာန်းနည်းတစ်ခုမှာ ထွက်လေဝင်လေကို ရှုမှတ်မှုဖြစ်သည်။ ယင်းနည်း၌ ထွက်လေဝင်လေသည် သတိ၏အာရုံဖြစ်သည်။ အားထုတ်စဉ်အတွင်း ယောဂီသည် ထွက်လေဝင်လေထိသည့် အထင်ရှားဆုံးနေရာ နှုတ်ခမ်းအထက်နားမှာဖြစ်စေ၊ နှာသီးဖျားဝန်းကျင်မှာဖြစ်စေ ထွက်လေဝင်လေကို ရှုမှတ်နေရသည်။ ယင်းနည်းဖြင့် ထွက်လေဝင်လေကို ဂရုစိုက်နေသဖြင့် ယောဂီသည် မိမိ၏သမာဓိကို တိုးတက်အောင် ဆောင်ရွက်နိုင်သည်။ ကနဦးတွင် ယောဂီသည် ကမ္မဋ္ဌာန်းအာရုံ၌ တည်ကြည်မှုမရနိုင်ခဲ့သော် ထွက်လေဝင်လေကို ရေတွက်ရန် ဝိသုဒ္ဓိမဂ်ကျမ်းက အကြံပြုသည်။ ရေတွက်သည့်နည်းသည် ယောဂီပုဂ္ဂိုလ်အား သက်သောင့်သက်သာဖြင့် သမာဓိကို တိုးတက် စေသည်။ ယင်းနည်းကို ပါဠိဘာဖြင့် ဂဏနာနယဟုခေါ်သည်။ ယောဂီသည် ဝင်လေ ထွက်လေ တစ်၊ ဝင်လေ ထွက်လေ နှစ် - စသည်ဖြင့် ရေတွက်၍ ယင်းနည်းကို အသုံးပြုနိုင်သည်။ ဝိသုဒ္ဓိမဂ်ကျမ်း၌ အရှင်မဟာဗုဒ္ဓဃောသမထေရ်က အောက်ပါအတိုင်း ရှင်းလင်းချက်ပြုသည် -

> ဤနေရာ၌ ကမ္မဋ္ဌာန်းအားထုတ်စ အမျိုးကောင်းသားသည် ဤကမ္မဋ္ဌာန်းအာရုံကိုရေတွက်၍ နှလုံးသွင်း ရှုမှတ်သင့်၏။ ယင်းသို့ရေတွက်ရာ၌ ငါးကြိမ်အောက်မလျော့စေဘဲ ဆယ်ခုထက်မပိုစေဘဲ အကြား၌ မကျိုးပျက်စေဘဲ ရေတွက်ရမည်။ ငါးကြိမ်အောက်ယုတ်၍ရေတွက်သော် ခြံကျဉ်း၌သိုလှောင်ထားသော နွားအုပ်ကဲ့သို့ စိတ်သည် ကျဉ်းမြောင်းသဖြင့် တုန်လှုပ်၏။ ဆယ်ကြိမ်ထက်လွန်၍ ရေတွက်သော် ၎င်း၏စိတ်သည် (ထွက်လေ ဝင်လေကို ကျော်လွန်၍)ရေတွက်ရာနောက်သို့ လိုက်သွား၏။ ရေတွက်စဉ် ရပ်နားမှုပြုသော် ငါ၏ကမ္မဋ္ဌာန်းသည် ပြီးဆုံးပြီလော မပြီးဆုံးသေးဘူးလားဟု တွေးတော၍ ပျံ့လွင့်၏။ သို့ဖြစ်၍ ယင်းအပြစ်ကို ရှောင်ရှားပြီး ရေတွက်ရမည်[၂၈၁]။

[၂၇၈] Ibid, 329.

[၂၇၉] Ab-T, 267.

[၂၈၀] Pat-A, Vol. I, 116.

[၂၈၁] Vi-M-TS, 271.

**အာနာပါနကမ္မဋ္ဌာန်းဖြင့် ဈာန်တရားကို ရရှိခြင်း**

ပါဠိဘာသာအားဖြင့် ဈာန သက္ကတဘာသာအားဖြင့် ဓျာနသည် သမာဓိ၏ပိုမိုနက်ရှိုင်းသော အဆင့်ဖြစ်သည့် 'စိတ်အာရုံနှစ်မြုပ်ခြင်း (absorption)'အတွက် အသုံးပြုသော ကမ္မဋ္ဌာန်းဝေါဟာရဖြစ်သည်။ ဈာနဟူသောဝေါဟာရသည် အပ္ပနာသမာဓိဟူသော ဝေါဟာရနှင့် ပရိယာယ်တူဖြစ်သည်။ ကမ္မဋ္ဌာန်းလေ့ကျင့်စဉ်အတွင်း သဒ္ဓါ၊ ပညာ၊ ဝီရိယ၊ သမာဓိနှင့် သတိဟူသော ဣန္ဒြေငါးပါးညီညွတ်မှုရရှိခြင်းဖြင့် သမာဓိတိုးတက်အောင်လုပ်ရသည်[၂၈၂]။ ယင်းနောက် ယောဂီပုဂ္ဂိုလ်၏ သမာဓိအဆင့်သည် ဥပစာရသမာဓိအဆင့်ကို လွန်ပြီး အပ္ပနာသမာဓိအဆင့်သို့ ဆိုက်ရောက်သည်။ ဝိသုဒ္ဓိမဂ်၌ ဈာန်ဖြစ်စဉ်အတွင်း ပေါ်လာသော သမာဓိနှစ်မျိုးရှိသည်။ အမှန်စင်စစ် ယောဂီသည် ကမ္မဋ္ဌာန်းနည်းများစွာကို အသုံးပြုလျက် ဈာန်များကို ရရှိနိုင်သည်။ အောက်ပါဖော်ပြချက်များက ဗုဒ္ဓဝါဒဈာနကမ္မဋ္ဌာန်း၏ လမ်းညွှန်ချက်အချို့ကို ဖော်ပြသည်။ ဖော်ပြချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

သမာဓီတိ ဥပစာရအပ္ပနာဝသေန ဒုဝိဓော။ ဒုဝိဓကောဋ္ဌာသေ ဆန္နံ အနုဿတိဋ္ဌာနာနံ မရဏဿတိယာ ဥပသမာနုဿတိယာ အာဟာရေ ပဋိကူလသညာယ စတုဓာတုဝဝတ္ထာနဿာတိ ဣမေသံ ဝသေန လဒ္ဓစိတ္တေကဂ္ဂတာ၊ ယာ စ အပ္ပနာသမာဓီနံ ပုဗ္ဗဘာဂေ ဧကဂ္ဂတာ၊ အယံ ဥပစာရသမာဓိ။ ပဌမဿ ဈာနဿ ပရိကမ္မံ ပဌမဿ ဈာနဿ အနန္တရ ပစ္စယေန ပစ္စယောတိအာဒိဝစနတော ပန ယာ ပရိကမ္မာနန္တရာ ဧကဂ္ဂတာ၊ အယံ အပ္ပနာသမာဓီတိ ဧဝံ ဥပစာပ္ပနာ ဝသေန ဒုဝိဓော[၂၈၃]။

သမာဓိသည် ဥပစာရသမာဓိနှင့် အပ္ပနာသမာဓိဟု နှစ်မျိုးရှိ၏။ ယင်းနှစ်မျိုးအနက် အနုဿတိခြောက်ပါးမှ မရဏဿတိ ဥပသမာနုဿတိ၊ အာဟာရေ ပဋိကူလသညာ စတုဓာတုဝဝတ္ထာန်တို့၏အစွမ်းဖြင့် ရအပ်သော စိတ်၏ တည်ကြည်မှု၊ အပ္ပနာသမာဓိ၏ ရှေ့အဖို့၌ရရှိအပ်သော သမာဓိတို့ကို ဥပစာရသမာဓိဟုခေါ်၏။ ပဌမဈာန်၏ ပရိကံသည် ပဌမဈာန်အား အနန္တရသတ္တိဖြင့် ကျေးဇူးပြု၏ဟု ဟောတော်မူသောကြောင့် ပရိကံ၏ အခြားမဲ့၌ဖြစ်သော စိတ်၏တည်မှုကို အပ္ပနာသမာဓိဟုခေါ်၏။ ယင်းသို့ ဥပစာရနှင့် အပ္ပနာဟု သမာဓိနှစ်မျိုးရှိ၏[၂၈၄]။

ယင်းနည်းဖြင့် ယောဂီသည် ဈာန်ကိုရသွားသောအခါ ပဋိဘာဂနိမိတ် (အလားတူသွင်ပြင်)ကို ရပ်စဲခြင်းမရှိဘဲသိနိုင်သည်။ နိမိတ်သည် ၁) ပရိကမ္မနိမိတ် (ရှေးဦးသွင်ပြင်) ၂) ဥဂ္ဂဟနိမိတ် (သင်ယူဆဲသွင်ပြင်) နှင့် ၃) ပဋိဘာဂနိမိတ် (အလားတူသွင်ပြင်) ဟုသုံးမျိုးရှိကြောင်း အဘိဓမ္မတ္ထသင်္ဂဟကျမ်း၌ဖော်ပြသည်။

နိမိတ္တေသု ပန ပရိကမ္မနိမိတ္တံ ဥဂ္ဂဟနိမိတ္တဉ္စ သဗ္ဗတ္ထာပိ ယထာရဟံ ပရိယာယေန လဗ္ဘန္တေဝ။ ပဋိဘာဂနိမိတ္တံ ပန ကသိဏာသုဘကောဋ္ဌာသအာနာပါနေသွေဝ လဗ္ဘတိ။ တတ္ထာပိ ပဋိဘာဂနိမိတ္တမာရဗ္ဘ ဥပစာရသမာဓိ အပ္ပနာသမာဓိ စ ပဝတ္တတိ[၂၈၅]။

နိမိတ်သုံးပါးတွင် ပရိကမ္မနိမိတ်နှင့် ဥဂ္ဂဟနိမိတ်တို့ကို ကမ္မဋ္ဌာန်းအာရုံအားလုံး၌ ထိုက်သည်အားလျော်စွာ ရအပ်သည်သာဖြစ်၏။ ပဋိဘာဂနိမိတ်ကိုမူ ကသိုဏ်း၊ အသုဘ၊ ကောဋ္ဌာသ၊ အာနာပါနတို့၌သာ ရအပ်၏။ ထို (နိမိတ်သုံးမျိုး)၌ ပဋိဘာဂနိမိတ်ကို အာရုံပြု၍ ဥပစာရသမာဓိနှင့် အပ္ပနာသမာဓိတို့ဖြစ်၏။ ကမ္မဋ္ဌာန်းအားထုတ်ခါစပုဂ္ဂိုလ်သည် မြေဝိုင်း (ပထဝီမဏ္ဍလ) နိမိတ်စသည်ကို သိသွားသောအခါ ယင်းနိမိတ်ကို ပရိကမ္မနိမိတ်ဟုခေါ်ပြီး ယင်းကမ္မဋ္ဌာန်းကို ပရိကမ္မဘာဝနာဟုခေါ်၏[၂၈၆]။

ဖားအောက်ဆရာတော်၏အလိုအရ ဈာန်အခိုက်တွင် ယောဂီသည် ရပ်စဲခြင်းမရှိဘဲ ပရိကမ္မနိမိတ်သို့ ရောက်သွားသည်။ 'ယင်းသည် နာရီပေါင်းများစွာကြာသည်ထိ တစ်ညလုံး တစ်နေ့လုံး ဆက်လက်၍တည်ရှိနိုင်သည်'[၂၈၇]။ ယောဂီ၏

[၂၈၂] Di-N-A, Vol. II, 377.
[၂၈၃] Vi-M, Vol. I, 82.
[၂၈၄] Vi-M-TS, 86.
[၂၈၅] Ab, 152. Ac-Ab, 340.
[၂၈၆] Ac-Ab, 340.
[၂၈၇] Pa-Auk Sayadaw. *Mindfulness of Breathing and Four Elements Meditation* (Malayasia: W.A.V. E. Publication, 2002), 13.

စိတ်သည် ပရိကမ္မနိမိတ်၌ စဉ်ဆက်မပြတ်တည်နေသောအခါ တစ်ချိန်တွင် ဈာန်အင်္ဂါငါးပါးကို သိမြင်သွားသည်။ ဈာန်အင်္ဂါ ငါးပါးမှာ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာတို့ဖြစ်သည်။ ဆက်လက်၍အားထုတ်သွားခြင်းဖြင့် နောက်ဆုံးတွင် ယင်း ငါးမျိုးလုံးကို တစ်ပြိုင်နက် သိစွမ်းနိုင်မည်သည်။ ဈာန်တရားအားထုတ်သူသည် အောက်ပါအတိုင်း ဈာန်အင်္ဂါများကို အသေးစိတ် သိစွမ်းသွားလိမ့်မည်ဖြစ်သည် -

၁) ဝိတက် - စိတ်ကို ပဋိဘာဂနိမိတ်သို့ ဆောင်ယူပြီး ယင်း၌ စိတ်ကိုထားသည်
၂) ဝိစာရ - စိတ်ကို ပဋိဘာဂနိမိတ်၌ ထိန်းသိမ်းထားသည်
၃) ပီတိ - ပဋိဘာဂနိမိတ်ကို နှစ်သက်နေသည်
၄) သုခ - ပဋိဘာဂနိမိတ်ကို သိရှိခြင်းဖြင့် နစ်ဝင်နေသည့် သုခဝေဒနာကို ခံစားနေသည်
၅) ဧကဂ္ဂတာ - ပဋိဘာဂနိမိတ်အာရုံတစ်ခု၌ စိတ်တည်ကြည်နေသည်[၂၈၈]

ဈာနကမ္မဋ္ဌာန်း၌ ဈာန်၏အစိတ်အပိုင်းများကို ဈာနင်္ဂဟုခေါ်သည်။ သို့ရာတွင် ယင်းဈာန်၏အစိတ်အပိုင်းများကို တစ်ခုတည်းအနေဖြင့် ယူသောအခါ ဈာန်ဟုခေါ်သည်။ ဈာန်အဆင့် ရှစ်ဆင့်ရှိသည်။ အကယ်၍ ယောဂီသည် ဈာန်တရားကို အားထုတ်ခါစဖြစ်ဘိမူ ကြာမြင့်စွာ ဈာန်ကို ဝင်စားရသော်လည်း ဈာန်၌လိမ္မာကျွမ်းကျင်သည်အထိ ဈာန်အင်္ဂါများကို ပယ်ခွာရန် ကြိုးစားခြင်း၌ အချိန်များစွာ အသုံးမပြုရပေ။ ဝိသုဒ္ဓိမဂ်အလိုအရ ပဌမဈာန်၌ ကျွမ်းကျင်လိမ္မာမှုကို အစပြုလျက် နည်းငါးမျိုးဖြင့် ဈာန်၌ကျွမ်းကျင်သည်။ ဈာန်၌လိုအပ်သော ကျွမ်းကျင်မှု (ဝသီဘော်) ငါးမျိုးရှိသည်။ ယင်းတို့မှာ -

၁) အာဝဇ္ဇနဝသီ (အာရုံစူးစိုက်မှု၌ ကျွမ်းကျင်ခြင်း) - ဈာန်တရားမှထပြီးနောက် ဈာန်အင်္ဂါများကို အလျင်အမြန် သိနိုင်သော စွမ်းရည်
၂) သမာပဇ္ဇနဝသီ (ဝင်စားမှု၌ ကျွမ်းကျင်ခြင်း) - ဈာန်ဝင်စားလိုသောအခါ ဝင်စားနိုင်သော စွမ်းရည်
၃) အဓိဋ္ဌာနဝသီ (ဆုံးဖြတ်ခြင်း၌ ကျွမ်းကျင်ခြင်း) - ဈာန်သမာပတ်၌ မိမိဝင်စားလိုသည့်အချိန်ထိ နေထိုင်နိုင်သော စွမ်းရည်
၄) ဝုဋ္ဌာနဝသီ (ဈာန်မှထခြင်း၌ ကျွမ်းကျင်ခြင်း) - အဓိဋ္ဌာန်ထားသည့်အချိန် သို့မဟုတ် ထလိုသည့်အချိန်၌ ဈာန်မှ ထနိုင်သော စွမ်းရည်နှင့်
၅) ပစ္စဝေက္ခဏာဝသီ (ဆင်ခြင်မှု၌ ကျွမ်းကျင်ခြင်း) - ဈာန်တရားကို ထပ်မံဝင်စားရန် ဈာန်အင်္ဂါများကို အလျင်အမြန်သိနိုင်သော စွမ်းရည်တို့ဖြစ်သည်[၂၈၉]။

အင်္ဂုတ္တရနိကာယ်၊ ပဗ္ဗတေယျဂါဝီသုတ်၌ ဗုဒ္ဓရှင်တော်မြတ်က ပဌမဈာန်၌ လိမ္မာကျွမ်းကျင်မှုမရှိဘဲ ဒုတိယဈာန်ကို ဝင်စားရန် ကြိုးစားမူ ပဌမဈာန်ကိုလည်းမရ ဒုတိယဈာန်ကိုလည်း မပိုင်ကြောင်း ရှင်းပြတော်မူသည်။ အကျိုးဆက်ကား ဈာန်နှစ်မျိုးလုံးကို ဆုံးရှုံးမည်ဖြစ်သည်။ သို့ဖြစ်၍ ယောဂီပုဂ္ဂိုလ်သည် အထက်ဈာန်များကို မဝင်စားမီ ဖော်ပြပါ ဝသီဘော်ငါးမျိုးကို ပိုင်ဆိုင်ရမည်ဖြစ်သည်။ ယောဂီသည် ထွက်လေဝင်လေကို သတိဖြင့်ရှုမှတ်မှုမှတစ်ဆင့် စတုတ္ထဈာန်ကို ရရှိပြီးသောအခါ ဝသီဘော်ငါးမျိုးလုံးကို ပွားများပြီးဖြစ်သည်။ ယင်းဈာနကမ္မဋ္ဌာန်းအဆင့်တွင် ယောဂီပုဂ္ဂိုလ်၏ သမာဓိသည် မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို ရရှိရေးအတွက် ဝိပဿနာကမ္မဋ္ဌာန်းဆီသို့ ကူးပြောင်းနိုင်လောက်အောင် နက်ရှိုင်းတည်ငြိမ်သွားပြီဖြစ်သည်။ မဂ်ဉာဏ် ဖိုလ်ဉာဏ်အဆင့်တွင် ယောဂီပုဂ္ဂိုလ်သည် နိဗ္ဗာန်၏ငြိမ်းချမ်းမြင့်မြတ်မှုကို သိနိုင်သည်[၂၉၀]။ သို့ရာတွင် ယောဂီပုဂ္ဂိုလ်သည် ထိုအဆင့်၌ ဝိပဿနာကမ္မဋ္ဌာန်းကို အားမထုတ်လိုခဲ့သော် ရူပဈာန် အရူပဈာန်ဟူသော အထက်ဈာန်များကို ပွားများရန် သမထကမ္မဋ္ဌာန်းကို ဆက်လက်၍အားထုတ်နိုင်သည်။

**ဝိပဿနာကမ္မဋ္ဌာန်းဖြင့် ဉာဏ်အမြင်ကိုရှိခြင်း**

အထက်တွင် ဖော်ပြပြီးသည့်အတိုင်း ယာနိကဟုလည်းခေါ်သည့် အခြေခံကမ္မဋ္ဌာန်းထိုင်နည်း နှစ်မျိုးရှိသည်။ ယင်းတို့မှာ သမထယာနိက (သမထကို ယာဉ်အနေဖြင့်ယူသူ)နှင့် ဝိပဿနာယာနိက (ဝိပဿနာကို ယာဉ်အနေဖြင့်ယူသူ) တို့ဖြစ်သည်။ သမထဈာန်အဆင့်ကိုမရဘဲ ဝိပဿနာသက်သက်ကို အားထုတ်သူများအား သုက္ခဝိပဿနာယာနိက သို့မဟုတ် သုဒ္ဓဝိပဿနာယာနိက(ဝိပဿနာကမ္မဋ္ဌာန်းသက်သက်ကို အားထုတ်သူ)ဟု ခေါ်သည်[၂၉၁]။ သမထယာနိကနည်းကို သင်

[၂၈၈] Ibid, 13.
[၂၈၉] Vi-M, 149-150.
[၂၉၀] Ab-B-T, 664.
[၂၉၁] BD, 204-205.

ကြားသူများသည် ၎င်းတို့၏သင်ကြားချက်များကို အောက်ပါအဋ္ဌကထာဖော်ပြချက်ကို အခြေခံကြသည်။ ယင်းဖော်ပြချက်မှာ ဖော်ပြပါအတိုင်းဖြစ်သည် -

> တာနိ ဝါ ပန ဈာနာနိ သမာပဇ္ဇိတွာ ဝုဋ္ဌာယ ဈာနသမ္ပယုတ္တံ စိတ္တံ ခယတော ဝယတော သမ္မဇာနတော ဝိပဿ-
> နာက္ခဏေ လက္ခဏပဋိဝေဓေန ဥပ္ပဇ္ဇတိ ခဏိကစိတ္တေကဂ္ဂတာ[၂၉၂]။
> အစဉ်အတိုင်း ယင်းဈာန်များကို ဝင်စားပြီးနောက် ယင်းဈာန်တို့မှထလျက် ဈာန်နှင့်ယှဉ်သောစိတ်အား ဖြစ်ခြင်း ပျက်ခြင်းကို ဝိပဿနာပညာဖြင့်သိ၏။ ယင်းနောက် ဝိပဿနာရှုမှတ်ခိုက်တွင် အခိုက်အတံ့ဖြစ်သော စိတ်၏တည်ကြည်မှုသည် (အနိစ္စ ဒုက္ခ အနတ္တ)ဟူသော လက္ခဏာရေးသုံးပါးကို ထိုးထွင်း၍သိမြင်မှု ဖြစ်ပေါ်လာ၏[၂၉၃]။

သို့ရာတွင် သုက္ခဝိပဿကယာနိကနည်းကို သင်ကြားလိုသူများသည် ၎င်းတို့၏သင်ကြားမှုကို ဋီကာညွှန်ကြားချက်ကို အခြေခံကြသည်။ ယင်းညွှန်ကြားချက်မှာ အောက်ပါအတိုင်းဖြစ်သည် -

> **ခဏိကစိတ္တေကဂ္ဂတာ**တိ ခဏမတ္တဋ္ဌိတိကော သမာဓိ။ သောပိ ဟိ အာရမ္မဏေ နိရန္တရံ ဧကာကာရေန ပဝတ္တ-
> မာနော ပဋိပက္ခေန အနဘိဘူတော အပ္ပိတော ဝိယ စိတ္တံ နိစ္စလံ ဌပေတိ[၂၉၄]။
> ခဏိကသမာဓိဟူသည် ခဏတိုင်းခဏတိုင်း ကမ္မဋ္ဌာန်းအာရုံ၌ တည်နေသော သမာဓိတည်း။ ယင်းသမာဓိသည် ကမ္မဋ္ဌာန်းအာရုံ၌ ခဏတိုင်းမပြတ်မလပ် တစ်ခုတည်းသော အခြင်းအရာဖြင့်ဖြစ်လျက် (ကာမစ္ဆန္ဒ ဗျာပါဒစသော) နီဝရတရားတို့၏ လွှမ်းမိုးခြင်းမခံရဘဲ တုပ်ဖွဲ့ထားသကဲ့သို့ စိတ်ကို မတုန်မလှုပ် တည်နေစေ၏[၂၉၅]။

ဝိပဿနာကမ္မဋ္ဌာန်းအားထုတ်ခြင်းဖြင့် မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို သိမြင်သည်။ ထေရဝါဒဗုဒ္ဓဝါဒ၌ ဝိပဿနာကမ္မဋ္ဌာန်းဖြင့် မဂ်ဉာဏ်ဖိုလ် ဉာဏ်ထူးကို ပြည့်စုံစွာရရှိပြီးသူ အမျိုးသားအမျိုးသမီးကို အရိယာပုဂ္ဂိုလ်ဟုဆိုသည်။ မျက်မှောက်ခေတ်မြန်မာနိုင်ငံမှ ဗုဒ္ဓဝါဒီတို့သည် သမထဈာန်ကို မပွားများဘဲ များသောအားဖြင့် ဝိပဿနာကို အားထုတ်ကြသည်။ သို့ရာတွင် အချို့ယောဂီများမှာ ဝိပဿနာသို့မကူးပြောင်းမီ ဈာန်ကိုပွားများခြင်းဖြင့် ၎င်းတို့၏ အားထုတ်မှုကို စတင်ကြသည်။

မြန်မာကမ္မဋ္ဌာန်းဆရာအများစုသည် ခဏိကသမာဓိအား ရှုမှတ်စဉ်ခဏတိုင်း၌ စိတ်၏အနှောင့်အယှက်များကို ဖယ်ရှားပြီး နီဝရဏတရားဟုခေါ်သော တားဆီးပိတ်ပင်တတ်သည့် တရားများကို ခွာထုတ်ခြင်းကိစ္စရှိကြောင်း ဖော်ပြကြသည်။ နီဝရဏတရားတို့ကို စိတ်ထဲမှခဏအားဖြင့် ဖယ်ရှားနိုင်သော ယင်းစိတ်၏အခြေအနေမျိုးသည် ဝိပဿနာဉာဏ်နှင့် မဂ်ဉာဏ် ဖိုလ်ဉာဏ်တို့ကိုလည်း ရရှိစေနိုင်သည်။ သို့တစေ မြန်မာနိုင်ငံမှ ထင်ရှားကျော်ကြားသည့် ဖားအောက်ဆရာတော်ကမူ ၎င်း၏သင်ကြားချက်များကို ဈာနကမ္မဋ္ဌာန်းပွားများမှုဖြင့် စတင်မှုကို ပိုနှစ်သက်သည်။

ယင်းဖော်ပြချက်၌ သမာဓိ၏ကိစ္စသည် စိတ်ကိုစင်ကြယ်စေရန် စိတ်ထဲမှ နီဝရဏတရားတို့ကို လျှော့ပစ်ခြင်းဖြစ်သည်။ နီဝရဏတရားများ၌ ယောဂီ၏စိတ်ကို နောက်ကျုစေပြီး အသိဉာဏ်ကို ကန်းစေသော တရားငါးမျိုးပါဝင်သည်။ ယင်းနီဝရဏတရားငါးမျိုးမှာ ၁) ကာမစ္ဆန္ဒနီဝရဏ(ကာမဂုဏ်အလိုဆန္ဒ) ၂) ဗျာပါဒနီဝရဏ (ဒေါသ) ၃) ထိနမိဒ္ဓနီဝရဏ (ထုံထိုင်း ငိုက်မျဉ်းခြင်း) ၄) ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏ (စိတ်ပျံ့လွင့်ခြင်းနှင့် နောင်တပူပန်ဖြစ်ခြင်း) ၅) ဝိစိကိစ္ဆာနီဝရဏ(မဆုံးဖြတ်နိုင်ခြင်း)တို့ဖြစ်သည်[၂၉၆]။ သမထ (ဈာန)ကမ္မဋ္ဌာန်းကျင့်ကြံသူများက နီဝရဏတရားများထင်ရှားရှိနေမှု ယောဂီသည် ဥပစာရသမာဓိနှင့် အပ္ပနာသမာဓိအဆင့်သို့ မရောက်နိုင်ဟု ဆိုသည်။ ဝိပဿနာကမ္မဋ္ဌာန်းကျင့်ကြံသူများက နီဝရဏတရားများ ထင်ရှားရှိနေမှု ယောဂီသည် အမှန်တရားများကို ရှင်းလင်းစွာမသိမြင်နိုင်ဟု ဆိုသည်။ ယင်းအမှန်တရားများ၌ အနိစ္စ(အမြဲမရှိခြင်း) ဒုက္ခ(ဆင်းရဲခြင်း) နှင့် အနတ္တ (ရုပ်အစု နာမ်အစုတရားများ၏ ငါ သူတစ်ပါး မဟုတ်ခြင်း)ဟူသော လက္ခဏာရေးသုံးပါးနှင့် ဆက်နွယ်နေသည့် ရုပ်နာမ်တရားများပါဝင်သည်[၂၉၇]။

---

[၂၉၂] Vi-M, Vol. I, 281.
[၂၉၃] Vi-M-Tran, 282.
[၂၉၄] Vi-M-T, 342.
[၂၉၅] အင်္ဂလိပ်ဘာသာပြန်မှာ ကျမ်းပြုပုဂ္ဂိုလ်၏ လက်ရာဖြစ်သည်။
[၂၉၆] Di-N Vol. I, 67-68.
[၂၉၇] BD, 230.

ဗုဒ္ဓဝါဒကျင့်စဉ်၌ ဝိပဿနာကမ္မဋ္ဌာန်းသည် သတိပဋ္ဌာန်လေးပါးနှင့်လည်း ဆက်နွယ်သည်။ သတိပဋ္ဌာန်ကမ္မဋ္ဌာန်းကို လေ့ကျင့်အားထုတ်သူအား ဝိပဿနာကမ္မဋ္ဌာန်းအားထုတ်သူဟုလည်း ဆိုရသည်[၂၉၈]။ သတိပဋ္ဌာန်ကမ္မဋ္ဌာန်းပွားများအားထုတ်သူသည် အကျိုးခုနစ်ပါးကို ရရှိသည်။ ယင်းတို့မှာ ၁) သတ္တဝါတို့၏ စင်ကြယ်ခြင်း (သတ္တာနံ ဝိသုဒ္ဓိယာ) ၂) နှင့် ၃) သောကနှင့် ပရိဒေဝတို့ကို ကျော်လွှားရန် (သောကပရိဒေဝါနံ သမတိက္ကမာယ) ၄) နှင့် ၅) ကိုယ်ဆင်းရဲခြင်းနှင့် စိတ်ဆင်းရဲခြင်းတို့ကို ပယ်ဖျောက်ရန် (ဒုက္ခဒေါမနဿာနံ အတ္တင်္ဂမာယ) ၆) လမ်းစဉ်မှန်ကို ရရှိရန် (ဉာယဿ အဓိဂမာယ) ၇) နိဗ္ဗာန်ကို ထိုးထွင်းသိမြင်ရန် (နိဗ္ဗာနဿ သစ္ဆိကိရိယာယ) တို့ဖြစ်သည်။ သောကပရိဒေဝတို့ကို ပယ်ရှားရန်နှင့် ကိုယ်ဆင်းရဲခြင်း စိတ်ဆင်းရဲခြင်းတို့ကို ပယ်ရှားရန်တို့မှာ မည်မျှနှစ်သက်ဖွယ်ကောင်းမည်ဟူသည်ကို ဆင်ခြင်ကြည့်သောအခါ ဖော်ပြပါအကျိုးတရားများသည် လွတ်မြောက်မှုနိဗ္ဗာန်ကို ရှာဖွေကြသူယောဂီသူတော်တို့အား အလွန်ပင် အားတက်စေသည်။ မဟာသတိပဋ္ဌာနသုတ်၌ ဗုဒ္ဓရှင်တော်မြတ်က အောက်ပါအတိုင်း ဟောကြားတော်မူသည် -

ဧကာယနော အယံ ဘိက္ခဝေ မဂ္ဂေါ သတ္တာနံ ဝိသုဒ္ဓိယာ သောကပရိဒေဝါနံ သမတိက္ကမာယ ဒုက္ခဒေါမနဿာနံ အတ္တင်္ဂမာယ ဉာယဿအဓိဂမာယ နိဗ္ဗာနဿ သစ္ဆိကိရိယာယ ယဒိဒံ စတ္တာရော သတိပဋ္ဌာနာ[၂၉၉]။
ရဟန်းတို့၊ ဤလမ်းသည် သတ္တဝါတို့စင်ကြယ်ရန် စိုးရိမ်ပူပန်ခြင်း ငိုကြွေးခြင်းတို့ကို လွန်မြောက်ရန် ကိုယ်ဆင်းရဲစိတ်ဆင်းရဲတို့ချုပ်ငြိမ်းရန် အရိယမဂ်ကိုရရှိရန် နိဗ္ဗာန်ကို မျက်မှောက်ပြုရန် တစ်ကြောင်းတည်းသော လမ်းဖြစ်၏။ ယင်းသည့်လမ်းကား ဤသတိပဋ္ဌာန်လေးပါးတို့ပင်တည်း[၃၀၀]။

ဗုဒ္ဓဝါဒစာပေတို့၌ ဝိပဿနာပညာဟူသောစကားလုံးသည် ကမ္မဋ္ဌာန်းလေ့ကျင့်အားထုတ်မှုနှင့်ပတ်သ်၍ မကြခဏ တွေ့ရသည်။ သို့ဖြစ်၍ ဝိပဿနာပညာဟူသည် အဘယ်နည်းဟု မေးနိုင်ရာသည်။ ဝိပဿနာပညာဟူသည် အလိုအလျောက်ဖြစ်ပေါ်လာသောအသိ သို့မဟုတ် အနိစ္စ ဒုက္ခ အနတ္တအမှန်တရားကို နားလည်စွမ်းရှိသော အတွေ့အကြုံဖြစ်သည်။ ဗုဒ္ဓဝါဒရှုထောင့်အရသော် ဝိပဿနာပညာသည် ကြံစည်တွေးတော လေ့လာဆည်းပူး၍ နားလည်ရုံမျှဖြင့် ရရှိသည့်အရာမဟုတ်၊ ယောဂီပုဂ္ဂိုလ်၏ ရုပ်နာမ်ဖြစ်စဉ်ကို ရှုမှတ်စောင့်ကြည့်မှုနှင့် တိုက်ရိုက်ပတ်သက်သော နားလည်မှုတစ်မျိုးဖြစ်သည်။ ဝိပဿနာပညာဖြင့် ရုပ်နာမ်ဖြစ်စဉ်ကို ရှေးဦးစွာစောင့်ကြည့်ခြင်းသည် ယောဂီပုဂ္ဂိုလ်အား နိဗ္ဗာန်သို့ ရောက်စေနိုင်သည်[၃၀၁]။ ဖော်ပြပါအဆိုပြုဖော်ပြချက်၌ ဗုဒ္ဓဝါဒီတို့သည် နိဗ္ဗာန်ကိုသိရှိမှုသည် ကမ္မဋ္ဌာန်းရှုမှတ်မှု၌ပါဝင်သဖြင့် စာပေသိအရတွေးကြံရုံဖြင့် နိဗ္ဗာန်၏သဘာဝကို နားလည်ရန် မဖြစ်နိုင်ဟူသောအချက်ကို ထောက်ပြကြသည်။ နိဗ္ဗာန်ကို သဘောပေါက်ခြင်းဟူသည် မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ထိုးထွင်း၍သိခြင်းကို ရည်ညွှန်းသည်။ ယင်းဖြစ်စဉ်သည် ဗောဓိဉာဏ်ကို ရရှိမှုတွင်ရှိသော လောကုတ္တရာပညာဖြင့် ပြီးမြောက်နိုင်သည်။ နိဗ္ဗာန်ကိုသိရှိမှုသည် ရှာဖွေတွေ့ရှိခြင်းကိစ္စရှိသည်။ နိဗ္ဗာန်၏အနှစ်သာရအစစ်အမှန်သည် သန္တိသုခကိုရရှိမှုဖြင့် ပေါ်လာသည်။ ထိုအချိန်၌ ယောဂီသည် ရုပ်နာမ်ဖြစ်စဉ်အားလုံး လုံးဝပြတ်စဲမှုကို သိမြင်ပြီး သန္တိသုခဖြစ်တည်လာသည်ကို သိရှိသည်။

ကမ္မဋ္ဌာန်းရှုမှတ်ပွားများခြင်းမရှိသူများအဖို့ နိဗ္ဗာန်၏သဘာဝအမှန်ကို နားလည်ရန် မဖြစ်နိုင်ချေ။ သီအိုရီရှုထောင့်ကို အခြေခံလျက် နိဗ္ဗာန်ဟူသော ဝေါဟာရသည် အမှန်ပင် မှုန်ဝါးဝါးဖြစ်ပြီး နားလည်ရန်ခက်ခဲကြောင်း ငြင်းဆိုကြသည်။ သို့ဖြစ်၍ ရောဘတ် အယ်လ် ဆလာတာ (Robert L. Slater) ကဲ့သို့သော ကမ္မဋ္ဌာန်းမထိုင်သူအချို့က နိဗ္ဗာန်ကို ခြားနားစွာ အဓိပ္ပာယ်ကောက်ယူကြသည် - ‘နိဗ္ဗာန်ဟူသော ဝေါဟာရကို ယုံကြည်မှုဘာသာစကားက ပိုင်ဆိုင်၏။ အသုံးပြုသည့်ဖြစ်နိုင်ခြေမဲ့ဝေါဟာရများမှာ ပိုမိုအထင်အရှားဖြစ်ဖွယ်ရှိသော ဆက်နွယ်ဝေါဟာရခွဲခြမ်းစိတ်ဖြာမှု သွင်ပြင်အဖြစ် ယင်းယုံကြည်မှု ဟုတ်မှန်ကြောင်းဆိုခြင်းတစ်ရပ်မျှသာဖြစ်သည်[၃၀၂]။ သို့ရာတွင် ဗုဒ္ဓရှင်တော်မြတ်က အသိဉာဏ်ဖြင့် ကြံစည်တွေးတောခြင်းမျှဖြင့် နိဗ္ဗာန်၏အနှစ်သာရကို နားလည်ရန်မဖြစ်နိုင်ကြောင်း ကြိမ်ဖန်များစွာဟောကြားခဲ့သည်။ နိဗ္ဗာန်အား အရဟတ္တမဂ်ဉာဏ် ဖိုလ်ဉာဏ်ကိုရမှသာ သိမြင်နားလည်နိုင်သည်။

ဗုဒ္ဓဝါဒသည် လက်တွေ့ရောစာတွေ့ပါ ယင်း၏ စနစ်တကျချဉ်းကပ်မှုကို ဖော်ပြသည်။ အောက်ပါအဆင့်မှာ ဝိပဿနာပညာအတွက် ရှေးဦးအဆင့်ဖြစ်သည်။ အကယ်၍ တစ်စုံတစ်ယောက်သည် ဤဘဝတွင် ဝိပဿနာပညာကို

---

[၂၉၈] Di-N-A Vol II, 348-349.
[၂၉၉] Di-N- Vol II, 231.
[၃၀၀] Di-N-NT, 335.
[၃၀၁] BD, 230-231.
[၃၀၂] Pa-Ni, 82.

အမှန်တကယ်တိုးတက်လိုလျှင် ကမ္မဋ္ဌာန်းလေ့ကျင့်အားထုတ်စဉ်အတွင် လောကီအကြံအစည် အပြုအမူများကို စွန့်လွှတ်ရမည်ဖြစ်သည်။ ယင်းလေ့ကျင့်မှုသည် ကိုယ်ကျင့်သီလစင်ကြယ်မှု (သီလဝိသုဒ္ဓိ) အတွက်ဖြစ်သဖြင့် ရှေးဦးစွာ ငါးပါးသီလ[၂၀၃] ကိုဖြစ်စေ သို့မဟုတ် ရှစ်ပါးသီလကိုဖြစ်စေ စောင့်ထိန်းရန်လိုသည်[၂၀၄]။ နောက်ထပ်အပို စည်းမျဉ်းများမှာ ယောဂီတစ်ယောက်သည် ကမ္မဋ္ဌာန်းလေ့ကျင့်အားထုတ်နေစဉ်အတွင်း အခြားယောဂီများနှင့် အလည်လာသူများအား စကားမပြောရချေ။ ယင်းသို့သော ဗုဒ္ဓဝါဒီတို့၏ အပြုအမူကို 'မြင့်မြတ်သော နှုတ်ဆိတ်မှု (တုဏှိဘာဝ)ဟုခေါ်သည်။ ဗုဒ္ဓဝါဒီများအဖို့ အခြားသော ပဏာမအပြုအမူများ ရှိကြသေးသည်။ ယင်းတို့မှာ ကမ္မဋ္ဌာန်းလေ့ကျင့်မှုမတိုင်မီတွင် အကယ်၍ အရိယာပုဂ္ဂိုလ်များနှင့် ဆရာအရှင်များအား ပြစ်မှားခဲ့သော် ခွင့်လွှတ်ရန်တောင်းပန်မှုမျိုး ဖြစ်သည်။ ထို့ပြင် စတုရာရက္ခာဘာဝနာ (စိတ်ပိုင်းတိုးတက်ရေး အကာအကွယ်လေးမျိုး) ကိုလည်း ပွားများရသည်။ ယင်းတို့မှာ ၁) ဗုဒ္ဓရှင်တော်မြတ်၏ ဂုဏ်တော်များကို အောက်မေ့ခြင်း (ဗုဒ္ဓါနုဿတိဘာဝနာ) ၂) မေတ္တာပွားများခြင်း (မေတ္တာဘာဝနာ) ၃) အသုဘကမ္မဋ္ဌာန်းပွားများခြင်း (အသုဘဘာဝနာ) နှင့် ၄) သေခြင်းတရားကို ဆင်ခြင်ခြင်း (မရဏဿတိ)တို့ဖြစ်သည်[၂၀၅]။

မဟာစည်ဆရာတော်၏အလိုအရ ဝိပဿနာကမ္မဋ္ဌာန်းကို သင့်တင့်လျောက်ပတ်သောနည်းဖြင့် စတင်အားထုတ်ရန်သင့်သောင့်သက်သာရှိသော ဣရိယာပုထ်ဖြင့် ထိုင်ကမ္မဋ္ဌာန်းကို စတင်သင့်သည်။ ယောဂီသည် လောကီရေးရာ အတွေးအကြံအားလုံးကို စွန့်လွှတ်ပြီး ပစ္စုပ္ပန်မျက်မှောက်အခိုက်အတံ့၌နေလျက် ဝမ်းဗိုက်၏လှုပ်ရှားမှု ဖောင်းခြင်းပိန်ခြင်း သို့မဟုတ် ထွက်လေဝင်လေ (အာနာပါန) စသောကမ္မဋ္ဌာန်အာရုံ၌ စိတ်ကို တည်အောင်ကြိုးစားရသည်။ နေ့ရက်အတန်ကြာပြီးနောက် သတိဖြင့်ရှုမှတ်မှုမှတစ်ဆင့် ဝမ်းဗိုက်၏ ဖောင်းခြင်းပိန်ခြင်းကို ထင်ရှားစွာ သိမြင်လာလိမ့်မည်ဖြစ်သည်။ ဝမ်းဗိုက်၏လှုပ်ရှားမှုတိုင်းကို စိတ်ဖြင့်သိမှတ်နေခြင်းသည် နာမ်ရုပ်တို့၏ဖြစ်စဉ် ဆိုလိုသည်မှာ အားထုတ်စဉ်အတွင်း ယောဂီ၏စိတ်စွမ်းရည် မြင့်မားရေးအတွက် ကမ္မဋ္ဌာန်းအာရုံကို ကိုယ်စိတ်တို့ဖြင့်ခံစားသိရှိမှုကို နားလည်စေသည်။ ဝိပဿနာကမ္မဋ္ဌာန်းကို ပြီးပြည့်စုံစွာ အားထုတ်ပြီးသောအခါ ယောဂီသည် ပသာဒရုပ်ခြောက်ပါး၌ ရုပ်နာမ်တို့ စဉ်ဆက်မပြတ်ဖြစ်ပေါ်လာမှုကို သိစွမ်းနိုင်သည်။ သတိပဋ္ဌာန်ကမ္မဋ္ဌာန်းရှုမှတ်မှု တိုးတက်လာသောအခါ နာမ်ရုပ်တို့၏သဘာဝမှန်၊ သုခနှင့် ဒုက္ခဝေဒနာ၊ လောဘ ဒေါသ မောဟအပါအဝင် ကုသိုလ်အကုသိုလ်စေသိက်များကို ခွဲခြားသိမြင်သည်။ ယင်းသို့ဖြင့် ယောဂီသည် လူသားတို့၏ မကောင်းမှုအလုံးစုံနှင့် ဒုက္ခ၏ရင်းမြစ်ဖြစ်သော အလိုရမ္မက်၊ ဒေါသ၊ မသိမိုက်မဲခြင်းမှ စိတ်ကို လွတ်မြောက်စေရန်ဟူသော ဝိပဿနာကမ္မဋ္ဌာန်းအားထုတ်မှု၏ ရည်ရွယ်ချက်ကို သဘောပေါက်မည်ဖြစ်သည်[၂၀၆]။

ဖော်ပြပြီးသည့်အတိုင်း ယောဂီသည် လေ့ကျင့်အားထုတ်မှု အစိတ်အပိုင်းတိုင်း၌ သမာဓိသုံးမျိုးကို အသုံးပြုသည်။ ဥပမာအားဖြင့် ၁) ဥပစာရသမာဓိ (အနီးအနား၌ဖြစ်သော သမာဓိ)သည် သမထကမ္မဋ္ဌာန်းအတွင်းဖြစ်ပြီး ဈာန်စိတ်မဖြစ်မီ ပေါ်လာသော သမာဓိတစ်မျိုးဖြစ်သည်။ သို့ရာတွင် ၂) အပ္ပနာသမာဓိ (နစ်မြုပ်သမာဓိ သို့မဟုတ် ပြည့်စုံသောသမာဓိ) သည် ဈာန်ဝင်စားခိုက်တွင် တည်ရှိသော သမာဓိတစ်မျိုးဖြစ်သည်။ ဝိပဿနာကမ္မဋ္ဌာန်းအားထုတ်သူများသည် အဓိကအားဖြင့် ခဏိကသမာဓိ (အခိုက်အတံ့သမာဓိ)ကို ဝိပဿနာအတွက် အသုံးပြုကြသည်။ ခဏိကသမာဓိနည်းသည် လောဘ ဒေါသာ မောဟတို့ကို ခဏတိုင်း ကျော်လွှားခြင်းဖြင့် စိတ်စင်ကြယ်မှုသို့သွားသည့် ခြေတစ်လှမ်းယူခြင်းဖြစ်သည်။ ယင်းသို့သော ကမ္မဋ္ဌာန်းနည်းကို နိဗ္ဗာန်ကိုထိုးထွင်းသိမြင်မှုကို ရရှိရန်အသုံးပြုသည်[၂၀၇]။

ဝိပဿနာကမ္မဋ္ဌာန်းအားထုတ်မှု၌ ဝိပဿနာပညာတိုးတက်မှုနှင့်ပတ်သက်၍ ဗုဒ္ဓဝါဒဆိုင်ရာအဖွင့်ကျမ်းများ၌ ဖော်ပြသော ကွဲပြားခြားနားသည့် ယူဆချက်အချို့ရှိသည်။ ဝိသုဒ္ဓိမဂ်ကျမ်း၌ အဋ္ဌကထာဆရာများက ဝိပဿနာပညာတိုးတက်မှုကို နာမရူပပရိစ္ဆေဒဉာဏ် (ရုပ်နာမ်ကို ခွဲခြားသိသည့်ဉာဏ်)၊ ပစ္စယပရိဂ္ဂဟဉာဏ် (အကြောင်းအကျိုးကိုသိသောဉာဏ်)နှင့် သမ္မသနဉာဏ် (ဆင်ခြင်သုံးသပ်သည့်ဉာဏ်)စသည်ဖြင့် စတင်ကြောင်းဖော်ပြပြီး အဘိဓမ္မတ္ထသင်္ဂဟကျမ်း၌မူ အဋ္ဌကထာဆရာက သမ္မသနဉာဏ်ဖြင့် စတင်ကြောင်း ပြဆိုသည်[၂၀၈]။

---

[၂၀၃] ဗုဒ္ဓဝါဒီသူတော်စင်တို့ စောင့်ထိန်းသည့် ငါးပါးသီလမှာ ၁) သူ့အသက် မသတ်ခြင်း ၂) မခိုးခြင်း ၃) သူ့အိမ်ရာမပြစ်မှားခြင်း ၄) မလိမ်ညာခြင်း ၅) အရက်သေစာမူးယစ်ဆေးဝါး မသုံးစွဲခြင်းတို့ဖြစ်သည်။ Mahasi Sayadaw, *The Prpgress of Insight*. 34.

[၂၀၄] ဥပုသ်သီလဟုလည်းခေါ်သည့် ရှစ်ပါးသီလမှာ ၁) သူ့အသက် မသတ်ခြင်း ၂) မခိုးခြင်း ၃) မေထုန်မှရှောင်ကြဉ်ခြင်း ၄) မလိမ်ညာခြင်း ၅) အရက်သေစာမူးယစ်ဆေးဝါးမသုံးစွဲခြင်း ၆) နေလွဲညစာမစားခြင်း ၇က) ကခြင်း သီဆိုခြင်း ဂီတနှင့် ပြပွဲများ မကြည့်ရှုခြင်း ၇ခ) အမွှေးနံ့သာ အဆင်တန်ဆာများမသုံးခြင်း ၈) ဇိမ်ခံအိပ်ရာနေရာ မသုံးခြင်းတို့ဖြစ်သည်။ ဖော်ပြပါရှစ်ပါးသီလကို ဗုဒ္ဓဝါဒီသူတော်စင်တို့ လပြည့်နေ့များနှင့် အခြားနေ့ရက်ကြီးများ၌ စောင့်သုံးကြသည်။ Ibid, 34.

[၂၀၅] Mahasi Sayadaw, *Practical Insight Meditation: Basic and Progressive Stages* (Kandy, Sri LankaaL Buddhist Publication Society: 1991), 6-7.

[၂၀၆] U Pandita Sayadaw, *On the Path to Fredom* (Kuala Lumpur, Malaysia: Buddhist Wisdom Center, 1995), 152.

[၂၀၇] Ibid, 152.

[၂၀၈] Ab-S, 157.

မဟာစည်ဆရာတော်အလိုအရ ဤဘဝ၌ နိဗ္ဗာန်ကိုမျက်မှောက်ပြုလိုသူသည် မိမိ၏ကျင့်ကြံအားထုတ်မှုကို ဓမ္မစက္ကပ္ပဝတ္တနသုတ်၊ မဟာသတိပဋ္ဌာနသုတ်နှင့် အခြားသုတ္တန်အချို့၌ ဗုဒ္ဓရှင်တော်မြတ် ဟောကြားတော်မူသော မဂ္ဂင်ရှစ်ပါးကို အခြေခံသင့်သည်။ ယင်းကျင့်စဉ်၌ ပါဝင်သည့် တရားရှစ်ပါးမှာ ၁) မှန်သော အမြင် ၂) မှန်သော အကြံ ၃) မှန်သော စကား ၄) မှန်သော အလုပ် ၅) မှန်သော သက်မွေးဝမ်းကျောင်း ၆) မှန်သော လုံ့လအားထုတ်မှု ၇) မှန်သော သတိ နှင့် ၈) မှန်သော သမာဓိတို့ဖြစ်သည်။ ယင်းရှစ်မျိုးသည် ဒုက္ခငြိမ်းချုပ်ခြင်း နိဗ္ဗာန်ကို နားလည်ခြင်းသို့ ရောက်ရှိစေသော လမ်းစဉ်ဖြစ်သည်။

ဝိသုဒ္ဓိမဂ်ကျမ်း၌ ဝိပဿနာဉာဏ်တိုးတက်ပုံအစဉ်ကို ဖော်ပြထားသည်။ ယင်းဖြစ်စဉ်မှာ ဤသို့ဖြစ်သည် - ၁) နာမရူပပရိစ္ဆေဒဉာဏ (ရုပ်နာမ်ကို ခွဲခြားသိသည့်ဉာဏ်) ၂) ပစ္စယပရိဂ္ဂဟဉာဏ (အကြောင်းအကျိုးကို သိသောဉာဏ်) ၃) သမ္မသနဉာဏ (ဆင်ခြင်သုံးသပ်သည့်ဉာဏ်) ၄) ဥဒယဗ္ဗယဉာဏ (သင်္ခါရတရားတို့၏ ဖြစ်ပျက်ကိုသိသောဉာဏ်) ၅) ဘင်္ဂဉာဏ (သင်္ခါရတရားတို့၏ ပျက်ခြင်းကိုသိသောဉာဏ်) ၆) ဘယဉာဏ (သင်္ခါရတရားတို့ကို ကြောက်ဖွယ်အဖြစ်သိသောဉာဏ်) ၇) အာဒီနဝဉာဏ (ကြောက်ဖွယ်တရားကို အန္တရာယ်အဖြစ်သိသောဉာဏ်) ၈) နိဗ္ဗိန္ဒာဉာဏ (သင်္ခါရတရားတို့ကို ငြီးငွေ့သောဉာဏ်) ၉) မုဉ္စိတုကမျတာဉာဏ (လွတ်မြောက်မှုကို လိုလားသည့်ဉာဏ်) ၁၀) ပဋိသင်္ခါဉာဏ (ပွားများအားထုတ်မှုကို ဆင်ခြင်သည့်ဉာဏ်) ၁၁) သင်္ခါရုပေက္ခာဉာဏ (သင်္ခါတရားတို့ကို ဥပေက္ခာအဖြစ်ရှုသည့်ဉာဏ်) ၁၂) အနုလောမဉာဏ (လိုက်လျောညီထွေအဖြစ်ရှုသည့်ဉာဏ်) ၁၃) ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ (ထမြောက်ခြင်းသို့ သွားသောဉာဏ်) ၁၄) ဂေါတြဘူဉာဏ (ရင့်ကျက်သည့်ဉာဏ်) ၁၅) မဂ္ဂဉာဏ (မဂ်ဉာဏ်) ၁၆) ဖလဉာဏ (ဖိုလ်ဉာဏ်) တို့ဖြစ်သည်[၁၀၉]။

ဤဝိပဿနာပညာတိုးတက်မှုဖော်ပြချက်၌ မဟာစည်ဆရာတော်က စိတ်ပိုင်းဖြစ်စဉ်နှင့် မဂ်ဉာဏ်မှတစ်ဆင့် နိဗ္ဗာန်ကို သဘောပေါက်သွားပုံကို ညွှန်ပြခဲ့သည်။ ဆရာတော်၏ ဖော်ပြချက်မှာ အောက်အတိုင်းဖြစ်သည် -

> ဝိသုဒ္ဓိမဂ်အလိုအရ ဝုဋ္ဌာနဂါမိနီဝိပဿနာပညာသည် ဝိပဿနာပညာ၏ အထွတ်အထိပ်ဖြစ်ပြီး ယင်းသည် သင်္ခါရုပေက္ခာဉာဏ်၊ မုဉ္စိတုကမျတာဉာဏ်နှင့် ပဋိသင်္ခါဉာဏ်ဟူသော ဉာဏ်စဉ်သုံးခုနှင့် ညီမျှသည်။ သင်္ခါရတရားတို့ကို ဆင်ခြင်သုံးသပ်ခြင်းမှ နိဗ္ဗာန်ကိုအာရုံပြုသော လောကုတ္တရာမဂ်သို့ ထ(ဖြစ်ပေါ်)ခြင်းကြောင့် ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်ဟု ခေါ်သည်။ ဆိုလိုသည်မှာ ထိုအချိန်၌ နိဗ္ဗာန်သည် တိုက်ရိုက်အာရုံတရားဖြစ်လာပြီး စိတ်ထဲတွင် စိတ်ကူးစဉ်းစားခြင်း လုံးဝမရှိတော့ချေ[၁၁၀]။

ယင်းဝိပဿနာဉာဏ်စဉ်များသည် အထွတ်အထိပ်သို့ ရောက်ရှိသွားသော ဝိပဿနာကမ္မဋ္ဌာန်းနည်း လုံးဝ ဖြစ်သော်လည်း တိုးတက်မှုအတွက် အထူးပြုခြင်းမှာ ဝိပဿနာဉာဏ်စင်ကြယ်ခြင်း၌ ယောဂီပုဂ္ဂိုလ်၏ သွင်ပြင်ကွဲပြားမှုရှိသည့် တိုးတက်သော မဂ်အဆင့်ပေါ်တွင် ဖြစ်သည်။ လေ့ကျင့်အားထုတ်မှုတွင် ကိုယ်တိုင်မပါဝင်ဖူးသူသည် ဝိပဿနာပညာ၏ ထူးခြားနက်နဲမှု အဆင့်များကို နားလည်နိုင်မည်မဟုတ်ချေ။ အမှန်စင်စစ် ဖော်ပြပြီးအတွေ့အကြုံများကို ကိုယ်တိုင်လက်တွေ့ကမ္မဋ္ဌာန်းအားထုတ်မှုဖြင့် ဖော်ပြခြင်းဖြစ်သည်။ သို့ဖြစ်၍ ဝိပဿနာပညာနှင့်ပတ်သက်၍ တွေးခေါ်မြော်မြင်မှုသည် ဤအဓိပ္ပာယ်အား များစွာ ရှင်းလင်းမှုပေးနိုင်မဟုတ်ချေ။ ဝိပဿနာပညာကို ဒဿနရှုထောင့်မှ တွေးခေါ်စဉ်းစားခြင်းမှာ ကောင်းသော်မှန်သော်လည်း ဝိပဿနာဉာဏ်ကို ကိုယ်တိုင်တိုက်ရိုက် သိနိုင်ရေးအတွက် လက်တွေ့အားထုတ်ရန် ကြိုးပမ်းခြင်းသည်သာ အကောင်းဆုံးနည်းလမ်းဖြစ်သည်။ လေ့ကျင့်အားထုတ်ခြင်းသည် ဗုဒ္ဓဝါဒပန်းတိုင် နိဗ္ဗာန်သို့ရောက်ခြင်းသို့မဟုတ် နိဗ္ဗာန်ကို ရခြင်းအတွက် တစ်ခုတည်းသော နည်းလမ်းဖြစ်သည်။

**ဝိပဿနာကမ္မဋ္ဌာန်း၌ ဝိသုဒ္ဓိခုနစ်ပါး**

ထေရဝါဒကမ္မဋ္ဌာန်းရှုမှတ်နည်းတွင် ဝိပဿနာပညာကို ပွားများခြင်းနှင့် ဝိသုဒ္ဓိကို ပွားများခြင်းတို့မှာ လေ့ကျင့်အားထုတ်ရာ၌ တစ်ချိန်တည်း ချဉ်းကပ်ရန်ယူဆကြသည်။ နည်းလမ်းတစ်ခုတည်းကို အသုံးပြုခြင်းဖြစ်သော်လည်း အခြားဝေါဟာရတစ်မျိုးဖြင့် အသုံးပြုခြင်းဖြစ်သည်။ ယင်းနှစ်မျိုးမှာ လက်တွေ့တိုးတက်မှုလမ်းစဉ်၌ အချင်းချင်းဆက်သွယ်နေသည်။ ဤအချက်၌ ဝိသုဒ္ဓိခုနစ်မျိုးကို တိုးတက်အောင်လုပ်ရန် ယောဂီသည် ရှေးဦးစွာ သီလဝိသုဒ္ဓိကို ပွားများရသည်။ ထို့ကြောင့် ယောဂီပုဂ္ဂိုလ်သည် ရှစ်ပါးသီလကိုဖြစ်စေ ငါးပါးသီလကိုဖြစ်စေ စောင့်သုံးရမည်ဖြစ်ကြောင်း တိုက်ရိုက်ညွှန်ကြားခြင်းဖြစ်

---

[၁၀၉] Vi-M Vol. II, 222-311.

[၁၁၀] Mahasi Sayadaw, *The Progress of Insight*, 38-39.

သည်။ တစ်ချိန်တည်းတွင် ယောဂီသည် ရှုမှတ်ပုံလေးမျိုးပါဝင်သည့် သတိပဋ္ဌာန်လေးပါးအစဉ်သို့ လိုက်ရမည်ဖြစ်သည်။ ယင်းတို့မှာ ၁) ခန္ဓာကိုယ်ကို ခန္ဓာကိုယ်အနေဖြင့် ရှုမှတ်ခြင်း (ကာယာနုပဿနာ) ၂) ဝေဒနာကို ဝေဒနာအနေဖြင့် ရှုမှတ်ခြင်း (ဝေဒနာနုပဿနာ) ၃) စိတ်ကိုစိတ်အနေဖြင့် ရှုမှတ်ခြင်း (စိတ္တာနုပဿနာ) နှင့် ၄) ဓမ္မအာရုံကို ဓမ္မအာရုံအနေဖြင့် ရှုမှတ်ခြင်း (ဓမ္မာနုပဿနာ) တို့ဖြစ်သည်[၃၁၁]။ အကျိုးဆက်အနေဖြင့် ယောဂီသည် နီဝရဏတရားငါးပါးကို ဖယ်ရှားလျက် စိတ္တဝိသုဒ္ဓိကို ရရှိမည်ဖြစ်သည်။

သို့ရာတွင် ရဟန်းတော်များအဖို့ သီလစင်ကြယ်ခြင်းအတွက် လေးမျိုးရှိသည်။ ယင်းတို့မှာ ၁) ဝိနည်းတော်နှင့်အညီ ကိုယ်နှုတ်အပြုအမူဆိုးများကို စောင့်ထိန်းသည့် သီလ (ပါတိမောက္ခသံဝရသီလ) ၂) ဣန္ဒြေတို့ကို စောင့်စည်းသည့် သီလ (ဣန္ဒြိယသံဝရသီလ) ၃) သက်မွေးဝမ်းကျောင်းစင်ကြယ်သည့် သီလ (အာဇီဝပါရိသုဒ္ဓိသီလ) နှင့် ၄) ပစ္စည်းလေးပါးသုံးစွဲမှုနှင့်ပတ်သက်သော သီလ (ပစ္စယသန္နိဿိတသီလ)တို့ဖြစ်သည်[၃၁၂]။ ယင်းသီလလေးမျိုးကို အထူးသဖြင့် ရဟန်းတော်များနှင့် ပတ်သက်၍ ဖော်ပြပြီး ယင်းကို စတုပါရိသုဒ္ဓိသီလဟုခေါ်သည်။

ယင်းဖော်ပြချက်၌ အပြုအမူအမျိုးမျိုးနှင့် ပတ်သက်သော ရဟန်းသိက္ခာပုဒ် နှစ်ရာ့နှစ်ဆယ်ခုနစ် (၂၂၇) ခုပါရှိသည်။ ယင်းသိက္ခာပုဒ်များကို ဗုဒ္ဓရှင်တော်မြတ် ပညတ်တော်မူခဲ့ခြင်းဖြစ်သည်။ ဣန္ဒြိယသံဝရသီလကို တိုးမြင့်စေရန် ရဟန်းတော်သည် စက္ခု သောတ ဃာန ဇိဝှါ ကာယဟူသော ဣန္ဒြေတို့၌ ထိတွေ့လာသည့် အာရုံများကို သတိဖြင့် သိရမည်ဖြစ်သည်။ ယင်းသို့ဖြင့် ရဟန်းတော်သည် စိတ်ကိုစင်ကြယ်စေလျက် ဣန္ဒြိယသံဝရသီလကို ဖြည့်ဆည်းနိုင်သည်။ ရဟန်းတော်များ၏ သက်မွေးဝမ်းကျောင်းစင်ကြယ်မှုသည် ဝိနည်းနှင့်အညီ ရဟန်းတစ်ပါးအနေဖြင့် ဘဝအတွက်လိုအပ်ချက်များကို ရရှိရာ၌ သင့်တင့်တော်သော အခြင်းအရာနှင့်ဆိုင်သည်။ (ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေးဟူသော) ပစ္စည်းလေးပါး သုံးစွဲမှုနှင့် ဆိုင်သောသီလမှာ ရဟန်းတို့အဖို့ လျောက်ပတ်သောရည်ရွယ်ချက်ကို ဆင်ခြင်ပြီးနောက်မှ သုံးစွဲရန်ဖြစ်သည်။ ဥပမာသော် 'ငါသည် ဤပစ္စည်းလေးပါးကို ပရိယတ္တိ ပဋိပတ္တိ ပဋိဝေဓဟူသော သာသနာ့တာဝန်များကို ဆောင်ရွက်ရာ၌ စိတ်ပိုင်းနှင့်ရုပ်ပိုင်း ကျန်းမာရေးအတွက် သုံးစွဲပါမည်' ဟုဖြစ်သည်[၃၁၃]။ ရဟန်းတော်များသည် သာသနာ့တာဝန်များကို ထမ်းဆောင်ရာ၌ သတိဖြင့်ဆောင်ရွက်ကြရသည်။ အကျိုးအနေဖြင့် ရဟန်းသည် နီဝရဏတရား ငါးပါးကို ဖယ်ခွာလျက် စိတ္တဝိသုဒ္ဓိကို ရနိုင်စွမ်းရှိသည်။

ဝိသုဒ္ဓိလမ်းစဉ်တိုးတက်ရာ၌ ပထမစင်ကြယ်မှုနှစ်မျိုးသည် ဆက်လက်တိုးတက်အောင် ပွားများရာတွင် အလွန်အရေးပါသည်။ ယင်းနှစ်မျိုးကို တိုးတက်အောင်မလုပ်ဘဲ စင်ကြယ်မှုတိုးတက်ခြင်း ဖြစ်နိုင်ပုံမရချေ။ စင်ကြယ်မှုတတိယအဆင့်မှာ ဒိဋ္ဌိဝိသုဒ္ဓိ(အယူအဆစင်ကြယ်မှု)ဖြစ်သည်။ ယောဂီသည် ဒိဋ္ဌိဝိသုဒ္ဓိအဆင့်သို့ ရောက်သောအခါ မိမိ၏အယူများ အားလုံးကို ကျော်လွှားလျက် စိတ်စေတသိက်တို့၏ ပရမတ္ထသဘာဝကို နားလည်နိုင်သည်။ ဒိဋ္ဌိဝိသုဒ္ဓိကိုမရမီ ယောဂီအများစုသည် မိမိခန္ဓာကိုယ်အတွင်း၌ အတ္တလိပ်ပြာကောင်သည် ငါသူတစ်ပါးအနေဖြင့် ထာဝရတည်ရှိဟုထင်မှတ်ကြသည်။ ဒိဋ္ဌိဝိသုဒ္ဓိကို ရရှိပြီးသောအခါ ယောဂီသည် ခန္ဓာငါးပါးအပေါင်း၌ ရုပ်နှင့်နာမ်သာရှိ၏ဟု သိမြင်နိုင်သောပညာကို တိုးတက်အောင် အားထုတ်နိုင်သည်။ ယင်းအစစ်အမှန်တရားကို သိခြင်း၌ ဤနေရာတွင် သဘာဝသရုပ်သဏ္ဌာန်ကို ရုပ်နာမ်အနေဖြင့်ရှုရာ၌ ယောဂီများသည် ဟိန္ဒူအယူအဆ အတ္တမန် (မဟာဝိညာဉ်ကောင်)နှင့် ပတ်သက်သော အတ္တနှင့် အတ္တအယူအဆကို ငြင်းဆိုသည်။ ဤအချက်၌ ဗုဒ္ဓဝါဒအဖို့ အတ္တမဲ့ရှုမြင်မှုသည် မှန်သောအမြင်ဖြစ်ပြီး စင်ကြယ်မှုအတွက် အလွန်လိုအပ်သော အစိတ်အပိုင်းဖြစ်သည်။ အမှန်စင်စစ် စိတ္တဝိသုဒ္ဓိသည် စိတ်၏အနှောင့်အယှက်များနှင့် အညစ်အကြေးများကို ကျော်လွှားခြင်းဟူသော သမာဓိ၏ကိစ္စ (လုပ်ဆောင်မှု)နှင့် တူညီသည်။ သို့ဖြစ်၍ စိတ္တဝိသုဒ္ဓိ သို့မဟုတ် သမာဓိသည် အလုံးစုံစင်ကြယ်မှုတိုးတက်ရေးကို ရရှိခြင်းအတွက် မရှိမဖြစ်လိုအပ်သည်။ ဖော်ပြပြီးသည့်အတိုင်း သမာဓိသုတ္တန်၌ ဗုဒ္ဓရှင်တော်မြတ်က 'သမာဓိံ ဘိက္ခဝေ ဘာဝေထ၊ သမာဟိတော ဘိက္ခဝေ ဘိက္ခု ယထာဘူတံ ပဇာနန္တိ (ရဟန်းတို့၊ သမာဓိကို ပွားများကြလော့၊ စိတ်တည်ဘိမူ ရဟန်းတို့သည် အရှိကိုအရှိအတိုင်းသိမြင်ကြ၏)' ဟုဟောတော်မူသည်။ ဗုဒ္ဓဝါဒကမ္မဋ္ဌာန်း ရှုမှတ်ခြင်း၌ ဖောက်ပြန်စွာရှုမြင်ခြင်း (ဝိပလ္လာသ)တို့၏ လွှမ်းမိုးမခံရဘဲ အရှိကိုအရှိအတိုင်း မူလဘူတအတိုင်း သိမြင်ခြင်းအား ယထာဘူတဉာဏ် (သဘာဝအတိုင်းသိမြင်သည့်ဉာဏ်)ဟု ခေါ်သည်[၃၁၄]။ အဆင့်မြင့်ဝိသုဒ္ဓိတို့ တိုးတက်ပုံအစီအစဉ်ကို ဝိသုဒ္ဓိမဂ်၌ ဤသို့ဖော်ပြသည် ၁) သီလဝိသုဒ္ဓိ (သီလစင်ကြယ်ခြင်း) ၂) စိတ္တဝိသုဒ္ဓိ (စိတ်စင်ကြယ်ခြင်း) ၃) ဒိဋ္ဌိဝိသုဒ္ဓိ (အယူစင်ကြယ်ခြင်း) ၄) ကင်္ခါဝိတရဏဝိသုဒ္ဓိ (သံသယကိုကျော်လွှား၍စင်ကြယ်ခြင်း) ၅) မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ

---

[၃၁၁] Di-N Vol. II, 231.

[၃၁၂] Ab-Ac, 347.

[၃၁၃] Ibid, 348.

[၃၁၄] Sa-N Vol. II, 12.

(မဂ်ဟုတ်သည်မဟုတ်သည်နှင့်ပတ်သက်၍ ဉာဏ်အမြင်စင်ကြယ်ခြင်း) ၆) ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိ (လမ်းစဉ်ဉာဏ် အမြင် စင်ကြယ်ခြင်း) နှင့် ၇) ဉာဏဒဿနဝိသုဒ္ဓိ (ဉာဏ်အမြင်စင်ကြယ်ခြင်း) တို့ဖြစ်သည်[၁၁၅]။ ဝိပဿနာကမ္မဋ္ဌာန်း၌ ဝိသုဒ္ဓိခုနစ်ဆင့်ရှိသော်လည်း ယင်းတို့သည် နောက်ဆုံး၌ သီလ သမာဓိ ပညာ ဟူသောအမည်နာသုံးမျိုး၌ပင် အကျုံးဝင်ကြသည်။ ယင်းပုံမှန်ကမ္မဋ္ဌာန်းထိုင်နည်းကို သိမြင်ခြင်း၌ ဗုဒ္ဓဝါဒီတို့သည် ယင်းကမ္မဋ္ဌာန်းထိုင်နည်းသည် နိဗ္ဗာန်သို့ရောက်ကြောင်း နည်းလမ်းဖြစ်ကြောင်း ဆိုကြသည်။ 'လွယ်ရှင်းအဘိဓမ္မတ္ထသင်္ဂဟ (*A Comprehensive Manual of Abhidhamma*) ကျမ်းကို တည်းဖြတ်သူ ဗုဒ္ဓဝါဒီပါဠိပညာရှင် ဘိက္ခုဗောဓိအရှင်မြတ်က ဤသို့ထောက်ပြသည် 'ယင်းဝိသုဒ္ဓိခုနစ်ပါးကို လိုက်နာကျင့်သုံးသူ၏ အထောက်အပံ့ အသီးသီးဖြစ်လျက် အစဉ်အတိုင်းရရှိသည်။ ပထမဆုံးဝိသုဒ္ဓိသည် သီလကို ကိုယ်စားပြုပြီး ဒုတိယဝိသုဒ္ဓိသည် သမာဓိကို နောက်ဆုံးငါးခုသည် ပညာကို ကိုယ်စားပြုသည်။ ပထမဝိသုဒ္ဓိခြောက်မျိုးသည် လောကီဖြစ်ပြီး နောက်ဆုံးဝိသုဒ္ဓိသည် လောကုတ္တရာမဂ်ဖြစ်သည်[၁၁၆]။

ဇယား ၅

## ဝိသုဒ္ဓိခုနစ်ပါးနှင့် ဉာဏ်စဉ်ဆယ့်ခြောက်ချက်

| ဝိသုဒ္ဓိ | ဉာဏ်စဉ် |
|---|---|
| ၁) သီလဝိသုဒ္ဓိ | အားမထုတ်မီ ရှေးဦးစွာ ငါးပါး သို့မဟုတ် ရှစ်ပါးသီလစောင်ထိန်းခြင်း |
| ၂) စိတ္တဝိသုဒ္ဓိ | ဥပစာရသမာဓိ အပ္ပနာသမာဓိ ခဏိကသမာဓိ |
| ၃) ဒိဋ္ဌိဝိသုဒ္ဓိ | ၁) နာမရူပပရိစ္ဆေဒဉာဏ် |
| ၄) ကင်္ခါဝိတရဝိသုဒ္ဓိ | ၂) ပစ္စယပရိဂ္ဂဟဉာဏ |
| ၅) မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ | ၃) သမ္မနဉာဏ |
| ၆) ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိ | ၄) ဥဒယဗ္ဗယဉာဏ |
| | ၄) ဥဒယဗ္ဗယဉာဏ |
| | ၅) ဘင်္ဂဉာဏ |
| | ၆) ဘယဉာဏ |
| | ၇) အာဒီနဝဉာဏ |

[၁၁၅] Vi-M, Vol. II, 222-311.
[၁၁၆] Ab-Ac, 345-346.

၇) ဉာဏဒဿနဝိသုဒ္ဓိ

- ၈) နိဗ္ဗိန္ဒဉာဏ
- ၉) မုဥ္စိတုကမျတာဉာဏ
- ၁၀) ပဋိသင်္ခါဉာဏ
- ၁၁) သင်္ခါရုပေက္ခာဉာဏ
- ၁၂) အနုလောမဉာဏ
- ၁၃) ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ
- ၁၄) ဂေါတြဘူဉာဏ
- ၁၅) မဂ္ဂဉာဏ
- ၁၆) ဖလဉာဏ

**မှတ်ချက်**။ ။ ဝိသုဒ္ဓိခုနစ်ပါးနှင့် ဉာဏ်စဉ်ဆယ့်ခြောက်ချက်ဖော်ပြမှုသည် မဟာစည်ဆရာတော်ရေးသားတော်မူသော *The Progress of Insight* ကျမ်းစာကို အခြေခံသည်။ ဇယားပါ ပထမဆုံး ဝိသုဒ္ဓိနှစ်ပါးမှာ ဝိပဿနာဉာဏ်ရင့်သန်ရန် အခြေခံ လေ့ကျင့်မှုဖြစ်သည်[၂၁၇]။

မဂ်ဉာဏ်ဖိုလ်ဉာဏ်များအပါအဝင် ဝိသုဒ္ဓိနှင့်ဉာဏ်စဉ်တို့ စနစ်တကျ တိုးတက်မှုကိုကြည့်လျက် ကမ္မဋ္ဌာန်းဆရာတို့သည် မြတ်ဗုဒ္ဓဟောကြားသည်ကို အခြေခံသည့် ကိုယ်ပိုင်အဓိပ္ပာယ်ဖွင့်ဆိုချက်များဖြင့် ယင်းကမ္မဋ္ဌာန်းနည်းကို အသုံးပြုကြသည်။ မြန်မာနိုင်ငံမှ မဟာကမ္မဋ္ဌာနာစရိယဖြစ်တော်မူသော မဟာစည်ဆရာတော်သည် နိဗ္ဗာန်ကိုသိမြင်နိုင်ရန် ဝိပဿနာပညာအဆင့်များကို တိုးတက်အောင် ခဏိကသမာဓိဖြင့် လုံလောက်ကြောင်း ဖော်ပြတော်မူသည်။ မြန်မာနိုင်ငံမှပင် ထင်ရှားကျော်ကြားသည့် အခြားကမ္မဋ္ဌာန်းနည်းပြဖြစ်တော်မူသော ဖားအောက်ဆရာတော်ကမူ ယောဂီတစ်ယောက်သည် ဥပစာရသမာဓိ အပ္ပနာသမာဓိတို့နှင့်အတူ သမထစျာန်ကို ရှေးဦးစွာအားထုတ်ပြီးနောက် နိဗ္ဗာန်ကိုသိမြင်ရန် ဝိပဿနာပညာကို ပွားများရမည်ဟု အထူးပြုဟောကြားသည်[၂၁၈]။

## နောက်ဆုံး နိဗ္ဗာန်ကိုသိမြင်ခြင်း

နိဗ္ဗာန်ကို သိမြင်ခြင်းနှင့်ပတ်သက်၍ ဗုဒ္ဓဝါဒီတို့သည် ကျင့်ကြံအားထုတ်မှုအခြေခံဖြင့် နိဗ္ဗာန်ကိုရရှိသည့်အယူအဆကို ထောက်ခံသည့် ဖြစ်နိုင်ခြေရှိ တိုက်ရိုက် သဘောတူညီမှုအများအပြားကို တည်ဆောက်ကြသည်။ သို့တစေ ၎င်းတို့သုံးနှုန်းသည့် အာသဝေါတရားကုန်ဆုံးခြင်း (အာသဝက္ခယ)၊ ပဋိသန္ဓေမဲ့ (အဇာတ)နှင့် သေခြင်းမဲ့ (အမတ)ကဲ့သို့သော အထူးပြုဝေါဟာရတို့မှာ မပြည့်စုံသေးဘဲရှိသည်။ သို့ဖြစ်၍ ဗုဒ္ဓရှင်တော်မြတ်သည် သမ္မာဒိဋ္ဌိ (မှန်သောအမြင်)ဟူသည်ကို အလေးပေးမိန့်ကြားတော်မူခြင်းဖြစ်သည်။ သမ္မာဒိဋ္ဌိသည် မဂ္ဂင်လမ်းစဉ်၌ အရေးကြီးသော နေရာ၌ရှိသည်။ မှန်သောအမြင်သည် အရှိကိုအရှိအတိုင်းသိမြင်သော ဝိပဿနာဉာဏ်နှင့် ဆက်နွယ်သည်။ သို့မဟုတ်မူ ယောဂီ၏စိတ်သည် ဝိပလ္လာသလေးပါးသို့ သက်ဆင်းသွားနိုင်သည်။ သညာ၏ဖောက်ပြန်ခြင်း၊ စိတ်၏ဖောက်ပြန်ခြင်း၊ အယူ၏ဖောက်ပြန်ခြင်းတို့ကြောင့် ယင်းဖောက်ပြန်မှုလေးပါးသည် ယောဂီ၏စိတ်ထဲ၌ ထင်ရှားဖြစ်ပေါ်လာသည်။ ယင်းတရားလေးပါးလုံးသည် ယောဂီ၏ ကမ္မဋ္ဌာန်းအကျင့်တိုးတက်မှုကို တားဆီးနိုင်စွမ်းရှိသည်။ ယင်းဝိပလ္လာသတရား လေးပါးတို့မှာ ၁) အနိစ္စ အမြဲမရှိမှုကို နိစ္စ အမြဲဟု ထင်မှတ်သည် ၂) ဒုက္ခကို သုခဟုထင်မှတ်သည် ၃) အနတ္တကို အတ္တဟုထင်မှတ်သည် ၄) အသုဘကို သုဘဟုထင်မှတ်သည် - တို့ဖြစ်သည်[၂၁၉]။ ယင်းဖောက်ပြန်မှုလေးမျိုးသည် အစစ်အမှန်ပရမတ္ထတရား၌ အမြင်မှန်မရှိသောကြောင့် တစ်စုံတစ်ယောက်၏စိတ်၌ ပေါ်လာရခြင်းဖြစ်သည်။ အချို့က သီအိုရီများ အတွေးအမြင်များကို နားလည်ခြင်းကို မှန်သောအမြင် သို့မဟုတ် ပြီးပြည့်စုံသော နားလည်မှုဟုထင်မှတ်ကြသော်လည်း ယင်းသည် မမှန်ချေ။ အပြည့်အစုံသဘောပေါက်ခြင်းသည် မည်သည့်အတွေးအခေါ်ပုံစံ သို့မဟုတ် စည်းမျဉ်းဥပဒေတွင်မှ အခြေမခံဘဲ တစ်စုံတစ်ယောက်၏ ကိုယ်တိုင်လေ့ကျင့်အားထုတ်မှုကြောင့် ရရှိသည့် အသိတရားအပေါ်တွင်သာ အခြေခံသည်။ သို့ဖြစ်၍ မှန်သောအမြင်

[၂၁၇] Mahasi Sayadaw, *he Progress of Insight,* 1-26.
[၂၁၈] Pa-Auk Sayadaw, 82.
[၂၁၉] An-N, Vol. 361.

(သမ္မာဒိဋ္ဌိ)အတွက် လေ့ကျင့်အားထုတ်မှု မရှိမဖြစ်လိုအပ်ပြီး ပြီးပြည့်စုံစွာ နားလည်မှုဟူသည် ဗုဒ္ဓဝါဒ၌ ဗောဓိဉာဏ်ကို တိုက်ရိုက် ရည်ရွယ်သည်[၃၂၀]။ ပြီးပြည့်စုံစွာ ထိုးထွင်းသိမြင်မှု ယူဆချက်နှင့်ပတ်သက်၍ တောင်ပုလု ကမ္ဘာအေးဆရာတော်က အောက်ပါအတိုင်း မိန့်ကြားတော်သည် -

ရုပ်နာမ်ကိုသိသော အသိပညာသုံးမျိုးရှိ၏။ ယင်းတို့မှာ ၁) သုတမယဉာဏ (ကြားနာသင်ယူဖြင့်ရရှိသော အသိပညာ) ၂) စိန္တာမယဉာဏ (ကြံစည်တွေးတော၍ ရရှိသော အသိပညာ) ၃) ဘာဝနာမယဉာဏ (ဝိပဿနာတရားပွားများ၍ရရှိသော အသိပညာ) တို့ဖြစ်၏။ ယင်းသုံးမျိုးအနက် သုတမယ စိန္တာမယဉာဏ်တို့ဖြင့် နာမ်ရုပ်ကိုသိခြင်းမှာ မပြည့်စုံ သို့မဟုတ် ထိတ်လန့်ဖွယ်ကောင်း၏။ ဘာဝနာမယဉာဏ်ဖြင့် ရုပ်နာမ်တို့ကိုသိခြင်းသည်သာ ပြီးပြည့်စုံစွာ နားလည်သဘောပေါက်ခြင်းမည်၏[၃၂၁]။

မဂ္ဂင်ရှစ်ပါးရှုထောင့်အရသော် ရှေးဦးသဘောပေါက်ခြင်းဟူသည် သမ္မာဒိဋ္ဌိကို ရည်ညွှန်းသည်။ ဗုဒ္ဓရှင်တော်မြတ်သည် သမ္မာဒိဋ္ဌိအရေးပါပုံကို အထူးပြုဟောကြားတော်မူခဲ့သည်။ ပဌမဒါရုက္ခန္ဓောပမသုတ္တန်၌ ဤအချက်ကို အောက်ပါဖော်ပြချက်တွင် ဂင်္ဂါမြစ်ရေအလျဉ်၌ မျောပါသွားသော သစ်တုံးကြီးဥပမာဖြင့် မြွက်ဟခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ် ဟောတော်မူခဲ့သည်မှာ ဖော်ပြပါအတိုင်းဖြစ်သည် -

ရဟန်းတို့၊ အကယ်၍ သစ်တုံးသည် ဤမှာဖက်ကမ်းသို့ မရောက်ခဲ့ပါလျှင် ထိုမှာဖက်ကမ်းသို့ မရောက်ခဲ့ပါလျှင် အလယ်၌ မနစ်မြုပ်ခဲ့ပါလျှင် ကြည်ကုန်း၌ မတင်ခဲ့ပါလျှင် လူတို့မဆယ်ယူခဲ့ပါလျှင် နတ်တို့မဆယ်ယူခဲ့ပါလျှင် ဝဲမစုပ် ယူခဲ့ပါလျှင် အတွင်း၌ မဆွေးမပုပ်ခဲ့ပါလျှင် ထိုသစ်တုံးသည် သမုဒ္ဒြာသို့ညွတ်သည် သမုဒ္ဒြာသို့ ကိုင်းသည် သမုဒ္ဒြာသို့ ရှိုင်းသည် ဖြစ်လိမ့်မည်။ အဘယ်အကြောင်းကြောင့်နည်း။ ဂင်္ဂါမြစ်ရေအယဉ်သည် သမုဒ္ဒြာသို့ညွတ်သည် သမုဒ္ဒြာသို့ ကိုင်းသည် သမုဒ္ဒြာသို့ ရှိုင်းသည် ဖြစ်သောကြောင့်တည်း။ ရဟန်းတို့၊ ဤအတူ သင်တို့သည်လည်း ဤမှာဖက်ကမ်းသို့ မကပ်ရောက်ကြပါလျှင်(အတွင်းဖြစ်သောတည်ရာ အဇ္ဈတ္တိကာယတနခြောက်ပါးကို ရည်ရွယ်သည်) ထိုမှာဖက်ကမ်းသို့ မကပ်ရောက်ကြပါလျှင်(အပြင်ဖြစ်သောတည်ရာ ဗာဟိရာယတနခြောက်ပါးကို ရည်ရွယ်သည်) အလယ်၌ မနစ်မြုပ်ကြပါလျှင် (နှစ်သက်စွဲမက်မှု နန္ဒီရာဂကို ရည်ရွယ်သည်) ကြည်ကုန်း၌ မတင်ကြပါလျှင်(ငါဟူသောမာန် အသ္မိမာနကို ရည်ရွယ်သည်) လူတို့မဆယ်ယူကြပါလျှင်(လူအများနှင့် ပေါင်းသင်းဆက်ဆံမှုကို ရည်ရွယ်သည်) နတ်တို့ မဆယ်ယူကြ ပါလျှင်(နတ်ဘုံတို့၌ မွေးဖွားလိုခြင်းကို ရည်ရွယ်သည်) ဝဲမစုပ်ယူကြပါလျှင် (ကာမဂုဏ်ငါးပါးကို ရည်ရွယ်သည်) အတွင်း၌ မဆွေးမပုပ်ကြပါလျှင်(ကိုယ်ကျင့်တရားပျက်ခြင်းကို ရည်ရွယ်သည်) သင်တို့သည် နိဗ္ဗာန်သို့ညွတ်သည် နိဗ္ဗာန်သို့ ကိုင်းသည် နိဗ္ဗာန်သို့ ရှိုင်းသည် ဖြစ်လိမ့်မည်။ အဘယ်အကြောင်းကြောင့်နည်း။ မှန်သောအမြင်သည် နိဗ္ဗာန်သို့ညွတ်သည် နိဗ္ဗာန်သို့ ကိုင်းသည် နိဗ္ဗာန်သို့ ရှိုင်းသည် ဖြစ်သောကြောင့်တည်း[၃၂၂]။

အမှန်စင်စစ် သမ္မာဒိဋ္ဌိနှင့် သမ္မသမာဓိသည် နိဗ္ဗာန်ကိုထိုးထွင်း၍ သိမြင်ရန် မရှိမဖြစ်လိုအပ်သည်။ အခြေခံအားဖြင့် ထိုတရားနှစ်ပါးသည် ယောဂီပုဂ္ဂိုလ်၏ ဝိပဿနာဉာဏ်ကို ရင့်ကျက်စေသည်။ မဟာစည်ဆရာတော်က ဤသို့မှတ်ချက်ပြု၍တုံ့ပြန်ခဲ့သည် - 'ယောဂီပုဂ္ဂိုလ်သည် နာမ်ရုပ်အာရုံ၌ သတိဖြင့်ဆက်လက်၍ ရှုမှတ်သွားသောအခါ ၎င်း၏ဝိပဿနာဉာဏ်သည် တဖြည်းဖြည်း တိုးတက်လာပြီး အစစ်အမှန်သဘာဝကို ရှင်းလင်းစွာဖော်ပြသည်။ ယောဂီသည် နာမ်ရုပ်ဖြစ်စဉ်၏ ဖြစ်ခြင်းပျက်ခြင်းကို ပိုမိုထင်ရှားစွာ သိမြင်လာသည်။ ထိုခဏ၌ ဖြစ်ပေါ်လာပြီး လျင်မြန်စွာ ပျောက်သွားသောအာရုံတိုင်းကိုသိပြီး ပထမဖြစ်ပေါ်ပြီးသောတရားသည် တစ်ခု၊ နောက်ဖြစ်ပေါ်လာသောတရားသည် အခြားတစ်ခုဟု သဘောပေါက်သွားသည်။ ဤသို့ဖြင့် ယောဂီ၏မှန်သောအမြင်သည် နိဗ္ဗာန်ကိုထိုးထွင်းသိမြင်နိုင်သော ဝိပဿနာပညာကို ရရှိ နိုင်သည်'[၃၂၃]။

---

[၃၂၀] Rina Sircar. *The Psycho-Ethical Aspects fo Abhidhamma* (New YorkL University Press of America, Inc., 1999), 124-125.
[၃၂၁] Taungpulu Tawy Kaba0Aye Sayadaw. *Maha Satipatthana Vipassana: Insight Meditation* (Yangon, Myanmare: Department of Religious Affairs, 1979), 33-34.
[၃၂၂] Sa-N-NT, 1242.
[၃၂၃] Mahasi Sayadaw, *Practical Insight Meditation*, 34.

ဤလေ့လာချက်၌ ဝေဖန်ဆွေးနွေးဖွယ် မေးခွန်းတစ်ခု ပေါ်လာသည်။ ထိုကမ္မဋ္ဌာန်းရှုမှတ်သူသည် ဤဘဝ၌ နိဗ္ဗာန်ကို ရရှိနိုင်ပါသလော။ ဤ၌ ဗုဒ္ဓဝါဒသည် ဖော်ပြပါမေးခွန်းအတွက် ထူးခြားသော အဖြေတစ်ရပ်ကို ပေးသည်။ ထိုပုဂ္ဂိုလ်သည် ဝိပဿနာကမ္မဋ္ဌာန်းလေ့ကျင့်အားထုတ်မှု၌ လုံ့လကြီးစွာ ပြုရမည်။ သို့မဟုတ်မူ ယင်းကျင့်ကြံမှုသည် ယောဂီအား စိတ်အား လျော့စေနိုင်ပြီး အထူးသဖြင့် ကျင့်ကြံခြင်း၌ တိုးတက်မှုမတွေ့ရဘဲရှိသည်။ ကမ္မဋ္ဌာန်းအကျင့်၌ သံသယပေါ်လာမည်။ ထို့ကြောင့် အားထုတ်သူ၏ပါရမီ (စိတ်ပိုင်းဘဝပြီးပြည့်စုံခြင်း) ရင့်ကျက်သလား မရင့်ကျက်သလားဟူသည်ကို နားလည်ရန်လိုအပ်သည်။ ယင်းအချက်လည်း အရေးပါသည်။ ထို့ပြင် ပါရမီအလုံအလောက်ရင့်ကျက်သည့်တိုင် လုံ့လအားထုတ်ခြင်းမပြုလျှင်လည်း နိဗ္ဗာန်ကို ရရှိနိုင်မည်မဟုတ်ချေ။ သို့ဖြစ်၍ ကမ္မဋ္ဌာန်းကို အားတက်သရောအားထုတ်ရန်နှင့် ပါရမီအလုံအလောက် ရင့်သန်မှုရှိမရှိသိအောင် အားထုတ်မှုတစ်ရပ် ပြုရမည်ဖြစ်သည်။ ယင်းနောက် ဤဘဝ၌ ဗောဓိဉာဏ်ကို ရနိုင်သလော သို့မဟုတ် နောက်ဘဝတွင်လောဟူသည်ကို သိနိုင်သည်။

ထို့ပြင် ထေရဝါဒကျမ်းဂန်တို့၌ ဗောဓိဉာဏ်ကို ထိုးထွင်း၍သိမြင်မှုအား ကိလေသာတို့ကို ဖယ်ရှားသုတ်သင်ခြင်းနှင့် သံသရာဒုက္ခမှ လွတ်မြောက်ခြင်းအဖြစ် အထူးပြုဖွင့်ဆိုသည်။ ကမ္မဋ္ဌာန်းအားထုတ်ခြင်းဖြင့် ဝိပဿနာပညာကို မရသေးသရွေ့ အဝိဇ္ဇာအကြောင်းခံဖြင့် သဘာဝဓမ္မတို့ကို မှားယွင်းစွာ သိမြင်သည်။ ဝိပဿနာကမ္မဋ္ဌာန်းသည် အမှန်ပင် ယောဂီပုဂ္ဂိုလ်အား ဝိပဿနာပညာကို ရရှိသည်အထိ အဝိဇ္ဇာကို တစ်လွှာပြီးတစ်လွှာ ခွာနိုင်စွမ်းရှိသည်။ ထိုအချိန်၌ ယောဂီများသည် ပရမတ္ထသဘာဝကို သဘောပေါက်လျက် နိဗ္ဗာန်သို့ ဝင်လမ်းဖြစ်သည့် ဗောဓိဉာဏ်ကို ရရှိသွားသည်။ ဒီဃနိကာယ် မဟာလိသုတ္တန်အရ ဗောဓိဉာဏ်အဆင့် လေ့ဆင့်ရှိသည်။ ဗောဓိဉာဏ်အဆင့်သည် ယင်းဉာဏ်ကို ရရှိသူအရိယာပုဂ္ဂိုလ်အသီးသီးပေါ်တွင် အခြေခံသည်။ အရိယာပုဂ္ဂိုလ်များအနက် ပထမဆုံးအဆင့် အရိယာပုဂ္ဂိုလ်မှာ သောတာပန်ဖြစ်သည်။ သောတာပန်ပုဂ္ဂိုလ်သည် ဒိဋ္ဌိသံယောဇဉ်၊ ဝိစိကိစ္ဆာသံယောဉ်နှင့် သီလဗ္ဗတပရာမာသသံယောဇဉ်တို့ကို ဖြတ်ပြီးဖြစ်သည်[၃၂၄]။ အဋ္ဌကထာကျမ်းများအလိုအရ သောတာပန်သည် ဣဿာနှင့် မစ္ဆရိယသံယောဇဉ်နှစ်ပါးကိုလည်း ဖြတ်ပြီးဖြစ်သည်။ သောတာပန်သည် အပါယ်ဘုံတို့၌ မွေးဖွားစေနိုင်လောက်အောင် ပြင်းပြသော ကိလေသာအရှိန်အားလုံးမှ လွတ်မြောက်ပြီးဖြစ်သည်[၃၂၅]။ တစ်ဖန် သောတာပန်ပုဂ္ဂိုလ်သည် ဗုဒ္ဓ ဓမ္မ သံဃအား မတုန်မလှုပ်သက်ဝင်ယုံကြည်ပြီး ကိုယ်ကျင့်သီလ၌ တိကျသောသဘောထားဖြင့် ငါးပါးသီလနှင့် ပြည့်စုံသည်။ အပါယ်လေးဘုံမှ ကင်းလွတ်ပြီး လူ့ပြည် နတ်ပြည်တို့၌ ခုနစ်ကြိမ်ထက်ပို၍ ပဋိသန္ဓေမနေတော့ချေ[၃၂၆]။

အရိယာပုဂ္ဂိုလ် ဒုတိယအဆင့်မှာ သကဒါဂါမ်ဖြစ်သည်။ သကဒါဂါမ်ပုဂ္ဂိုလ်သည် ၎င်း၏ လောဘ ဒေါသ မောဟတို့ကို လျော့ပါးအောင်လုပ်ပြီး ကာမဘုံသို့ တစ်ကြိမ်သာ ပြန်လာတော့မည်ဖြစ်သည်[၃၂၇]။

အရိယာပုဂ္ဂိုလ် တတိယအဆင့်မှာ အနာဂါမ် ဖြစ်သည်။ အနာဂါမ်ပုဂ္ဂိုလ်သည် ကာမရာဂသံယောဇဉ်နှင့် ပဋိဃသံယောဇဉ်နှစ်ပါးကို အကြွင်းမဲ့ ပယ်လျက် လူ့ဘုံနှင့် နတ်ပြည်ခြောက်ထပ်တို့၌ ပြန်လည်မွေးဖွားတော့မည်မဟုတ်ချေ။ ဤအဆင့် အရိယာပုဂ္ဂိုလ်နှင့် စပ်လျဉ်း၍ ဒီဃနိကာယ် အတွဲ ၁၊ မဟာလိသုတ်ကဲ့သို့သော ပါဠိတော်ကျမ်းဂန်များ၌ အနာဂါမ်ပုဂ္ဂိုလ်သည် အဆင့်နိမ့်သံယောဇဉ် (ဩရမ္ဘာဂိယ)ငါးပါးကို ပယ်စွန့်လျက် ကွယ်လွန်သည်နှင့် (သုဒ္ဓါဝါသ)ဗြဟ္မာဘုံ၌ မွေးဖွားပြီး ထိုဘုံ၌ ဗောဓိဉာဏ်ကို ရလိမ့်မည်ဖြစ်ကြောင်းဖော်ပြသည်။ ဤအချက်၌ ဩရမ္ဘာဂိယသံယောဇဉ်ဟူသည် ဖော်ပြလတ့်သော သံယောဇဉ်ငါးပါးကို ရည်ညွှန်းသည်။ ယင်းသံယောဇဉ်ငါးပါး၏စွမ်းရည်ကား အပါယ်ဘုံ လူ့ဘုံနှင့် နတ်ဘုံဟူသောကာမဘုံနှင့် နိမ့်သောဗြဟ္မာ့ဘုံတို့၌ သတ္တဝါတို့ကို ချည်နှောင်နိုင်စွမ်းရှိသည်။ ယင်းငါးပါးမှာ ၁) ကာမရာဂသံယောဇဉ် ၂) ပဋိဃသံယောဇဉ် ၃) သီလဗ္ဗတပရာမာသသံယောဇဉ် ၄) ဒိဋ္ဌသံယောဇဉ် ၅) ဝိစိကိစ္ဆာသံယောဇဉ်တို့ဖြစ်သည်။ သို့ဖြင့် အနာဂါမ်ပုဂ္ဂိုလ်သည် ကာမဘုံ၌ပြန်လည်မမွေးဖွားတော့ဘဲ ကြွင်းကျန်နေသေးသော သံယောဇဉ် ငါးပါးကို မပယ်ရသေးသောကြောင့် ဥဒ္ဓမ္ဘာဂိယသံယောဇနဟုခေါ်သော အထက်ဗြဟ္မာ့ဘုံ၌ ပြန်လည်မွေးဖွားလိမ့်မည်ဖြစ်သည်။

---

[၃၂၄] ပါဠိကျမ်းဂန်တို့၌ သံယောဇဉ်ဆယ်ပါးကို နည်းနှစ်မျိုးဖြင့်ရေတွက်သည်။ တစ်နည်းမှာသုတ္တန်နည်းအရဖြစ်ပြီး နောက်တစ်နည်းမှာ အဘိဓမ္မာနည်းအရဖြစ်သည်။ သုတ္တန်နည်းအရ သံယောဇဉ်ဆယ်ပါးမှာ ၁) ကာမရာဂသံယောဇဉ် ၂) ရူပါရာဂသံယောဇဉ် ၃) အရူပရာဂ သံယောဇဉ် ၄) ပဋိဃသံယောဇဉ် ၅) မာနသံယောဇဉ် ၆) ဒိဋ္ဌသံယောဇဉ် ၇) သီလဗ္ဗတပရာမာသသံယောဇဉ် ၈) ဝိစိကိစ္ဆာသံယောဇဉ် ၉) ဥဒ္ဓစ္စသံယောဇဉ် ၁၀) အဝိဇ္ဇာသံယောဇဉ်တို့ဖြစ်သည်။ ဒုတိယ အဘိဓမ္မာနည်းအရ သံယောဇဉ်ဆယ်ပါးမှာ ၁) ကာမရာဂသံယောဇဉ် ၂) ဘဝရာဂသံယောဇဉ် ၃) ပဋိဃသံယောဇဉ် ၄) မာနသံယောဇဉ် ၅) ဒိဋ္ဌိသံယောဇဉ် ၆) သီလဗ္ဗတပရာမာသသံယောဇဉ် ၇) ဝိစိကိစ္ဆာသံယောဇဉ် ၈) ဣဿာသံယောဇဉ် ၉) မစ္ဆရိယသံယောဇဉ် ၁၀) အဝိဇ္ဇာသံယောဇဉ် တို့ဖြစ်သည်။ Ab-S, 117-118; Ab-As, 268-269.

[၃၂၅] Ac-Ab, 359.

[၃၂၆] Di-N Vol. I, 148-149; Ac-Ab, 358-362; Ab-B-T, 563-564, 718-723.

[၃၂၇] Ibid, 148-149, 352-362, 563-564.

ယင်းဥဒ္ဓမ္ဘာဂိယသံယောဇဉ်ငါးပါးမှာ ၁) ရူပါရာဂသံယောဇဉ် ၂) အရူပရာဂသံယောဇဉ် ၃) မာနသံယောဇဉ် ၄) ဥဒ္ဒစ္စသံယောဇဉ် ၅) အဝိဇ္ဇာသံယောဇဉ်တို့ဖြစ်သည်[၁၂၈]။

နောက်ဆုံးအဆင့် အရိယာပုဂ္ဂိုလ်မှာ ရဟန္တာပုဂ္ဂိုလ်ဖြစ်သည်။ ရဟန္တာပုဂ္ဂိုလ်သည် စိတ်အညစ်အကြေးအားလုံး ချုပ်ငြိမ်းခြင်းဖြင့် သံယောဇဉ်အားလုံး၊ ကိလေသာငါးလုံးနှင့် အာသဝအားလုံးကို လုံးဝပယ်ခွာသည်။ ရဟန္တာပုဂ္ဂိုလ်သည် ၎င်း၏ ဝိပဿနာဉာဏ်၊ မဂ်ဉာဏ် ဖိုလ်ဉာဏ်တို့ဖြင့် ထိုးထွင်းသိမြင်သွားပြီဖြစ်လျက် သုံးဆယ့်တစ်ဘုံ၌ ပြန်လည်မွေးဖွားတော့မည်မဟုတ်ချေ။ ရဟန္တာပုဂ္ဂိုလ်သည် နိဗ္ဗာန်၏သန္တိသုသဘာဝကို ရရှိသွားပြီဖြစ်သည်။ သို့ဖြင့် ရဟန္တာပုဂ္ဂိုလ်အား ဗောဓိဉာဏ်ကို အပြည့်အစုံ ရရှိပြီးသူဟု ခေါ်သည်[၁၂၉]။

ဤဖော်ပြချက်၌ သံယောဇဉ်ဆယ်ပါးရေတွက်ပုံ နှစ်မျိုးရှိသောကြောင့် ဤလေ့လာချက်၌ မြင်သာထင်သာရှိစေရန် သံယောဇဉ်နှင့်ပတ်သက်သော ဖော်ပြချက်အတွက် ဇယားတစ်ခုပေးထားသည်။ ကိလေသာအပြားနှင့် သံယောဇဉ်အပြားတို့မှာ ဗုဒ္ဓဝါဒကျမ်းဂန်တို့၌ အနည်းနှင့်အများ တူညီသော အခြေခံရှိကြသော်လည်း အခါအားလျော်စွာ ခြားနားသည့် အသုံးအနှုန်းများဖြင့် တွေ့ရကြောင်း သတိပြုသင့်သည်။ အချို့သော စေတသိက်များမှာ အချို့အုပ်စုများ၌ ခြားနားစွာ ဆက်နွယ်နိုင်သော်လည်း ယင်းတို့အားလုံး၏ မူလရင်းမြစ်မှာ အကုသိုလ်စေတသိက် ဆယ့်လေးခုထဲမှသာဖြစ်ကြသည်။ ဉပမာအားဖြင့် ထိနသည် မိဒ္ဓ နှင့် အခြေခံတူညီပြီး ကုက္ကုစ္စသည် ဒေါသနှင့် အခြေခံတူညီသည်။ ဤနည်းဖြင့် ကိလေသာများနှင့် သံယောဇဉ်များသည် အကုသိုလ်စေတသိက် ဆယ့်လေးပါးနှင့် မည်သို့ဆက်နွယ်သည်ကို နားလည်သင့်သည်။ အောက်ပါဇယားမှာ အဘိဓမ္မတ္ထသင်္ဂဟကျမ်းနှင့်အညီ သံယောဇဉ်နှင့်ပတ်သက်သော ဖော်ပြချက်ဇယားဖြစ်သည်[၁၃၀]။

ဇယား ၆

### မဂ်ဉာဏ်ဖြင့် သံယောဇဉ်တို့ကို ပယ်ခြင်း

| | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|
| သုတ္တန်နည်းသံယောဇဉ် | သော | သ | နာ | ရ | = | ရ | နာ | သ | သော | အဘိဓမ္မာနည်းသံယောဇဉ် |
| ကာမရာဂသံယောဇဉ် | | | * | | = | | * | | | ကာမရာဂ သံယောဇဉ် |
| ရူပါရာဂသံယောဇဉ် | | | | * | + | * | | | | ဘဝရာဂသံယောဇဉ် |
| အရူပရာဂသံယောဇဉ် | | | | * | + | | | | * | ဣဿာသံယောဇဉ် |
| ပဋိဃသံယောဇဉ် | | | * | | = | | * | | | ပဋိဃသံယောဇဉ် |
| မာနသံယောဇဉ် | | | | * | = | * | | | | မာနသံယောဇဉ် |
| ဒိဋ္ဌိသံယောဇဉ် | * | | | | = | | | | * | ဒိဋ္ဌိသံယောဇဉ် |
| သီလဗ္ဗတပရာမာသသံယောဇဉ် | * | | | | = | | | | * | သီလဗ္ဗတပရာမာသသံယောဇဉ် |



---

[၁၂၈] Ibid, 148-149, 352-362, 563-564.

[၁၂၉] Ibid, 148-149, 352-362, 563-564.

[၁၃၀] Ab-S, 117-118, 164-165; Ab-Ac, 358-362.

| | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|
| ဝိစိကိစ္ဆာသံယောဇဉ် | * | | | | = | | | | * | ဝိစိကိစ္ဆာသံယောဇဉ် |
| ဥဒ္ဓစ္စသံယောဇဉ် | | | * | | + | | | | * | မစ္ဆရိယသံယောဇဉ် |
| အဝိဇ္ဇာသံယောဇဉ် | | | | * | = | * | | | | အဝိဇ္ဇာသံယောဇဉ် |
| စုစုပေါင်း | ၃ | ၀ | ၂ | ၅ | + | ၃ | ၂ | ၀ | ၅ | စုစုပေါင်း |
| | | | | | ၅ | | | | | |
| | | | | | ၂ | | | | | |
| | | | | | ၀ | | | | | |
| | | | | | ၅ | | | | | |

မှတ်ချက်။ ။ သော = သောတာပန်။ သ = သကဒါဂါမ်။ နာ = အနာဂါမ်။ ရ = ရဟန္တာ။

နိဗ္ဗာန်ရောက်ကြောင်းလမ်းစဉ်ဖော်ပြချက်ကို ပြန်ဆက်ရသော် မဟာစည်ဆရာတော်၏အလိုအရ မဂ်ဉာဏ်နှင့် ဖိုလ်ဉာဏ်တို့သည် လောကုတ္တရာဉာဏ်ဖြစ်စဉ်အားဖြင့် အချင်းချင်းဆက်သွယ်နေပြီးဖြစ်သည်။ ဆရာတော်က ဤသို့ဆိုသည် -

> ဖိုလ်ဉာဏ်သည် သောတာပတ္တိမဂ်စသော လောကုတ္တရာမဂ်ဉာဏ်လေးပါးနှင့် ဆက်စပ်နေ၏။ ဤဖော်ပြချက်၌ သောတာပတ္တိမဂ်ဉာဏ်ကိုသာ ရည်ရွယ်၏။ မဂ်ဉာဏ်သည် စိတ္တက္ခဏ တစ်ချက်မျှသာကြာပြီး ယင်းမဂ်ဉာဏ်ကို အကြောင်းပြု၍ ဖိုလ်ဉာဏ်ဖြစ်ပေါ်လာ၏။ ဖိုလ်ဉာဏ်သည် အကြိမ်များစွာဖြစ်နိုင်ပြီး ဖလသမာပတ်အားဖြင့်လည်း (ယင်းဖိုလ်ဉာဏ်ကို) တမင်သက်သက် ဝင်းစားနိုင်၏[၃၃၁]။

ပညာ၏လုပ်ဆောင်ချက်မှာ လောကုတ္တရာမဂ်ဉာဏ် ဖိုလ်ဉာဏ်ဖြင့် နိဗ္ဗာန်ကိုအာရုံပြုသည်အထိ အသီးသီး ထိုးထွင်း၍သိမြင်ခြင်းဖြစ်သည်။ နိဗ္ဗာန်ဟူသည် နောက်ဆုံး၌ သင်္ခါရတရားအားလုံး၏ ဖြစ်ပျက်အစဉ်၌ ပါဝင်လျက်ရှိသော လောကီနယ်၏ တစ်ဖက်တွင်ရှိသောအရာမှတစ်ပါး အခြားမဟုတ်ဟု ဆိုရမည်ဖြစ်သည်။ သို့ရာတွင် နိဗ္ဗာန်အဆင့်၌ ယင်းဖြစ်စဉ်မျိုးလုံးဝရပ်စဲပြီး သန္တိသုအခြေအနေသို့ ရောက်သွားသည်။ ယင်းဖြစ်စဉ်တို့ ပြတ်စဲသွားခြင်းဖြင့် ယောဂီသည် လောကုတ္တရဓမ္မနှင့် နိဗ္ဗာန်၏သန္တိသုခကို ခံစားရသည်။ သို့ဖြင့် ဤလေ့လာမှု၏ နိဂုံးမှာ မှန်ကန်စွာ လက်တွေ့အားထုတ်ခြင်းသည် ကျွန်ုပ်တို့၏ ကိုယ်ပိုင်စိတ်ပိုင်းဘာဝ လုပ်ငန်းစဉ်ဖြစ်လျက် ပညာကြောင့် နိဗ္ဗာန်ကိုသိမြင်မှု ဖြစ်ပေါ်လာလိမ့်မည်ဟု ဖြစ်သည်။ အရှင်နာဂသေနအရှင်မြတ်က ဤအချက်ကို အောက်ပါအတိုင်း ဖော်ပြသည် -

> မင်းကြီး၊ ငြိမ်းချမ်းလျက် ပျော်ရွှင်ဖွယ်ကောင်းပြီး သာလွန်မြင့်မြတ်သော နိဗ္ဗာနဓာတ်သည်ရှိပါ၏။ မှန်ကန်စွာ လက်တွေ့ အားထုတ်လျက် မြတ်ဗုဒ္ဓဟောတော်မူအပ်သော နည်းနှင့်အညီ သင်္ခါရတရားတို့ကို သုံးသပ်သော ပုဂ္ဂိုလ်သည် ပညာဖြင့် ယင်းနိဗ္ဗာန်ကို မျက်မှောက်ပြုပါ၏[၃၃၂]။

**နိဂုံးမှတ်ချက်များ**

နိဗ္ဗာန်ကို အဓိပ္ပာယ်ကောက်ယူကြရာ၌ ဤသုတေသနပြုချက်သည် ပြန်လည်ညှိနှိုင်းပြီး အဆိုပြုချက်အရရော တွေးခေါ်မှုအရပါ နိဗ္ဗာန်၏အဓိပ္ပာယ်မှန်ကို နားလည်ရန် မလုံလောက်သော ယခင်ပညာရှင်များ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်များကို တိုး

[၃၃၁] Mahasi Saydaw, *Practical Insight Meditation*, 39.

[၃၃၂] Q-Mi, 134. အတ္ထေသာ မဟာရာဇ နိဗ္ဗာနဓာတု သန္တာ သုခါ ပဏီတာ၊ တံ သမ္မာပဋိပန္နော ဇိနာနုသိဋ္ဌိယာ သင်္ခါရေ သမ္မသန္တော ပညာယ သစ္ဆိကရောတိ။ မိလိန္ဒ၊ ၃၀၉။

မြင့်ခဲ့သည်။ အကြောင်းမှာ ၎င်းတို့အသုံးပြုသည့် ဘာသာစကား၏ ကန့်သတ်ချက်ကြောင့်ဖြစ်သည်။ စိတ်စင်ကြယ်မှုအတွက် အလုံအလောက် လက်တွေ့အားထုတ်မှုမရှိသော ကျမ်းပြုပုဂ္ဂိုလ်များသည် နိဗ္ဗာန်ဟူသည် မည်သို့သော အရာဖြစ်ကြောင်း သဘောပေါက်မနိုင်သဖြင့် နိဗ္ဗာန်၏အဓိပ္ပာယ်ကို ရှင်းပြနိုင်စွမ်းရှိပုံမရချေ။ အမှန်စင်စစ် နိဗ္ဗာန်ဟူသည်ကို ဖြစ်နိုင်ခြေရှိ ဖော်ပြချက်ဖြင့်ဖြစ်စေ ဖြစ်နိုင်ခြေမဲ့ ဖော်ပြချက်ဖြင့်ဖြစ်စေ မိမိတွေးထင်မှုကို အခြေခံပြီး ဖော်ပြနိုင်သည်။ ကျမ်းပြုသူ၏ ယူဆချက်မှာ နိဗ္ဗာန်ကို ဖြစ်နိုင်ခြေရှိ ဝေါဟာရများဖြင့်သာ ဖော်ပြရသည်မဟုတ်ချေ။ များသောအားဖြင့် လုံးဝပြတ်စဲခြင်း၊ မဖြစ်ခြင်း၊ ပြန်လည်မမွေးဖွားခြင်းဟူသော ဖြစ်နိုင်ခြေမဲ့ဝေါဟာရများဖြင့် ဖော်ပြကြသော်လည်း နိဗ္ဗာန်ဟူသည်မရှိဟု ဆိုလိုသည်မဟုတ်ချေ[၃၃၃]။ ယင်းနိဂုံးသည် အမှန်သော် ဖြစ်နိုင်ချေရှိ ဖော်ပြချက်တစ်ရပ်ဖြစ်သည်။

သို့ရာတွင် အဓိပ္ပာယ်ဖွင့်ဆိုသူများသည် ယင်းနိဗ္ဗာန်အဓိပ္ပာယ်ကောက်ယူချက်အား ဖြစ်နိုင်ခြေမဲ့ ဖော်ပြချက်အဖြစ်ရှုမြင်နိုင်ပြီး အဆုံးစွန်ပျော်ရွှင်မှု၊ ငြိမ်းချမ်းမှု၊ လောကလွန်တည်ငြိမ်မှု၊ ကောင်းမြတ်မှုကဲ့သို့သော ဖော်ပြချက်များကို အသုံးပြု သို့မဟုတ် အထူးပြုပြောဆိုပြီး ဖြစ်နိုင်ခြေရှိဝေါဟာရများဖြစ်ပုံရသည်တို့နှင့် တုံ့ပြန်နိုင်သည်။ ရှေးကအဓိပ္ပာယ်ဖွင့်ဆိုသူများသည် လောကီဝေါဟာရအားဖြင့် သို့မဟုတ် တွေးခေါ်မြော်မြင်သည့်နည်းလမ်းများဖြင့် လောကီလွန်နိဗ္ဗာန်အဆင့်ကို မရောက်နိုင်သောကြောင့် နိဗ္ဗာန်အား သာလွန်ထူးကဲသည့်အလင်းရောင်နှင့် ဗိမာန်တစ်ခုကဲ့သို့ ငြိမ်းချမ်းမြင့်မြတ်သည့်အခြေအနေအဖြစ် ဖွင့်ဆိုရန်ကြိုးပမ်းခဲ့ကြသည်။ သို့ရာတွင် လောကီရှုထောင့်ဖြင့် နိဗ္ဗာန်၏သဘာဝမှန်ကို နားမလည်နိုင်ဘဲ ဓမ္မသဘာဝတွင်ရှိသော ထူးကဲသာလွန်သောအခြေအနေအဖြစ် ယူဆနိုင်သည်။ ဤနေရာ၌ ဓမ္မဟူသည် အရိယာပုဂ္ဂိုလ်တို့သိအပ်သော ထူးကဲသောအခြေအနေဖြင့်တည်ရှိသည့် ဓမ္မဓာတ်ဟူသော လောကုတ္တရာစိတ်ကို ဆိုလိုသည်။

နိဗ္ဗာန်ဟူသည် ဖြစ်နိုင်ခြေမဲ့လည်းမဟုတ် ဖြစ်နိုင်ခြေရှိလည်းမဟုတ်ဟု ဆိုနိုင်သည်။ အကြောင်းမူ ဓမ္မ၏သဘာဝကိုယ်က ဖြစ်နိုင်ခြေမဲ့လည်းမဟုတ် ဖြစ်နိုင်ခြေရှိလည်းမဟုတ်သောကြောင့်တည်း။ ဖြစ်နိုင်ခြေမဲ့ ဖြစ်နိုင်ခြေရှိ အမြင်သည် လောကီအမြင်မျှသာဖြစ်သည်။ သို့ဖြစ်၍ ပြောဆိုဆက်သွယ်ခြင်း သို့မဟုတ် ဒဿနဆိုင်ရာနားလည်မှု ရည်ရွယ်ချက်တို့အတွက် လောကီဝေါဟာဖြင့် နိဗ္ဗာန်ကို ဖော်ပြရန်ကြိုးစားမှု နိဗ္ဗာန်၏ အနှစ်သာရမှန်သို့ ရောက်နိုင်မည်မဟုတ်ချေ။ အကြောင်းမူ နိဗ္ဗာန်၏ အနှစ်သာရမှန်သည် လောကီဝေါဟာရနယ်ကို ကျော်လွန်သောကြောင့်ဖြစ်သည်။ တစ်ဖန် နိဗ္ဗာန်၏ အနှစ်သာရမှန်ကို ဖော်ပြနိုင်သော တိကျသည့်စကားလုံး သို့မဟုတ် ဘာသာစကားမရှိသော်လည်း သင့်မှန်သော နည်းလမ်းဖြင့် ကမ္မဋ္ဌာန်းတရားရှုမှတ်ခြင်းသည်သာ ယင်းပြဿနာကို ဖြေရှင်းပေးသည်။ ဤလေ့လာချက်သည် အမှန်စင်စစ်နိဗ္ဗာန်အယူအဆကို ဘာသာစကားဖြင့် ဖြေရှင်းရန် လုံးဝမကြိုးစားချေ။ ထို့ပြင် ဤလေ့လာချက်သည် ပညာရှင်များအဓိပ္ပာယ်ကောက်ယူချက်များကို အခြေခံသည့် နိဗ္ဗာန်ဟူသည် ထာဝရတည်မြဲခြင်းလော သို့မဟုတ် ပြတ်စဲခြင်းလော ဟူသည်ကိုဆုံးဖြတ်ရန် မကြိုးစားချေ။ ဤလေ့လာချက်၏ အခြေခံရည်ရွယ်ချက်မှာ သီအိုရီအရ နိဗ္ဗာန်ဟူသည် မည်သို့သောအရာဖြစ်ကြောင်း နားလည်နိုင်သောနည်းလမ်းများကို ရှာဖွေရန်၊ ဝိပဿနာပညာနှင့် လက်တွေ့အခြေခံဖြင့် နိဗ္ဗာန်ကို ထိုးထွင်းသိမြင်သော မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို ရရှိရန်ဖြစ်သည်။

အထက်တွင်ဖော်ပြပြီးဖြစ်သည့်အတိုင်း ပါဠိတော်ကျမ်းဂန်များသည် ယောဂီပုဂ္ဂိုလ်များအား စနစ်တကျ လက်တွေ့နည်းလမ်းများဖြင့် နိဗ္ဗာန်၏အဓိပ္ပာယ်ကို နားလည်စေသည်။ ပါဠိကျမ်းဂန်လာ နည်းလမ်းများ၏ စနစ်တကျချဉ်းကပ်မှုသည် ကမ္မဋ္ဌာန်းရှုမှတ်မှု၏ ကောင်းမွန်ပုံကို ရှင်းပြသောကြောင့် ယောဂီပုဂ္ဂိုလ်များသည် ဗုဒ္ဓဝါဒကမ္မဋ္ဌာန်းရှုမှတ်နည်း၏ အခြေခံရည်ရွယ်ချက်မှာ စိတ်ကိုစင်ကြယ်စေရန်ဖြစ်ကြောင်း နားလည်လာကြသည်။ တစ်စုံတစ်ယောက်သည် ၁)ပရိယတ္တိ ၂) ပဋိပတ္တိ ၃) ပဋိဝေဓဟူသော ပါဠိကျမ်းဂန်လာနည်းလမ်းများကို အသုံးပြုခြင်းဖြင့် နိဗ္ဗာန်၏အဓိပ္ပာယ်ကို ကိုယ်တိုင်နားလည်နိုင်သည်။ ပရိယတ္တိနည်းဖြင့် နိဗ္ဗာန်ကိုနားလည်ခြင်းသည် အမြဲတမ်းမပြည့်စုံပေ။ သို့ဖြစ်ရကား နိဗ္ဗာန်အဓိပ္ပာယ်ကို သင့်တင့်စွာ နားလည်ရန် စိတ်ပိုင်းဆိုင်ရာ ထိုးထွင်းသိမြင်မှုလမ်းစဉ်ကို အားထုတ်ရလိမ့်မည်ဖြစ်သည်။ စိတ်ပိုင်းဆိုင်ရာ ထိုးထွင်းသိမြင်မှုလမ်းစဉ် တိုးတက်ခြင်းဖြင့် သီအိုရီနှင့် ဒဿနဆိုင်ရာ ယူဆချက်များ ရှင်းလင်းသွားသည်။ ဤနေရာ၌ စိတ်ပိုင်းဘဝလွတ်မြောက်မှုဟူသည် နီဝရဏတရားများနှင့် အယူမှားခြင်းဒိဋ္ဌိတို့မှ လွတ်မြောက်ခြင်းကို ဆိုလိုသည်။

ဤဖော်ပြချက်၌ သီအိုရီအရနားလည်မှုနှင့် လက်တွေ့ထိုးထွင်းသိမြင်မှုတို့၏ ခြားနားချက်ကို လက်တွေ့အားထုတ်ခြင်းဖြင့်သာ သိနိုင်မည်ဖြစ်သည်။ သီအိုရီအရနားလည်မှု၌ အမှန်အတိုင်းမသိမှု (မောဟ)၊ ဖောက်ပြန်သောအမြင် (ဝိပလ္လာသ)၊ စိတ်၏အညစ်အကြေး (ကိလေသာ) နှင့် သံယောဇဉ်တို့နှင့် ပတ်သက်သည့် 'ငါ'ဟူသော အမြင်ရှိနေသည်။ မိမိကိုယ်ကို တွယ်တာခြင်း၊ မိမိကိုယ်ကို ပျော်ရွှင်လိုခြင်း၊ ငါ့အတွက် တစ်စုံတစ်ယောက်ကို မုန်းတီးခြင်း၊ ငါ့အတွက် တစ်စုံတစ်ယောက်ကို ချစ်ခြင်းတို့ ရှိလိမ့်မည်ဖြစ်သည်။ 'ငါ'ဟူသော အမြင်ကို စွန့်ပယ်ခြင်းမရှိဘဲ စိတ်၏စင်ကြယ်မှုကို ရနိုင်

[၃၃၃] U Silananda Sayadaw, *The Four Foundations of Mindfulness* (Boston: Wisdom Publications, 1990), 156.

မည်မဟုတ်သည်သာမက နိဗ္ဗာန်၏အနှစ်သာရမှန်ကိုလည်း သဘောပေါက်မည်မဟုတ်ချေ။ အကြောင်းမူ ယင်း 'ငါ'ဆိုသောအရာသည်ပင် မာယာလှည့်ပတ်ခြင်းဖြစ်ပြီး နိဗ္ဗာန်ကို သိမြင်ခြင်းအတွက် ဆူးငြောင့်ခလုတ်ဖြစ်သည်။ ဗုဒ္ဓ၏တရားဒေသနာများတွင် အနတ္တသီအိုရီသည် တစ်စုံတစ်ယောက်ထံမှ 'ငါ'ဟူသော အမြင်ကို ဖယ်ရှားပစ်ရန် အတိအကျ ဖော်ပြပြီးဖြစ်သည်။ စိတ်ကိုစင်ကြယ်စေပြီး ဓမ္မမှန်ကိုသိရှိနားလည်လိုလျှင် မိမိထံမှ 'ငါ'ကို ခွာပစ်ပြီး 'ငါ'နှင့် ပတ်သက်ခြင်းမရှိဘဲ မိမိ၏သဘာအတွေ့အကြုံကို သတိထားမိအောင် ကြိုးပမ်းရမည်ဖြစ်သည်။ တစ်စုံတစ်ယောက်၏ သန္တာန်၌ 'ငါ'ဟူသည် မရှိသောသောအခါ စိတ်သည် သံယောဇဉ်တရားများမှ လွတ်မြောက်ရန် အခွင့်အလမ်းကောင်းများရှိသွားသည်။ မိမိ၏ သန္တာန်၌ အမှန်တကယ်ထင်ရှားရှိနေသော ရုပ်နှင့်နာမ်တရားတို့၏ သဘာဝဖြစ်စဉ်ကို သဘောပေါက်သွားသောအခါ 'ငါ' ဟုယူဆရန် အကြောင်းမရှိတော့ချေ။ ထိုအချိန်၌ 'ငါ'ဆိုသောအရာ မိမိသန္တာန်၌ ထင်ရှားမရှိတော့ကြောင်း ဆိုလို ခြင်းဖြစ်သည်။ အကျိုးဆက်ကား ယခင်အခါက နာကျင်ခံခက်မှုတို့ကို ခံစားခဲ့သော 'ငါ'ဟူသောအရာ မရှိတော့ချေ။ သို့ဖြစ်ဘိမူ မည်သူသည် ဆင်းရဲဒုက္ခကို ခံစားသနည်း -

> ဒုက္ခရှိသာရှိ၏။ ဒုက္ခကို ခံစားသူ မရှိ။ ပြုပြင်မှုရှိ၏။ ပြုလုပ်သူကား မရှိ။ ချုပ်ငြိမ်းမှု ရှိ၏။ ချုပ်ငြိမ်းသွားသူ မရှိ။ သွားရာလမ်းရှိ၏။ သွားတတ်သူကား မရှိ။ Vi.M.Tran. 622.
>
> ဒုက္ခမေဝ ဟိ၊ န ကောစိ ဒုက္ခိတော။
> ကာရကော န၊ ကိရိယာဝ ဝိဇ္ဇတိ။
> အတ္ထိ နိဗ္ဗုတိ၊ န နိဗ္ဗုတော ပုမာ။
> မဂ္ဂမတ္ထိ၊ ဂမကော န ဝိဇ္ဇတိ။ (ဝိသုဒ္ဓိ ၂၊ ၁၄၃။)

'ငါ့ကိုယ်' 'ငါ့ဟာ' ဟု ထင်ရှားသော 'ငါ'ဟူသည် မရှိဘဲ ယင်းသို့ မရှိသည်ကို ကမ္မဋ္ဌာန်းရှုမှတ်ခြင်းဖြင့် သိမြင်ပြီးဖြစ်ခြင်းကြောင့် ဒုက္ခကိုခံစားသူမရှိချေ။ အကယ်၍ 'ငါ'မရှိသော် ဒုက္ခကိုမည်သူခံစားမည်နည်း။ ယင်းနောက် စိတ်ပိုင်းဘဝ လွတ်မြောက်မှုဟုထင်ရှားသော ကိုယ်ဆင်းရဲနှင့် စိတ်ဆင်းရဲမှုလွတ်မြောက်ပြီး ငြိမ်းချမ်းမှုကို နားလည်နိုင်သည်။ ထို့ပြင် နိဗ္ဗာန်အား ဒုက္ခအဆုံး သံသရာအဆုံးဟု ယူဆသည်။ အမှန်သော် နိဗ္ဗာန်၏ ကိစ္စတစ်ရပ်မှာ စုတိစိတ်မှ ပဋိသန္ဓေစိတ်သို့ ကူးပြောင်းမှုကို ရပ်စဲပစ်ခြင်းဖြစ်သည်။ ယင်းပြန်လည်မွေးဖွားခြင်းသည် အကြောင်းတရားများနှင့် အခြေအနေများကြောင့် ဖြစ်ရသည်။ ဤဖော်ပြချက်၌ 'မပြုမပြင်အပ်သော (အသင်္ခတ)' ကဲ့သို့သော ဝေါဟာရသည် နိဗ္ဗာန်ဝေါဟာရအတွက် ဘာသာပြန်တစ်ခုဖြစ်ပုံရသည်။ သို့ဖြင့် ကမ္မဋ္ဌာန်းရှုမှတ်ခြင်းသည် စိတ်စေတသိက်တို့ အတူတူဖြစ်ပြီး ရပ်စဲပုံ၊ ဓမ္မကိုသဘောပေါက်ခြင်းဖြင့် အဖ္တတ္တဖြစ်စဉ်သည် မိမိကိုယ်ကိုမိမိ ဖျက်ဆီးသွားနိုင်ပုံနှင့် စိတ်ကိုစင်ကြယ်အောင်ပြုခြင်းဖြင့် အလိုရမ္မက်နှင့် မသိမှုအဝိဇ္ဇာတို့ ပျောက်ကွယ်သွားပုံတို့ကို သိမြင်ရန် အလွန်အရေးပါကြောင်း ယူဆရသည်[၃၃၄]။

ခဏတိုင်း အဝိဇ္ဇာကြောင့်ဖြစ်သော စိတ်ဆင်းရဲမှု သို့မဟုတ် မပျော်ရွှင်မှုမှ လွတ်မြောက်သော စိတ်စင်ကြယ်မှု၏ ကောက်မြတ်ပုံကို ခံစားနိုင်သောအခါ ၎င်း၏စိတ်သည် စင်ကြယ်ရန်စတင်ပြီး ခဏတိုင်းခဏတိုင်း ငြိမ်းချမ်းပျော်ရွှင်မှုရှိသော စိတ်ပိုင်းဘဝလွတ်မြောက်မှု၏ ကောင်းမြတ်ပုံကို သိရှိနိုင်လာသည်။ ငြိမ်းချမ်းမှုနှင့် ပျော်ရွှင်မှုသည် စိတ်ထဲမှ 'ငါ' ကို ဖယ်ရှားပစ်မှု၏အကျိုးဖြစ်သည်။ ယောဂီတို့၏စိတ်သည် စိတ်ပိုင်းဘဝငြိမ်းချမ်းသာယာမှု လွှမ်းမိုးထားသဖြင့် နောက်ဆုံးလွတ်မြောက်မှုသည် မဝေးတော့ဘဲ သန္တိသုခနိဗ္ဗာန်သည် ထိုနေရာတွင်ရှိ၏ဟု မျှော်လင့်စပြုလာသည်။ သို့ဖြင့် ဗုဒ္ဓဝါဒီယောဂီတို့သည် နိဗ္ဗာန်ကိုရရှိရန် ဖော်ပြပါနည်းလမ်းများကို လက်တွေ့အသုံးချကြပြီး လောကီဘာသာစကားများဖြင့် ဒဿနနည်းလမ်းမျှကိုသာ အသုံးချခြင်း မပြုကြချေ။

သို့တစေ ဤလေ့လာချက်သည် အဋ္ဌကထာဆရာများ၊ ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သည့် အဓိပ္ပာယ်ဖွင့်ဆိုသူများအား ကျေးဇူးတင်ရမည်ဖြစ်သည်။ အထူးသဖြင့် ကမ္မဋ္ဌာန်းရှုမှတ်မှုကို အကြောင်းပြု၍ ပါဠိတော်နည်းလမ်းများကို စနစ်တကျ ဖော်ပြခဲ့သည့် အလေးစားအပ်ဆုံးသော အဋ္ဌကထာဆရာကြီး အရှင်မဟာဗုဒ္ဓဃောသအား အထူးဂုဏ်ပြုဖော်ပြရမည်ဖြစ်သည်။ ဝိသုဒ္ဓိမဂ်နှင့် အခြားအဋ္ဌကထာကျမ်းများကဲ့သို့သော အရှင်မြတ်၏လက်ရာမွန်များသည် ထေရဝါဒဗုဒ္ဓဝါဒအတွက် ခေတ်သစ်တစ်ခုကို စတင်နိုင်သည်အထိ အရှင်မြတ်၏ ဗုဒ္ဓဝါဒအသိပညာနှင့် လက်တွေ့ကျွမ်းကျင်မှုကို ဖော်ပြသည်။ အရှင်မြတ်၏ကျမ်းစာများမရှိဘဲ ထေရဝါဒဗုဒ္ဓဘာသာသည် ယနေ့တိုင် တည်ရှိနိုင်လိမ့်မည်မဟုတ်ချေ။ အရှင်မြတ်

---

[၃၃၄] Rune E. A Johansson. *The Psychology of Nirvana*. (1969. Repring, New Your: Anchor Books Doubleday & Company, Inc., 1970), ၂၀.

၏ အဖွင့်ကျမ်းများသည် စိတ်ပိုင်းဘဝလွတ်မြောက်မှုနှင့် နောက်ဆုံးပန်းတိုင်သို့ ရောက်သည်အထိခေါ်ဆောင်သွားသော လမ်းညွှန်မြေပုံနှင့် ပမာတူသည်။

ဆွေးနွေးချက်၏ အဓိကရည်ရွယ်ချက်ကို အနှစ်ချုပ်ပါရစေ။ ဤလေ့လာချက်သည် ဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်များ၏ နိဗ္ဗာန်အဓိပ္ပာယ်ကောက်ယူပုံများကို ဝေဖန်ဆန်းစစ်ရန် ကြိုးပမ်းမှုဖြစ်၏။ ဗုဒ္ဓဝါဒီပညာရှင်တို့၏ ကျမ်းစာများမှာ စာတွေ့နှင့်လက်တွေ့လည်းဖြစ်နိုင်ဖွယ်ရှိသော လေ့လာသိရှိမှုမှတစ်ဆင့် ပါဠိတော်ကျမ်းဂန်များကို အခြေခံသည်ဟု ယူဆနိုင်၏။ ဗုဒ္ဓဝါဒီမဟုတ်သူများ၏ ကျမ်းစာများမှာမူ ၎င်းတို့၏အယူဝါဒရေးရာရှုမြင်မှုနှင့် ဒဿနဆိုင်ရာ ချဉ်းကပ်နည်းဖြင့် နိဗ္ဗာန်အကြောင်းကိုလေ့လာ၍ နားလည်မှုအပေါ်တွင် များစွာအခြေခံနိုင်ဖွယ်ရှိသည်။ သို့ဖြစ်၍ ဖော်ပြပါပုဂ္ဂိုလ်များ၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုများ၌ အကောင်းမြင်နှင့် အဆိုးမြင်ဖော်ပြချက်များ ပါဝင်ပတ်သက်နေသည်။ သို့တစေ ဤလေ့လာချက်သည် ယင်းဗုဒ္ဓဝါဒီနှင့် ဗုဒ္ဓဝါဒီမဟုတ်သူ ပညာရှင်တို့၏ နိဗ္ဗာန်အဓိပ္ပာယ်ဖွင့်ဆိုမှုများကို မှားသည်ဟု ဖြစ်စေ မှန်သည်ဟုဖြစ်စေ ဖော်ပြရန်မကြိုးပမ်းချေ။ တစ်ဖန်လည်း ပါဠိကျမ်းဂန်များမှာ များပြားလှသည့်ပြင် ဗုဒ္ဓဝါဒစာပေ ရင်းမြစ်များ ပေါများကြွယ်ဝလှသဖြင့် ဤလေ့လာချက်၌ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ ကျမ်းစာအားလုံး ပြည့်ပြည့်စုံစုံ ပါဝင်နိုင်ခြင်း မရှိပါ။

ဤလေ့လာချက်သည် ဗုဒ္ဓဝါဒလေ့လာမှု၌ အခြားသော အထက်တန်းကျကျ သုတေသနပြုမှုများကို ကူညီမည့်ပြင် နောက်ထပ်ဗုဒ္ဓဝါဒလေ့လာမှု တိုးတက်ရေးအတွက် ပါဠိတော်နည်းလမ်းများကို အသုံးချသည့်နည်းဖြင့် လေ့လာသူများအား ကူညီလိမ့်မည်ဟု မျှော်လင့်ပါသည်။ ဗုဒ္ဓဝါဒကမ္မဋ္ဌာန်းရှုမှတ်မှုကို စိတ်ဝင်စားသူများအတွက် ကမ္မဋ္ဌာန်းရှုမှတ်မှု၏ အကျိုးကျေးဇူးများကို ဖော်ပြထားသဖြင့် ၎င်းတို့အနေဖြင့် အနည်းဆုံးတော့ အခြေခံစကားလုံးများဖြင့် နိဗ္ဗာန်ဟူသော ဝေါဟာရ၏ သီအိုရီ လက်တွေ့နှင့် ဒဿနဆိုင်ရာ အတွေးအမြင်များကို စိတ်ဝင်စားနိုင်ရာသည်။ နောက်ဆုံးအနေဖြင့် ကျမ်းပြုသူ၏ သဘောထားမှာ တစ်စိတ်တစ်ဒေသအားဖြင့် နားလည်မှုသည် ဒဿနရှုထောင့်မှ ချဉ်းကပ်ခြင်းဖြင့် ဖြစ်နိုင်သော်လည်း ကမ္မဋ္ဌာန်းတရား ပွားများအားထုတ်ခြင်းဖြင့် ကိုယ်တိုင်တွေ့ကြုံသိရှိမှုမရှိဘဲ နိဗ္ဗာန်ဟူသောဝေါဟာရ၏ အဓိပ္ပာယ်မှန်ကို နားလည်လိမ့်မည်မဟုတ်ဟုဖြစ်သည်။

၀၀၀၀၀၀

နောက်ဆက်တွဲ (က)

**စိတ် ၈၉ ပါး**

**အကုသိုလ်စိတ် ၁၂**

**လောဘမူစိတ် ၈**

၁။ လောဘဟိတ်ရှိသော ပထမစိတ်

၂။ လောဘဟိတ်ရှိသော ဒုတိယစိတ်

၃။ လောဘဟိတ်ရှိသော တတိယစိတ်

၄။ လောဘဟိတ်ရှိသော စတုတ္ထစိတ်

၅။ လောဘဟိတ်ရှိသော ပဉ္စမစိတ်

၆။ လောဘဟိတ်ရှိသော ဆဋ္ဌမစိတ်

၇။ လောဘဟိတ်ရှိသော သတ္တမစိတ်

၈။ လောဘဟိတ်ရှိသော အဋ္ဌမစိတ်

**ဒေါသမူစိတ် ၂**

၉။ ဒေါသဟိတ်ရှိသော ပထမစိတ်

၁၀။ ဒေါသဟိတ်ရှိသော ဒုတိယစိတ်

**မောဟမူစိတ် ၂**

၁၁။ မောဟဟိတ်ရှိသော ပထမစိတ်
၁၂။ မောဟဟိတ်ရှိသော ဒုတိယစိတ်

**အဟိတ်စိတ် ၁၈**
**အကုသလဝိပါက်စိတ် ၇**
၁၃။ စက္ခုဝိညာဏ်စိတ်
၁၄။ သောတ ဝိညဏ်စိတ်
၁၅။ ဃာနဝိညဏ်စိတ်
၁၆။ ဇိဝှါဝိညဏ်စိတ်
၁၇။ ကာယဝိညဏ်စိတ်
၁၈။ သမ္ပဋိစ္ဆနစိတ်
၁၉။ သန္တီရဏစိတ်
**အဟိတ်ကုသလဝိပါက်စိတ် ၈**
၂၀။ စက္ခုဝိညာဏ်စိတ်
၂၁။ သောတ ဝိညဏ်စိတ်
၂၂။ ဃာနဝိညဏ်စိတ်
၂၃။ ဇိဝှါဝိညဏ်စိတ်
၂၄။ ကာယဝိညဏ်စိတ်
၂၅။ သမ္ပဋိစ္ဆနစိတ်
၂၆။ သောမနဿသန္တီရဏစိတ်
၂၇။ ဥပေက္ခာသန္တီရဏစိတ်
**အဟိတ်ကြိယာစိတ် ၃**
၂၈။ ပဥ္စဒွာရာဝဇ္ဇနစိတ်
၂၉။ မနောဒွာရာဝဇ္ဇနစိတ်
၃၀။ ဟသိတုပ္ပါဒစိတ်

**ကာမာဝစရသောဘနစိတ် ၂၄**
**မဟာကုသိုလ်စိတ် ၈**
၃၁။ မဟာကုသိုလ် ပထမစိတ်
၃၂။ မဟာကုသိုလ် ဒုတိယစိတ်
၃၃။ မဟာကုသိုလ် တတိယစိတ်
၃၄။ မဟာကုသိုလ် စတုတ္ထစိတ်
၃၅။ မဟာကုသိုလ် ပဉ္စမစိတ်
၃၆။ မဟာကုသိုလ် ဆဋ္ဌမစိတ်
၃၇။ မဟာကုသိုလ် သတ္တမစိတ်
၃၈။ မဟာကုသိုလ် အဋ္ဌမစိတ်
**မဟာဝိပါက်စိတ် ၈**
၃၉။ မဟာဝိပါက် ပထမစိတ်
၄၀။ မဟာဝိပါက် ဒုတိယစိတ်
၄၁။ မဟာဝိပါက် တတိယစိတ်
၄၂။ မဟာဝိပါက် စတုတ္ထစိတ်
၄၃။ မဟာဝိပါက် ပဉ္စမစိတ်
၄၄။ မဟာဝိပါက် ဆဋ္ဌမစိတ်

၄၅။ မဟာဝိပါက် သတ္တမစိတ်
၄၆။ မဟာဝိပါက် အဋ္ဌမစိတ်

**မဟာကြိယာစိတ် ၈**

၄၇။ မဟာကြိယာ ပထမစိတ်
၄၈။ မဟာကြိယာ ဒုတိယစိတ်
၄၉။ မဟာကြိယာ တတိယစိတ်
၅၀။ မဟာကြိယာ စတုတ္ထစိတ်
၅၁။ မဟာကြိယာ ပဥ္စမစိတ်
၅၂။ မဟာကြိယာ ဆဋ္ဌမစိတ်
၅၃။ မဟာကြိယာ သတ္တမစိတ်
၅၄။ မဟာကြိယာ အဋ္ဌမစိတ်

**ရူပါဝစရစိတ် ၁၅**

**ရူပကုသိုလ် ၅**

၅၅။ ကုသိုလ် ပထမဈာန်
၅၆။ ကုသိုလ် ဒုတိယဈာန်
၅၇။ ကုသိုလ် တတိယဈာန်
၅၈။ ကုသိုလ် စတုတ္ထဈာန်
၅၉။ ကုသိုလ် ပဥ္စမဈာန်

**ရူပဝိပါက် ၅**

၆၀။ ဝိပါက် ပထမဈာန်
၆၁။ ဝိပါက် ဒုတိယဈာန်
၆၂။ ဝိပါက် တတိယဈာန်
၆၃။ ဝိပါက် စတုတ္ထဈာန်
၆၄။ ဝိပါက် ပဥ္စမဈာန်

**ရူပကြိယာ ၅**

၆၅။ ကြိယာ ပထမဈာန်
၆၆။ ကြိယာ ဒုတိယဈာန်
၆၇။ ကြိယာ တတိယဈာန်
၆၈။ ကြိယာ စတုတ္ထဈာန်
၆၉။ ကြိယာ ပဥ္စမဈာန်

**အရူပစိတ် ၁၂**

**ကုသိုလ်စိတ် ၄**

၇၀။ ကုသိုလ် ပထမဈာန်
၇၁။ ကုသိုလ် ဒုတိယဈာန်
၇၂။ ကုသိုလ် တတိယဈာန်
၇၃။ ကုသိုလ် စတုတ္ထဈာန်

**ဝိပါက်စိတ် ၄**

၇၄။ ဝိပါက် ပထမဈာန်
၇၅။ ဝိပါက် ဒုတိယဈာန်
၇၆။ ဝိပါက် တတိယဈာန်

၇၇။ ဝိပါက် စတုတ္ထဈာန်

**ကြိယာစိတ် ၄**

၇၈။ ကြိယာ ပထမဈာန်
၇၉။ ကြိယာ ဒုတိယဈာန်
၈၀။ ကြိယာ တတိယဈာန်
၈၁။ ကြိယာ စတုတ္ထဈာန်

**လောကုတ္တရာစိတ် ၈**

**မဂ်စိတ် ၄**

၈၂။ သောတာပတ္တိ မဂ်စိတ်
၈၃။ သကဒါဂါမိ မဂ်စိတ်
၈၄။ အနာဂါမိ မဂ်စိတ်
၈၅။ အရဟတ္တ မဂ်စိတ်

**ဖိုလ်စိတ် ၄**

၈၆။ သောတာပတ္တိ ဖိုလ်စိတ်
၈၇။ သကဒါဂါမိ ဖိုလ်စိတ်
၈၈။ အနာဂါမိ ဖိုလ်စိတ်
၈၉။ အရဟတ္တ ဖိုလ်စိတ်

အထက်ပါဖော်ပြချက်မှာ အဘိဓမ္မတ္ထသင်္ဂဟကျမ်း (Ab-S, 2-14)နှင့် ယင်း၏ ဘိက္ခုဗောဓိ အင်္ဂလိပ်ဘာသာပြန် (Ac-Ab, 376-378)ကို ရည်ညွှန်းသည်။

နောက်ဆက်တွဲ (ခ)

**စေတသိက် ၅၂**

**အညသမာနစေတသိက် ၁၃**

**သဗ္ဗစိတ္တသာဓာရဏ ၇**

၁။ ဖဿ
၂။ ဝေဒနာ
၃။ သညာ
၄။ စေတနာ
၅။ ဧကဂ္ဂတာ
၆။ ဇီဝိတိန္ဒြိယ
၇။ မနသိကာရ

**ပကိဏ္ဏကစေတသိက် ၆**

၈။ ဝိတက္က
၉။ ဝိစာရ
၁၀။ အဓိမောက္ခ

၁၁။ ဝီရိယ
၁၂။ ပီတိ
၁၃။ ဆန္ဒ

**အကုသိုလ်စေတသက် ၁၄**
**အကုသလသာဓာရဏ ၄**

၁၄။ မောဟ
၁၅။ အဟိရိက
၁၆။ အနောတ္တပ္ပ
၁၇။ ဥဒ္ဓစ္စ

**အကုသိုလ်စေတသိက် ၁၀**

၁၈။ လောဘ
၁၉။ ဒိဋ္ဌိ
၂၀။ မာန
၂၁။ ဒေါသ
၂၂။ ဣဿာ
၂၃။ မစ္ဆရိယ
၂၄။ ကုကုစ္စ
၂၅။ ထိန
၂၆။ မိဒ္ဓ
၂၇။ ဝိစိကိစ္ဆာ

**သောဘနစေတသက် ၂၅**
**သောဘနသာဓာရဏစေတသိက် ၁၉**

၂၈။ သဒ္ဓါ
၂၉။ သတိ
၃၀။ ဟိရီ
၃၁။ ဩတပ္ပ
၃၂။ အလောဘ
၃၃။ အဒေါသ
၃၄။ တတြမဇ္ဈတ္တတာ
၃၅။ ကာယပဿဒ္ဓိ
၃၆။ စိတ္တပဿဒ္ဓိ
၃၇။ ကာယလဟုတာ
၃၈။ စိတ္တလဟုတာ
၃၉။ ကာယမုဒုတာ
၄၀။ စိတ္တမုဒုတာ
၄၁။ ကာယကမ္မညတာ
၄၂။ စိတ္တကမ္မညတာ
၄၃။ ကာယပါဂုညတာ
၄၄။ စိတ္တပါဂုညတာ
၄၅။ ကာယုဇုကတာ
၄၆။ စိတ္တုဇုကတာ

ဝိရတီစေတသိက် ၃
၄၇။ သမ္မာဝါစာ
၄၈။ သမ္မာကမ္မန္တ
၄၉။ သမ္မာအာဇီဝ
**အပ္ပမညာ စေတသိက် ၂**
၅၀။ ကရုဏာ
၅၁။ မုဒိတာ
**ပညိန္ဒြိယစေတသိက် ၁**
၅၂။ ပညာ

အထက်ပါဖော်ပြချက်မှာ အဘိဓမ္မတ္ထသင်္ဂဟကျမ်း (Ab-S, 2-14)နှင့် ယင်း၏ ဘိက္ခုဗောဓိ အင်္ဂလိပ်ဘာသာပြန် (Ac-Ab, 376-378)ကို ရည်ညွှန်းသည်။

**ပါဠိအဘိဓာန်ငယ်**

| | |
|---|---|
| အဘာဝ | မရှိခြင်း (nothingness) |
| အဘိဓမ္မာပိဋက | အဘိဓမ္မာပိဋကတ် (Basket of Philosophy) |
| အဒိဋ္ဌသတ္တ | မမြင်အပ်သော သတ္တဝါ (invisible living being) |
| အဓိဋ္ဌာန | အဓိဋ္ဌာန်ပြုခြင်း (resolution) |
| အဓိဋ္ဌာနဝသီ | အဓိဋ္ဌာန်ခြင်း၌ ကျွင်းကျင်ခြင်း (mastery in resolving) |
| အာဟာရ | အစားအစာ (food) |
| အကုသလစိတ္တ | အကုသိုလ်စိတ် (unwholesome-consciousness) |
| အမတ | မသေခြင်း (deathless) |
| အနုပါဒိသေသနိဗ္ဗာန | ခန္ဓာအကြွင်းအကျန်မရှိသောနိဗ္ဗာန် (Biological liberation after cessation of aggregates) |
| အနာဒိကလောက | အစမထင်သော လောက (endless beginning of ghe world) |
| အနာဂါမိ | အနာဂါမ်ပုဂ္ဂိုလ် (Non-returner, noble being at third stage of the Novle Path) |
| အနာလယ | တွယ်တာမှုမရှိခြင်း (detachment) |
| အနတ္တ | ငါကောင်ကိုယ်ကောင်မရှိခြင်း (insubstantiality of phenomena, non-self) |
| အဏ္ဍဇ | ဥ၌ဖြစ်သောသတ္တဝါ (egg-born beings) |
| အနိစ္စ | မမြဲခြင်း (impermanence) |

| | |
|---|---|
| အနိမိတ္တ | အသွင်သဏ္ဍာန်မဲ့ (signless) |
| အန္တရကပ္ပ | အကြားကာလကပ်ကမ္ဘာ (interim aeon) |
| အပါယ | ချမ်းသာမဲ့ခြင်း (misery, woeful state, devoid of happiness) |
| အပ္ပနာသမာဓိ | အပ္ပနာသို့ရောက်သောသမာဓိ (absorption, full concentration) |
| အပ္ပဏိဟိတ | တောင့်တမှုကင်းခြင်း (desireless) |
| အရဟန္တ | ရဟန္တာပုဂ္ဂိုလ် (enlightened being, noble being at fouth stage of the Noble Path) |
| အရဟတ္တမဂ္ဂဖလဉာဏ | အရဟတ္တမဂ်ဉာဏ် ဖိုလ်ဉာဏ် (supramundane wisdom, enlightenment) |
| အရူပဘဝ | အရူပဘုံ၌ ဖြစ်သော ဘဝ (existence of the formless) |
| အရူပဘူမိ | အရူပဘုံ (the formless sphere) |
| အသင်္ခတ | မပြုပြင်အပ်သော (unconditioned, non-conditioned) |
| အသင်္ချေယျကပ္ပ | အသင်္ချေယျကပ် (one incalculable aeon) |
| အသေသဝိရာဂ | တဏှာအကြွင်းမဲ့ချုပ်ခြင်း (complete cessation of craving) |
| အသောက | မစိုးရိမ်ခြင်း (sorroless ) |
| အသုဘ | ခန္ဓာကို၏မတင့်တယ်ခြင်း (impure, not beautiful) |
| အသုရာ | အသုရာနတ်တစ်မျိုး (demon, titan) |
| အတက္ကာဝစရ | မကြံစည်နိုင်သောအရာ (inaccessible to discursive thought) |
| အတ္တ | ကိုယ်ကောင် ဝိညာဉ်ကောင် (self, soul) |
| အဝိဇ္ဇာ | မသိခြင်း (ignorance) |
| အာစိဏ္ဏကမ္မ | အလေ့အကျင့်ပြုအပ်သောကံ(habitual Kamma) |
| အာနာပါနသတိ | ထွက်လေဝင်လေကို သတိဖြင့် ရှုမှတ်ခြင်း (awareness of inhaling and exhaling) |
| အာရမ္မဏ | အာရုံ (object) |
| အာဝဇ္ဇနဝသီ | ဆင်ခြင်မှု၌ကျွမ်းကျင်ခြင်း (mastery in adverting) |
| အာသဝ | အာသဝေါသတရား (taint, canker) |
| အာသဝက္ခယ | အာသဝေါသတရားတို့၏ကုန်ခြင်း (cessation of canker or taint) |
| အာသန္နကကမ္မ | သေခါနီး၌ပြုအပ်သောကံ (death-proximate kamma) |
| ဣဿာ | မနာလိုခြင်း (envy, jealousy) |
| ဥစ္ဆေဒဒိဋ္ဌိ | ပြတ်စဲ၏ဟူသောအယူမှား (annihilationism) |
| ဥဒ္ဓစ္စ | စိတ်ပျံ့လွင့်ခြင်း (restlessness) |
| ဥဂ္ဂဟနိမိတ္တ | ဥဂ္ဂဟနိမိတ် (learning sign) |
| ဥပစာရသမာဓိ | အနီးဖြစ်သော သမာဓိ (neighborhood concentration) |
| ဥပါဒါန | စွဲလမ်းမှု (clinging) |
| ဥပါယ | နည်းလမ်း (methods) |
| ဥပါယာသ | ပြင်းစွာပူဆွေးခြင်း (despair) |
| ဥပ္ပါဒ | ဖြစ်ဆဲခဏ (arising) |
| ဥတု | ရာသီဥတု (temperature, weather) |
| ဧကဂ္ဂတာ | စိတ်တည်ကြည်ခြင်း (concentration, one-pointedness of mind) |
| ဩပပါတိက | ဥပပါတ်ပဋိသန္ဓေဖြင့်မွေးဖွားသူ (accidental, spontaneously born) |
| ကာမဘဝ | ကာမဘုံ၌ဖြစ်ခြင်း (existence of desire) |
| ကာမဘူမိ | ကာမဘုံ (sphere of desire) |
| ကာမစ္ဆန္ဒ | ကာမဂုဏ်အလိုဆန္ဒ (sensuous desire, sensory desire) |
| ကမ္မ | စေတနာဖြင့်လုပ်ဆောင်မှု (action, volitional energy) |
| ကမ္မနိမိတ္တ | ကမ္မနိမိတ် (sign of kamma) |
| ကမ္မနိယာမ | ကမ္မထုံးစံ (law of kamma) |

| | |
|---|---|
| ကမ္မဋ္ဌာန | ကမ္မဋ္ဌာန်း (meditation, workplace) |
| ကင်္ခါဝိတရဏဝိသုဒ္ဓိ | ယုံမှားသံသယမှစင်ကြယ်ခြင်း(prrification by overcomign doubt) |
| ကပ္ပ | ကမ္ဘာ (aeon) |
| ကဋတ္တာကမ္မ | ကဋတ္တာကံ (reserve kamma) |
| ကာယဂတာသတိ | ကိုယ်ခန္ဓာ၌ သတိဖြင့်ရှုမှတ်ခြင်း (awareness of the bodily actions) |
| ကိလေသာ | စိတ်၏အညစ်အကြေး (defilement) |
| ကုက္ကုစ္စ | မတည်ငြိမ်သောစိတ် (remorse, worry ) |
| ကုသလ | ကုသိုလ် (wholesome) |
| ကြိယစိတ္တ | ကြိယာစိတ် (funtional consciousness) |
| ခန္ဓာ | ကိုယ်ခန္ဓာ (aggregate, group) |
| ခဏိကသမာဓိ | ခဏတိုင်းဖြစ်သောတည်ကြည်မှု (momentary concentration) |
| ခယ | ကုန်ခြင်း (deatruction, absoulte extinction) |
| ဂမ္ဘီရ | နက်နဲသော (profound) |
| ဂရုကကမ္မ | ကြီးလေးသောကံ (weighty kamma) |
| ဂတိ | သွားရောက်မည့်ဘဝ (going, transmigration) |
| ဂတိနိမိတ္တ | သွားရောက်မည့်ဘဝအရိပ်အရောင် (sign of destiny) |
| စရိတ | စရိုက် (personal nature, temperament) |
| စိတ္တ | စိတ် (consciousness) |
| စိတ္တဝိသုဒ္ဓိ | စိတ်စင်ကြယ်ခြင်း (purification of mind) |
| စုတိစိတ္တ | စုတိစိတ် (death consciousness) |
| စေတနာ | စေတနာ (volition) |
| စေတသိက | စေတသိက် (mental factor, mental state) |
| ဇလာဗုဇ | အမိဝမ်း၌ကိန်းသော သတ္တဝါ (womb-born beings) |
| ဇရာ | အိုခြင်း (decay, aing, old age ) |
| ဇာတိ | ပဋိသန္ဓေနေခြင်း (birth) |
| ဈာန | ဈာန်တရား (absorption, highly developed state of concentration) |
| ဌိတိ | တည်ဆဲခဏ (presence) |
| တဏှာ | လိုချင်တပ်မက်မှု (desire) |
| တိပိဋက | ပိဋကတ်သုံးပုံ (Three Baskets) |
| တိရစ္ဆာန | တိရစ္ဆာန် (animals) |
| တုစ္ဆ | အချည်းနှီး (emptiness) |
| ထိန | ထိုင်းမှိုင်းခြင်း (sloth) |
| ထေရဝါဒ | မထေရ်ကြီးတို့၏ အယူ (Way of the Elders, Doctrine of the Elders) |
| ဒါန | လှူဒါန်းခြင်း (generosity) |
| ဒေဝ | နတ် (heavenly being, god) |
| ဒေဝလောက | နတ်လောက (heavenly world) |
| ဒိဋ္ဌသတ္တ | မြင်အပ်သတ္တဝါ (visible living being) |
| ဒိဋ္ဌိဝိသုဒ္ဓိ | အယူစင်ကြယ်ခြင်း (purification of view) |
| ဒေါမနဿ | စိတ်ဆင်းရဲခြင်း (grief, unpleasant mental feeling) |
| ဒေါသ | အမုန်းအတရား (hate) |
| ဒေါသစရိတ | ဒေါသစရိုက် (hating temperament) |
| ဒုဒ္ဒသ | မြင်နိုင်ခဲသော (hard to see) |
| ဒုဂ္ဂတိဘဝ | မကောင်းသော ဘုံဌာန (bad existence, suffering world) |

| | |
|---|---|
| ဒုက္ခ | ဆင်းရဲခြင်း (suffering, unpleasant bodily or mentally feeling) |
| ဒုက္ခနိရောဓသစ္စာ | ဒုက္ခချုပ်ကြောင်း အမှန်တရား (Truth of Cessation of Suffering) |
| ဓမ္မဝိသေသ | တရားထူး (essence of dhamma) |
| ဓုတင် | ဓုတင်အကျင့် (ascetic, austere, shaking of defilements) |
| နာမ | နာမ်တရား (mind) |
| နေယျတ္ထ | ဆောင်၍သိအပ်သောအနက် (implicit meaning, inferred meaning) |
| နိဗ္ဗာန | နိဗ္ဗာန် (absolute peace, extinction of, cessation fo ) |
| နိစ္စ | တည်မြဲခြင်း (permanent, ageless) |
| နိရယ | ငရဲ (hell) |
| နိရောဓသမာပတ္တိ | နိရောဓသမာပတ် (attainment of cessation) |
| နီတတ္ထ | တိုက်ရိုက်အဓိပ္ပာယ် (explicit meaning or derect menaing) |
| နီဝရဏ | ပိတ်ပင်တားဆီးတတ်သော တရား (hindrance) |
| ပစ္စဝေက္ခဏာဝသီ | ဆင်ခြင်ခြင်း၌ ကျွမ်းကျင်ခြင်း (mastery in reviewing) |
| ပစ္စုပဋ္ဌာန | ပစ္စုပဋ္ဌာန် (manifestation) |
| ပဒဋ္ဌာန | နီးသောအကြောင်းတရား (proximate cause) |
| ပဉ္စာနန္တရိယကမ္မ | သေသည်၏အခြားမဲ့၌ အကျိုးပေးသောကံ (five heinous actions, or crimes) |
| ပဏိဟိတ | ဆုံးဖြတ်ခြင်း (determination) |
| ပညာ | သိမြင်ခြင်း (wisdom) |
| ပရမတ္ထသစ္စာ | မဖောက်ပြန်သောအမှန်တရား (ultimate truth) |
| ပါရမီ | ပြည့်စုံခြင်း (perfection) |
| ပရိဒေဝ | ပူဆွေးခြင်း (lamentation) |
| ပရိကမ္မနိမိတ္တ | ပရိကမ္မနိမိတ် (preliminary sign) |
| ပရိယတ္တိ | သင်ကြားလေ့လာမှု (theoretical aspects, leaning the doctrine) |
| ပဋိစ္စ | အကြောင်းပြု၍ (dependent on) |
| ပဋိစ္စသမုပ္ပါဒ | အကြောင်းကြောင့်ဖြစ်သောတရား (Dependent Origination) |
| ပဋိဃ | မကောင်းစိတ် (ill will) |
| ပဋိပတ္တိ | အကျင့် (practical aspects, practice of meditation) |
| ပဋိသန္ဓိစိတ္တ | ပဋိသန္ဓေစိတ် (rebirth-linking consciousness) |
| ပဋိဝေဓ | ထိုးထွင်း၍သိမြင်ခြင်း (spiritual wisdom, realizing its goal) |
| ပုထုဇ္ဇန | ပုထုဇဉ် (worldling, ordinary person) |
| ပေတ | ပြိတ္တာ (hungry ghost) |
| ဖလ | အကျိုးတရား (fruition) |
| ဖဿ | တွေ့ထိခြင်း (contact) |
| ဗောဓိသတ္တ | ဘုရားလောင်း (Buddha-to-be) |
| ဗြဟ္မာ | ဗြဟ္မာ (mighty God, supreme Soul) |
| ဗုဒ္ဓိစရိတ | ပညာစရိုက် (intelligent temperament) |
| ဗျာပါဒ | မကောင်းစိတ် (ill will) |
| ဘင်္ဂ | ပျက်ခြင်း (dissolution) |
| ဘဝ | တည်ရှိခြင်း (lfige, existence) |
| ဘာဝနာ | ပွားများအားထုတ်ခြင်း (mental development) |
| ဘဝင်္ဂစိတ္တ | ဘဝင်စိတ် (life-continuum consciousness) |
| ဘယ | ဘေး၊ ကြောက်ခြင်း (danger, fear) |
| ဘိက္ခု | ရဟန်း (monk) |

| | |
|---|---|
| ဘူမိ | ဘုံဌာန (sphere) |
| မစ္ဆရိယ | ဝန်တိုစိတ် (avarice) |
| မဂ္ဂ | လမ်းစဉ် (path) |
| မဂ္ဂဖလဉာဏ | မဂ်ဉာဏ် ဖိုလ်ဉာဏ် (path and fruition knowledge) |
| မဟာကပ္ပ | မဟာကပ် (treat aeon) |
| မဟာပရိနိဗ္ဗာန | ဗုဒ္ဓပရိနိဗ္ဗာန်စံခြင်း (final Nibbana of the Buddha) |
| မဟာယာန | ယာဉ်ကြီး (Great Vehicle) |
| မာန | ထောင်လွှားခြင်း (conceit) |
| မနုဿ | လူသား (human beings) |
| မရဏ | သေခြင်း (death) |
| မိစ္ဆာဒိဋ္ဌိ | အယူမှား (wrong view) |
| မိဒ္ဓ | ငိုက်မျဉ်းခြင်း (torpor) |
| မောဟ | မသိခြင်း (delusion) |
| မောဟစရိတ | မောဟစရိုက် (deluded temperament) |
| မုတ္တိ | လွတ်မြောက်ခြင်း (liberation) |
| ယာနိက | ယာဉ်ရှိသူ (vehicle) |
| ရသ | လုပ်ဆောင်မှု (function, taste) |
| ရာဂ | အလိုရမ္မက် (lust) |
| ရာဂစရိတ | ရာဂစရိုက် (greedy temperament) |
| ရူပ | ရုပ်တရား (matter) |
| ရူပဘဝ | ရုပ်ရှိဘဝ (existence of form) |
| ရူပဘူမိ | ရုပ်ရှိဘုံဌာန (sphere of form) |
| လက္ခဏ | လက္ခဏာ (chareacter, characteristic) |
| လောဘ | အလိုရမ္မက် (greed) |
| လောကုတ္တစိတ္တ | လောကုတ္တရာစိတ် (supramundane consciousness, transecndental state) |
| လောကုတ္တရမဂ္ဂစိတ္တ | လောကုတ္တရာမဂ်စိတ် (Noble Path consciousness ) |
| ဝဋ္ဋ | ဘဝသံသရာ (round of existence) |
| ဝေဒနာ | ခံစားမှု (feeling, sensation) |
| ဝေဒယိတသုခ | ခံစားမှုရှိချမ်းသာ (happiness with feeling) |
| ဝိစာရ | အာရုံသို့ရှေ့ရှုတင်ခြင်း (sustained application of mind, discursive thinking) |
| ဝိစိကိစ္ဆာ | သို့လောသို့လော တွေးတောခြင်း (doubt, skepticism) |
| ဝိမုတ္တိ | လွတ်မြောက်မှု (liberation) |
| ဝိနယပိဋက | ဝိနည်းပိဋကတ် (Basket of Discipline) |
| ဝိညာဏ | စိတ်ဝိညာဏ် (consciousness) |
| ဝိပါက | အကျိုး (effect, result) |
| ဝိပလ္လာသ | ဖောက်ပြန်သောအမြင် (hallucination, perversion) |
| ဝိပဿနာ | အထူးထူးအပြားပြားရှုမှတ်ခြင်း (insight meditation) |
| ဝိပဿနာပညာ | ဝိပဿနာအားထုတ်၍ရရှိသော အသိဉာဏ် (insight wisdom) |
| ဝီရိယ | လုံ့လအားထုတ်မှု (effort) |
| ဝိသုဒ္ဓိမဂ္ဂ | စင်ကြယ်သောလမ်းစဉ် (path of purification) |
| ဝိတက္က | ကြံစည်တွေးတောခြင်း (thought, initial application of mind) |
| ဝိတက္ကစရိတ | ဝိတက်စရိုက် (speculative temperament) |
| ဝီထိ | ဖြစ်စဉ် (process) |

| | |
|---|---|
| ဝုဋ္ဌာနဝသီ | သမာပတ်မှထခြင်း၌ ကျွမ်းကျင်ခြင်း (mastery in emerging) |
| သဥပါဒိသေသနိဗ္ဗာန | ခန္ဓာအကြွင်းအကျန်ရှိနိဗ္ဗာန် (psychological liberation from defilement) |
| သဘာဝ | တည်မြဲသော သဘောတရား (intrinsic nature) |
| သစ္စ | အမှန်တရား (truth) |
| သဒ္ဓါ | ယုံကြည်မှု (faith) |
| သဒ္ဓါစရိတ | သဒ္ဓါစရိုက် (faithful temperament) |
| သကဒါဂါမိ | သကဒါရဂါမ်ပုဂ္ဂိုလ် (Once-returner, noble person at second stage of Noble Path six wense basses) |
| သဠာယတန | အာယတနခြောက်ပါး (six sense bases) |
| သမာဓိ | တည်ကြည်မှု (concentration) |
| သမာပဇ္ဇနဝသီ | ဝင်စားမှု၌ကျွမ်းကျင်ခြင်း (mastery in attaining) |
| သမထ | သမထကမ္မဋ္ဌာန်း (trnquility meditation) |
| သမ္မာအာဇီဝ | မှန်သောအသက်မွေးမှု (Right Livelihood) |
| သမ္မာဒိဋ္ဌိ | မှန်သောအမြင် (Right View) |
| သမ္မာကမ္မန္တ | မှန်သောအလုပ် (Right Action) |
| သမ္မာသမာဓိ | မှန်သော တည်ကြည်မှု (Right Concentration) |
| သမ္မာသင်္ကပ္ပ | မှန်သောအကြံ (Right Intention, Right Thought) |
| သမ္မာသတိ | မှန်သော သတိ (Right Mindfulness) |
| သမ္မာဝါစာ | မှန်သောစကား (Right Speech) |
| သမ္မာဝါယာမ | မှန်သောအားထုတ်မှု (Right Effort) |
| သမ္မုတိသစ္စာ | နေ့စဉ်ဘဝအမှန်တရား (conventional truth) |
| သံသာရ | ဘဝကြိမ်ဖန်ဖြစ်ရခြင်း (the cycle of birth and death ro endless cycle of existences) |
| သံသေဒဇ | စွတ်စိုနေရာတွင် မွေးဖွားခြင်း (moisture-born beings) |
| သမုဒယ | တွယ်နှောင်ခြင်း (desire) |
| သမုပ္ပါဒ | ဖြစ်ပေါ်လာခြင်း (arising, origination) |
| သံယောဇန | သံယောဇဉ် (fetter) |
| သင်္ခါရ | နာမ်ခန္ဓာများ (menatal formation) |
| သင်္ခတ | ပြုပြင်ခံသဘောတရား (conditioned, compounded) |
| သညာ | မှတ်သားခြင်း (perception) |
| သန္တိ | ငြိမ်းအေးခြင်း (peace) |
| သန္တိသုခ | ခံစားမှုမဲ့ချမ်းသာမှု (happiness without feeling) |
| သဿတ | ထာဝတည်မြဲခြင်း (eternal) |
| သဿတဒိဋ္ဌိ | ထာဝတည်မြဲခြင်းအယူမှား (eternity view) |
| သတိ | အဖန်ဖန်အောက်မေ့ခြင်း (mindfulness) |
| သတိပဋ္ဌာန | သတိအခြခံတရား (four foundations of mindfulness) |
| သတ္တ | သတ္တဝါ (living being) |
| သီလ | ကိုယ်ကျင့်တရား (morality, virtue) |
| သီလဝိသုဒ္ဓိ | ကိုယ်ကျင့်တရားစင်ကြယ်ခြင်း (purification of virtue) |
| သီလဗ္ဗတပရာမာသ | အယူမှားကို စွဲလမ်းခြင်း (adherence to rules and rituals) |
| သောက | စိုးရိမ်ခြင်း (worrow) |
| သောတာပန္န | သောတာပန်ပုဂ္ဂိုလ် (Stream-winner, noble person at first stage of the Noble Path) |
| သုဂတိဘဝ | ကောင်းသောဘဝ (good existence, happy world) |
| သုခ | ချမ်းသာ (happiness) |
| သုညတ | ဆိတ်သုံးခြင်း (void, emptiness) |

| | |
|---|---|
| သုတ္တန္တပိဋက | သုတ္တန္တပိဋကတ် (Basket fo Doctrines) |
| ဟေတု | အကြောင်းတရား (root, cause ) |

## Bibliography

### A. Primary Sources: Texts and Translations


*Anguttara-Pali, Anguttara-Nikaya.* vols. I, II, III, Rangoon, Bruma: Department of Religious Affairs, 1994.

Anuruddha-ther, Bakkanta. *Abhidhammattha-sangaha-Pali*. Rangoon, Bruma: Department of Religious Affairs, 1993.

*Apadana Pali, Khuddaka-Nikaya*. Vol. II. Rangoon, Bruma: Department of Religious Affairs, 1991.

Asanga. *Abhidharmasamuccaya: The Compendiun of the Higher Teaching (Philosophy).* Translated by Sara Boin-Webb from the French translation of Walpola Rahula. 1971. repring, Fremont, California: Asian Humanities Press, 2001.

Bodhi, Bhikkhu, trans. *The Connected Discourses of the Buddha: A New Translation of the Samyutta Nikaya*. Vols. I and II. Boston: Wisdom Publications, 2000.

Buddhaghosa-thera, Baddanta. *Khuddakapatha-atthakatha.* Rangoon, Bruma: Department of Religious Affairs, 1958.

____. *Silakkhandha-vagga (Sumangalavilasini) atthakatha*. Rangoon, Bruma: Department of Religious Affairs, 1973.

____. *Sammohavinodani (Vibhanga) Atthakatha*. Rangoon, Bruma: Department of Religious Affairs, 1985.

____. *Vinaya Mah-vagga-atthakatha, Vinaya-Pitaka*. Rangoon, Bruma: Department of Religious Affairs, 1986.

____. *Smratthapakasani (Samyutta) atthakatha*. Vols. I, II, III. Rangoon, Bruma: Department of Religious Affairs, 1987.

____. *Dhammapada-atthakatha*. Vols. I and II. Rangoon, Bruma: Department of Religious Affairs, 1994.

____. *Dhammasangani-atthakatha*. Rangoon, Bruma: Department of Religious Affairs, 1992.

____. *Mahava-atthakatha, Digha-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1992.

____. *Pancapakarana-atthakatha*. Rangoon, Bruma: Department of Religious Affairs, 1992.

____.*Visuddhimagga-atthakatha*. Vols. I and II. Rangoon, Bruma: Department of Religious Affairs, 1993.

____. *Pariva-atthakatha*. *Vinaya Pitaka*. Rangoon, Bruma: Department of Religious Affairs, 1996.

*Silakkhandhavagga-Pali, Digha-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1993.

*Mahaniddeasa-Pali, Khuddakanikaya*. Rangoon, Bruma: Department of Religious Affairs, 1990.

*Culavagga-Pali, Vinayapitaka.* Rangoon, Bruma: Department of Religious Affairs, 1995.

*Dhammapada, Udana, Itbuttaka, Suttanipata-Pali, Khuddaka-Nikaya.* Rangoon, Bruma: Department of Religious Affairs, 1972.

Dhammapala-thera, Bhaddanta. *Paramattha Dipani. Udana & Itivuttaka-atthakatha*. Rangoon, Bruma: Department of Religious Affairs, 1958.

____. *Paramattha Dipani Theragatha & Therigatha-atthakatha.*Rangoon, Bruma: Department of Religious Affairs, 1959.

____.*Visuddhimagga-mahatika*. Vols. I and II. Rangoon, Bruma: Department of Religious Affairs, 1997.

Ehara, N.R.M., Soma Thera, and Kheminda Thera, trans. *The Path of Freedom: Vimuttimagga*. 1961. Reprint, Kandy, Sri Lanka:Buddhist Publication Society. 1995.

Greland, John D., trans. *The Itivuttaka: The Buddha's Sayings*. Kandy, Sri Lanka: Buddhist Publication Society, 1991.

*Itivuttaka Pali, Khuddaka-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1972.

*Kathavatthu-Pali, Abhidhamma-Pitaka*. Rangoon, Bruma: Department of Religious Affairs, 1991.

*Khandhavgga-Pali, Samyutta-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1991.

*Khuddapatha-Pali, Khuddaka-Nikaya.* Rangoon, Bruma: Department of Religious Affairs, 1972.

Law, Bimala Charan, trans. *Designation of Human Types: Puggala-pannatti*. 1924. reprinted, London: Pali Text Society, 1969.

Lwin, Tin U. and Oo, Tin U, trns. *The Great Chronicle fo Buddhas*. Vol. III. Malaysia: A SBVMS Pulication, 1998.

_____. *The Great Chronicle fo Buddhas*. Vol.I, Part I & Part II. Malaysia: A SBVMS Pulication, 1998.

Mahanama-thera, Baddanta. *Saddhammappakasini: Patisambhidamagga-atthakatha*. Rangoon, Bruma: Department of Religious Affairs, 1985.

*Mahaniddesa Pali, Khuddaka-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1991.

*Maha-vagga Pali, Digha-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1993.

*Maha-vagga Pali, Vinaya-Pitaka, Khuddaka-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1972.

*Maha-vagga SamyuttaPali, Samyutta-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1991.

Mendis, N. K. G., ed. *The Questions of King Milinda: An Abrudgement fo the Minlindapanha*. Kandy, Sri Lanka: Buddhist Publication Society,1993.

*Milindapanha Pali, Khuddaka-Nikaya*. Rangoon, Bruma: Department of Religious Affairs,1991.

Moggallana-Mahathera. *Abhidhanappadipika.* Rangoon, Bruma: Department of Religious Affairs,1990.

*Mulapannasa-Pali, Majjhima-Nikaya*.Rangoon, Bruma: Department of Religious Affairs,1993.

Myint Swe, U. *Miilnda and Shin Nagathein.* Rangoon, Navarat Press,1990.

Nanabhivamsa, Bhaddanta. *Silakkhandhavagga-abhinava-tika.* Rangoon, Bruma: Department of Religious Affairs,1963.

Nanamoli, Bhikkhu. *Mindfulness of Breathing: Buddhist Texts from the Pali Canon and Extracts from the Pali Commentries*. Kandy, Sri Landka: Buddhist Publication Society, 1982.

Nanamoli, Bhikkhu. trns. *The Path of Purification: Visuddhimagga.* 1956. Reprint, Kandy, Sri Landka: Buddhist Publication Society, 1982.

Nanamoli, Bhikkhu & Bhikkhu Bodhi. *The Middle Length Discourses of the Buddha: A New translation fo the Majjhima Nikaya*. Boston: Wisdom Pullications. 1995.

Nandiya-thera, U. *Nibbanagagga-dipani*. Rangoon: Hamsavdi-pitakat Press, 1957.

Narada, Maha Thera, trans. *A Mannual aof Abhidhamma.* Malaysia: Buddhist Missionary Society, 1979.

*Netti Pali, Khuddaka-Nikaya*. Rangoon, Bruma: Department of Religious Affairs,1985.

*Nidana-vagga Samyutta Pali, Samyutta-Nikaya*. Rangoon, Bruma: Department of Religious Affairs,1991.

Nanamoli, Bhikkhu & Bhikkhu Bodhi. *The Numerical Discourses of the Buddha: A Anthology of Suttas from the Anguttara Nikaya*. Boston: Wisdom Pullications. 1995.

*Pariva-Pali*. *Vinaya Pitaka*. Rangoon, Bruma: Department of Religious Affairs, 1995.

*Pathikavagga Pali*. *Dighanikaya*. Rangoon, Bruma: Department of Religious Affairs, 1986.

*Pathikavagga-atthakatha*. *Digha-Nikaya*. Rangoon, Bruma: Department of Religious Affairs, 1986.

*Patisambhidamagga Pali, Khuddaka-Nikaya*. Rangoon, Bruma: Department of Religious Affairs,1981.

Poranacariya-thera, *Apada-atthakatha*. Rangoon, Bruma: Department of Religious Affairs, 1959.

Puggalapannatti-atthakatha. London> Pali Text Society, 1969.

*Sagatha-vagga Samyutta Pali, Samyutta-Nikaya*. Rangoon, Bruma: Department of Religious Affairs,1991.

*Salayatana-vagga Samyutta Pali, Samyutta-Nikaya*. Rangoon, Bruma: Department of Religious Affairs,1991.

Sayadaw Ariyathea. *Visuddhimagga Ayatha*. Rangoon: Win Mor Oo Prss, 1995.

Sayadaw, Ashin Janakabhivamsa. *Aghidhammattha-Sangaha-basa-tika.* Rangoon, Bruma: Department of Religious Affairs,1979.

____. *Kathavatthu-atthakatha-bhathatika*. Rangoon, Bruma: Department of Religious Affairs,1987.

____. *Abhidhammtthasangaha-nissaya*. Rangoon, Bruma: Department of Religious Affairs,1990.

Sayadaw, Ledi. *Ledidipani.* Vols I & II. Rangoon, Bruma: Department of Religious Affairs,1966.

____. *Nibbanadipani*. Rangoon, Bruma: Department of Religious Affairs,1975.

Sayadaw, Mahasi. *Translationf of Visuddhimagga-atthakatha.* Vols. I, II, III & IV. Rangoon: Buddhasasana-nuggaha Org. Press, 1989.

____. *Visuddhimagga-mahatika-nissaya.* Vols. III & IV. Rangoon: Buddhasasana-nuggaha Org. Press, 1989.

____. *Nibbanapatisamyuttakatha: On the Nature of Nibbana*. Kuala Lumpur, Malaysia: Subang Jaya Buddhist Association, 1992.

____. Discourse on Nibbana. Rangoon: Aung Soe Moe Press, 1993.

____. Vipassana-shu-nee-kyam. Vols. I& II. Tangoon: Buddhasasanamuggaha Org. Press, 1999.

Sayadaw, Mula Gandharone. *Nibbanamagga-Dipani*. Rangoon, Bruma: Department of Religious Affairs,1978.

Sayadaw, Shew Kyin. *Gambhiragambhira Mahanibbuta-Dipani*. Rangoon, Bruma: Department of Religious Affairs,2000.

Sayadaw, U Silanada. *The Four Foundations of Mindfulness*. Boston: Wisdom Publications, 1990.

*Silakkhandha-vagga Pali*, Digha-Nikaya. Rangoon, Bruma: Department of Religious Affairs,1993.

*Silakkhandha-vagga-athakatha*, Digha-Nikaya. Rangoon, Bruma: Department of Religious Affairs,1975.

Sayadaw Vasetthabhivamsa. *New Paritta-Nissaya*. Rangoon: Soe Moe Press, 1992.
Sayasaw, Vicittasarabhivamsa. *Mahabuddhavam: The Great Chronicle of Buddhas*. Vol. I, Parts I & II. Rangoon, Bruma: Department of Religious Affairs,1984.
_____. *Mahabuddhavam: The Great Chronicle of Buddhas*. Vol. III. Rangoon, Bruma: Department of Religious Affairs,1985.
_____. *Mahabuddhavam: The Great Chronicle of Buddhas*. Vol. VI, Parts I. Rangoon, Bruma: Department of Religious Affairs,1986.
Sayadaw, Visudharama. *Paramattha Sarupa Bhedani Kyam*, Vol. I. Rangoon, Bruma: Department of Religious Affairs,1968.
_____. *Paramattha Sarupa Bhedani Kyam*, Vol. II. Rangoon, Bruma: Department of Religious Affairs,1969.
*Subodhalankara-Tika*. Rangoon, Bruma: Department of Religious Affairs,1973.
Sumangalasami-thera, Baddanta. *Abhidhammatthavibhavini-tika.* Rangoon, Bruma: Department of Religious Affairs,1981.
*Suttanipata Pali, Khuddaka-Nikaya*. Rangoon, Bruma: Department of Religious Affairs,1990.
*Tin, P Maung, trans*. *The Expositor: Atthasalini-atthakatha*. Oxford: Pali Text Society, 1999.
*Upasena*-thera, Baddanta. Mahaniddesa-atthakatha. Rangoon, Bruma: Department of Religious Affairs,1959.

Yu-Lan, Fung. *A Short History of Chinese Philosophy*. New York: The Free Press, 1976.
Yoshinori, Takeuchi, ed. *Buddhist Spirituality; Indiam, Southease Asian, Tibetan, Early Chinese*. Vol. I. New York: Crossroad, 1997.
_____. *Buudhist Spirituality: Later China, Korea, Japan, and the Modern World.* Vol. II. New York: Crossroad, 1999.
Xavier, Francis R "*Creation in Evolution" Indian Theological Studies*. XXXVIII,1 (March 2001): 44-69.